



ဗုဒ္ဓ၏

# ဧတဒဂ်ရ အမျိုးသမီးများ

ဦးအောင်သိမ်းမြတ်

(ဆင်ဖြူကျွန်းအောင်သိန်း)

## ဒို့တာဝန်အရေးသုံးပါး

- ပြည်ထောင်စု မပြိုကွဲရေး ဒို့အရေး
- တိုင်းရင်းသားစည်းလုံးညီညွတ်မှုမပြိုကွဲရေး ဒို့အရေး
- အချုပ်အခြာအာဏာတည်တံ့ခိုင်မြဲရေး ဒို့အရေး

## ပြည်သူ့သဘောထား

- ပြည်ပအားကိုးပုဆိန်ရိုး အဆိုးမြင်ဝါဒီများအား ဆန့်ကျင်ကြ။
- နိုင်ငံတော်တည်ငြိမ်အေးချမ်းရေးနှင့် နိုင်ငံတော်တိုးတက်ရေးကို နှောင့်ယှက် ဖျက်ဆီးသူများအား ဆန့်ကျင်ကြ။
- နိုင်ငံတော်၏ ပြည်တွင်းရေးကို ဝင်ရောက်စွက်ဖက်နှောင့်ယှက်သော ပြည်ပနိုင်ငံများအား ဆန့်ကျင်ကြ။
- ပြည်တွင်းပြည်ပ အဖျက်သမားများအား ဘုံရန်သူအဖြစ် သတ်မှတ်ချေမှုန်းကြ။

## နိုင်ငံရေးဦးတည်ချက် (၄) ရပ်

- နိုင်ငံတော်တည်ငြိမ်ရေး၊ ရပ်ရွာအေးချမ်းသာယာရေးနှင့် တရားဥပဒေစိုးမိုးရေး
- အမျိုးသားပြန်လည်စည်းလုံးညီညွတ်ရေး
- ခိုင်မာသည့်ဖွဲ့စည်းပုံအခြေခံဥပဒေသစ်ဖြစ်ပေါ်လာရေး
- ဖြစ်ပေါ်လာသည့် အခြေခံဥပဒေသစ်နှင့်အညီ ခေတ်မီဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်သစ်တစ်ရပ် တည်ဆောက်ရေး

## စီးပွားရေးဦးတည်ချက် (၄) ရပ်

- စိုက်ပျိုးရေးကိုအခြေခံ၍ အခြားစီးပွားရေးကဏ္ဍများကိုလည်း ဘက်စုံ ဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး
- ဈေးကွက်စီးပွားရေးစနစ် ပီပြင်စွာဖြစ်ပေါ်လာရေး
- ပြည်တွင်းပြည်ပမှအတတ်ပညာနှင့် အရင်းအနှီးများဖိတ်ခေါ်၍ စီးပွားရေးဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး
- နိုင်ငံတော်စီးပွားရေးတစ်ရပ်လုံးကို ဖန်တီးနိုင်မှုစွမ်းအားသည် နိုင်ငံတော်နှင့် တိုင်းရင်းသား ပြည်သူတို့၏ လက်ဝယ်တွင်ရှိရေး

## လူမှုရေးဦးတည်ချက် (၄) ရပ်

- တစ်မျိုးသားလုံး၏ စိတ်ဓာတ်နှင့် အကျင့်စာရိတ္တမြင့်မားရေး
- အမျိုးဂုဏ်၊ ဇာတိဂုဏ် မြင့်မားရေးနှင့် ယဉ်ကျေးမှုအမွေအနှစ်များ အမျိုးသားရေးလက္ခဏာများ မပျောက်ပျက်အောင်ထိန်းသိမ်းစောင့်ရှောက်ရေး
- မျိုးချစ်စိတ်ဓာတ် ရှင်သန်ထက်မြက်ရေး
- တစ်မျိုးသားလုံး ကျန်းမာကြံ့ခိုင်ရေးနှင့် ပညာရည်မြင့်မားရေး

ပုဂံစာအုပ် အမှတ် ၂၆၀

# ဗုဒ္ဓ၏ တေဒဂ်ရ အမျိုးသမီးများ

ဦးအောင်သိမ်းမြတ်

(ဆင်ဖြူကျွန်းအောင်သိန်း)




အခန်း ၁၃၊ တိုက် ၂၅၇၊ ရန်ကင်းမြို့နယ်

ရန်ကုန်မြို့၊ ဖုန်း ၀၁-၇၂၁၁၂၄

၂၆-၁-၀၇

**ပုဂံစာအုပ်တိုက်** မှ

၂၀၀၄ ခုနှစ်တွင် ထုတ်ဝေပြီးသော စာအုပ်များ

---

၂၅၆။ မိုဗီဒစ် (နတ်နွယ်)
(Moby-Dick by Herman Melville)
၂၅၇။ နေမင်းလမင်းသိန်းရာထောင် (ချစ်ဦးညို)
၂၅၈။ မျက်ရည်စများနှင့် ရယ်သံ (ကျော်လှိုင်ဦး)
(Tears And Laughter by Khalil Gibran)
၂၅၉။ ထောင်တစ်သက်အတွေ့အကြုံ (ရန်အောင်မောင်မောင်)

**ယခု**

၂၀၀၄ ခုနှစ် ဇွန်လတွင် ထုတ်ဝေသော စာအုပ်

---

၂၆၀။ ဗုဒ္ဓ၏ ဇာတဒဂ်ရ အမျိုးသမီးများ (ဦးအောင်သိမ်းမြွတ်)

**ပုဂံစာအုပ်တိုက်** မှ

၂၀၀၄ ခုနှစ်အတွင်း ဆက်လက်ထုတ်ဝေမည့် စာအုပ်များ

---

၂၆၁။ ကျိန်စာသင့်သောမျက်နှာများ၏ မိတ္တူ [ ကဗျာများ ](မျိုးကိုမျိုး)
(၃၇/ ၂၀၀၃) (၇)
၂၆၂။ တိမ်တိမ်တွေဖုံးပါလို့ အုန်းခြိမ့်ခြိမ့်ညံ (ချစ်ဦးညို)
(၉၆၄/ ၂၀၀၃)(၇)

# ဗုဒ္ဓ၏ တေဒဂ်ရ အမျိုးသမီးများ

## ဦးအောင်သိမ်းမြတ်


| | | |
|---|---|---|
| စာမူခွင့်ပြုချက်အမှတ် | ■ | ၃၁၉ / ၂၀၀၄ ( ၅ ) |
| ဘာသာရေးဆိုင်ရာ ခွင့်ပြုချက် | ■ | ၁၀၀ / ၂၀၀၄ ( ၃ ) |
| မျက်နှာဖုံးခွင့်ပြုချက်အမှတ် | ■ | ၂၈၄ / ၂၀၀၄ ( ၅ ) |
| ပုံနှိပ်ခြင်း | ■ | ပထမအကြိမ် |
| အုပ်ရေ | ■ | ၁၀၀၀။ |
| ထုတ်ဝေသူ | ■ | ခိုင်ခိုင်ဦး(ယာယီ ၈၇၉)၊ ပုဂံစာအုပ်တိုက် အခန်း:၁၃၊ တိုက်၂၅၇၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။ |
| မျက်နှာဖုံးနှင့်အတွင်းပုံနှိပ်သူ | ■ | ဒေါ်နီနီခိုင် (၀၇၁၃၅)၊ သီရိမေ ရောင်စုံပုံနှိပ်တိုက်၊ အမှတ် (၁၉)၊ လမ်း ၉၀၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်မြို့။ |
| မျက်နှာဖုံးပန်းချီ | ■ | ရွှေစိုးဟန် |
| အတွင်းကွန်ပျူတာစာစီ | ■ | ပုဂံစာအုပ်တိုက် |
| အတွင်းဖလင်ခွဲ | ■ | အေဇက် |
| အဖုံးဖလင်ခွဲ | ■ | Sunn Scangraphics |
| စာအုပ်ချုပ် | ■ | ဇမ္ဗူဒီပါ |
| တန်ဖိုး | ■ | ရှစ်ရာကျပ် |
| ဖြန့်ချိရေး | ■ | ပုဂံစာအုပ်တိုက်၊ အခန်း:၁၃၊ တိုက်၂၅၇၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့၊ ဖုန်း ၀၁- ၇၂၁၁၂၄။ |

# စာရေးသူ



စာရေးဆရာ ဦးအောင်သိမ်းမြတ်(ဆင်ဖြူကျွန်းအောင်သိန်း)ကို မကွေးတိုင်း၊ ဆင်ဖြူကျွန်းမြို့နယ်၊ ယမ်းဖိုကုန်းရွာတွင် အဖ ယာသမားကြီး ဦးရွှေစံနှင့် အမိ ဒေါ်ငွေစင်တို့မှ ၁၉၂၈ နိုဝင်ဘာ ၁၀ တွင် ဖွားမြင်ခဲ့သည်။ မွေးချင်း လေးယောက်တွင် စတုတ္ထဖြစ်ပြီး အမည်ရင်းမှာ ဦးကြည်အေး ဖြစ်သည်။

ဒုတိယကမ္ဘာစစ်မတိုင်မီက ဆင်ဖြူကျွန်း ဒိစတြိတ်ကောင်စီ အထောက်ပံ့ခံ မူလတန်းကျောင်းနှင့် ဆင်ဖြူကျွန်း ဦးဖိုးသိန်း အလယ်တန်း ကျောင်းတို့တွင် မူလတန်းနှင့် အလယ်တန်းပညာများ သင်ခဲ့၏။ ဒုတိယ ကမ္ဘာစစ်အတွင်းက ဆင်ဖြူကျွန်း ဆရာနွယ် အထက်တန်းကျောင်းတွင် အထက်တန်းပညာသင်ခဲ့သည်။ ၁၉၅၅တွင် ဝွတ္တလစ်ကျောင်းသားဂုဏ်ရည်

အလွတ်ပညာသင်ကျောင်း၌ ဆက်လက် ပညာသင်ယူခဲ့ရာ ၁၉၅၇ တွင် တက္ကသိုလ်ဝင် စာမေးပွဲအောင်ခဲ့သည်။

၁၉၅ဝ–၅၁ တွင် မြေပြင်ပစ် အမြောက်ကြီးတပ် တပ်ရင်း ၁ ၌ တပ်သားအဖြစ် ၁၉၅၃ အထိ အမှုထမ်းခဲ့သည်။ ထို့နောက် ၁၉၅၇–၅၈ တွင် 'ရုပ်ရှင်ပဒေသာ' မဂ္ဂဇင်းတာဝန်ခံအယ်ဒီတာ၊ ၁၉၅၈–၅၉တွင် 'ရုပ်ရှင်လောက'၊ 'ယနေ့ရုပ်ရှင်'နှင့် 'နတ်သျှင်နောင်' စာစောင်တို့တွင် တာဝန်ခံအယ်ဒီတာ၊ ၁၉၆၃ တွင် 'တံခွန်ဂျာနယ်' အယ်ဒီတာအဖွဲ့ဝင်၊ ၁၉၆၄–၆၅ တွင် 'ကာနယ်ဇင်း'၌ တာဝန်ခံအယ်ဒီတာအဖြစ် အမှုထမ်းခဲ့သည်။

မြန်မာနိုင်ငံ စာရေးဆရာအသင်း၊ စာရေးဆရာ စာပေကလပ်၊ ပြည်ထောင်စုမြန်မာနိုင်ငံ စာရေးဆရာသမဂ္ဂ၊ မြန်မာနိုင်ငံ စာပေပြန့်ပွားရေးအသင်း၊ မြန်မာနိုင်ငံ စာပေဝါသနာရှင်အဖွဲ့၊ ကမ္ဘာ့ငြိမ်းချမ်းရေး ကွန်ဂရက် (မြန်မာနိုင်ငံ)၊ စာပေလုပ်သားအဖွဲ့၊ စာပေနှင့် စာနယ်ဇင်းအဖွဲ့ တို့တွင် ပါဝင်ဆောင်ရွက်ခဲ့သည်။

၁၉၅၉ မှ ၁၉၆ဝ အထိ ရုပ်ရှင်ဇာတ်လမ်း မှတ်တမ်းတင်သူ၊ တွဲဖက်ဒါရိုက်တာ စသည်ဖြင့် လုပ်ကိုင်ခဲ့သည်။

၁၉၅၁တွင် '**ရွှေဇင်**'ကလောင်အမည်ဖြင့် 'တိုင်းသစ်ဂျာနယ်'တွင် ကဗျာများ စရေးခဲ့သည်။ ၁၉၅၃တွင် '**ဆင်ဖြူကျွန်းအောင်သိန်း**'ကလောင်အမည်ဖြင့် ကဗျာများ စရေးသည်။ ၁၉၅၃ သွေးသောက်မဂ္ဂဇင်းပါ 'စွပ်ကြယ်'သည် ဆင်ဖြူကျွန်းအောင်သိန်း၏ ပထမဆုံး ဝတ္ထုတို ဖြစ်သည်။ 'လွမ်းယမုံဦး' (၁၉၅၇)သည် သူ၏ ပထမဆုံး လုံးချင်းဝတ္ထု ဖြစ်သည်။ 'ကိုဆေးရိုး' အမိက ဇာတ်ဆောင်ပြု ဝတ္ထုများသည် သူ၏ ထင်ရှားသောဝတ္ထုတိုများ ဖြစ်၏။ ထိုဝတ္ထုတိုများကို ပေါင်း၍ 'ကိုဆေးရိုး' အတွဲ ရှစ်တွဲ ထုတ်ဝေခဲ့ပြီး ဖြစ်သည်။

ဆင်ဖြူကျွန်းအောင်သိန်း ကလောင်နာမည်အပြင် အမည်ရင်း

ဦးကြည်အေးဖြင့်လည်း စာအုပ်များ ရေးသားခဲ့သည်။ ဦးအောင်သိမ်းမြတ်၊ ဦးသိန်းဇံ၊ ဇင်အောင်၊ မင်္ဂလာစျင်အောင်၊ ဆီညော်စျင်အောင်၊ စိုင်းစျင်အောင် .... စသည်ဖြင့် ကလောင်အမည်ခွဲ ၂၀ ကျော်ဖြင့်လည်း ဝတ္ထုတို၊ ဆောင်းပါး များ ရေးသားခဲ့သည်။

၁၉၉၀ တွင် ကိုဆေးရိုး (၄) ဖြင့် အမျိုးသားစာပေ (ဝတ္ထုတိုပေါင်း ချုပ်) ဆု၊ ၁၉၉၆ တွင် ကိုဆေးရိုး (၆) ဖြင့် အမျိုးသားစာပေ (ဝတ္ထုတိုပေါင်း ချုပ်)ဆုတို့ကို ရရှိခဲ့သည်။ ၁၉၉၈ တွင် အရှေ့တောင်အာရှ စာပေဆု ချီးမြှင့် ခြင်း ခံရသည်။

ဆရာ ဦးအောင်သိမ်းမြတ် (ဆင်ဖြူကျွန်းအောင်သိန်း)သည် ယခု အခါ ရန်ကုန်မြို့၊ သာကေတမြို့နယ်၊ အရှေ့ ၇ ရပ်ကွက်တွင် နေထိုင်ရင်း စာပေများ ဆက်လက်ရေးသားလျက် ရှိသည်။

# ပဏာမနိဒါန်း

ပဥ္စဂုဏံ အဟံဝန္ဒာမိ။

ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးနှင့်တကွ မိဘဆရာသမား တို့အား ရိုသေမြတ်နိုး လက်စုံမိုး၍ ရှိခိုးပါ၏။

ဤကဲ့သို့ အနန္တဂိုဏ်းဝင် ကျေးဇူးရှင်တို့အား ရှိခိုးပြီးနောက် ဤ "ဗုဒ္ဓ၏ တေဒဂ်ရ အမျိုးသမီးများ"စာအုပ် ဖြစ်ပေါ်လာရပုံကို ဖော်ပြပါမည်။

ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း၌ မှီတင်းနေထိုင်ကြသည့် ထေရဝါဒ ဗုဒ္ဓဘာသာဝင် မြန်မာအမျိုးသမီးများသည် ပုဂံခေတ်ကတည်းက စာတတ်ပေတတ်များ၊ လောကုတ္တရာစာပေနှင့်ရင်းနှီးသူများ ဖြစ်ခဲ့ကြသည်။

ပုံစံတစ်ခုပြရသော် ကျစွာမင်းကြီး၏သမီးတော် သံပျင်မင်းသမီး ဖြစ်၏။

သံပျင်မင်းသမီး လောကုတ္တရာ စာပေများကို ကျွမ်းကျင်ပုံမှာ ရဟန်းတော်များအား စာချခဲ့သည်ဟူ၏။

ထိုမှတစ်ပါး ရပ်သူရွာသား အမျိုးသမီးများသည်လည်း ရေခပ်၊

စာအုပ်တိုက်

ထင်းခွေရင်းက ခရီးသွားများ၏ အမည်နာမကို မေး၏။ အမည်နာမကို ကြားရလျှင် "ဤအမည်ကား ဣတ္ထိလိင်ကြီးပါတကား"ဟု ဝေဖန်ပိုင်းခြား မြည်တမ်းကြသည်ဟူ၏။

ထိုသို့လျှင် စာတတ်ပေတတ်ဖြစ်ခဲ့ကြသော ထေရဝါဒ ဗုဒ္ဓဘာသာဝင် မြန်မာအမျိုးသမီးများသည် နှောင် နှစ်ပေါင်း ၉၀၀ခန့် ရှိသော အခါ အကြောင်းအမျိုးမျိုးကြောင့် လောကုတ္တရာစာပေနှင့် ဝေးသူ စိမ်းသူ များပြားလာသည်။

ကျေးလက်တေးတစ်ပုဒ်တွင် "နေပူလျှင် ဘိက္ခုလုပ်မယ် ဘန်းကုပ်နဲ့လေး"ဟူ၍ ပါရှိသည်။ ဤသည်ကို ကြည့်ခြင်းအားဖြင့် အမျိုးသမီး ရဟန်းတော်များအကြောင်း သိရှိသူများ နည်းပါးသွားပြီးလောဟု ခန့်မှန်းမိပါသည်။

မြန်မာတို့၏ လူ့အဖွဲ့အစည်းတွင် အမျိုးသမီးများသည် အခရာကျပါသည်။ သားသမီးများမှာ မိခင်နှင့်သာ အနေများရာ အမျိုးသမီးများ တော်မှ တတ်မှ တန်ကာကျပါလိမ့်မည်။ သို့အတွက် မြန်မာ အမျိုးသမီးများကို တတ်စေ၊ တော်စေချင်ပါသည်။ သိစေချင်ပါသည်။ အထူးသဖြင့် လောကုတ္တရာ စာပေဘက်တွင် သိစေချင်ပါသည်။

သို့ရာတွင် အမျိုးသမီးများသည် ကိုယ့်အကြောင်းကို ပို၍သိစေချင်ပါသည်။ ထိုအခါတွင် အချို့သော အမျိုးသားများပါ ပါဝင်လာပါသည်။ သူတို့သည် အမျိုးသမီးများအား အကြောင်းမဲ့ အထင်သေးကြ၏။

မြန်မာ့လူ့အဖွဲ့အစည်းတွင် အမျိုးသမီးများအား ခွဲခြားနှိမ့်ချမှု မပြုပါ။ မပြုကြောင်းကို ပုဂံခေတ်မိဖုရားစောမှ အင်းဝခေတ်ရှင်စောပု အထိ သမိုင်းများကို လေ့လာလျှင် သိနိုင်ပါသည်။ ထိုကာလများ တစ်လျှောက်တွင်လည်း အမျိုးသမီး ဒိုင်းခေါင်းများနှင့် အမျိုးသမီးသူကြီး၊ အမျိုးသမီး ဆယ်အိမ်ခေါင်းများအကြောင်းကိုလည်း သွားရင်းဟန်လွဲ တွေ့နိုင်ပါသည်။

ထိုသို့ ကျားမ မခွဲခြားသော မြန်မာ့လူ့အဖွဲ့အစည်းသည် ကျားမ မခွဲခြားသော ထေရဝါဒ ဗုဒ္ဓဘာသာနှင့် လွန်စွာအဆင်ပြေပါသည်။ သို့ပါလျက်နှင့် မရေရာသော အတွေးအယူများ ထိုးဖောက်ဝင်ရောက်လာသဖြင့် အမျိုးသားအချို့က အမျိုးသမီးများအား အထင်သေးလာကြသည်။ အမျိုးသမီး အများစုက အကြောင်းမဲ့ သိမ်ငယ်လာကြသည်။

အထင်မသေးပါနှင့်။ မသိမ်ငယ်ပါနှင့်။

အမျိုးသမီးများသည် အမျိုးသားများနည်းတူ မဂ်ဖိုလ်နိဗ္ဗာန်သို့ သွားနိုင်ရုံသာမက ဈာန်အဘိညာဉ်ရ ရဟန္တာမကြီးတွေ အထင်ကရ ဖြစ်ခဲ့ကြ၏။ ထိုအကြောင်းကို 'ခမ္မဒိန္နာ ထေရီ' အတ္ထုပ္ပတ္တိက ထင်ရှားစွာ ပြနေသည်။

ဥပ္ပလဝဏ် ထေရီအရှင်မသည် တန်ခိုးပြာဋိဟာပြပြီး တိတ္ထိတို့အား နှိမ်နင်းလိုကြောင်း ရှင်တော်မြတ်ဘုရားထံတော်၌ ခွင့်တောင်းသည်။ တန်ခိုးပြာဋိဟာကို မည်သို့ပြမည်နည်း မေးတော်မူသောအခါ သတ္တဝါတွေကို လက်ဝါးတစ်ဖက်ပေါ်၌ တင်ထားပြီး မဟာပထဝီ မြေကြီးကို ဖျာကဲ့သို့ လိပ်မည် ဟူသည့်အကြောင်းလည်း ပါဝင်သည်။

အမျိုးသမီးများသည် သာမန်ရဟန္တာမ မဟုတ်။ တန်ခိုးကြီးသော ရဟန္တာမကြီးများလည်း ဖြစ်ခဲ့သည်။ ပညာအရာ တန်ခိုးအရာ စသည်ဖြင့် အရာဌာန ၁၃ ရပ်၌ တေဒဂ်ရသော ရဟန္တာ အရှင်မကြီးများ ပေါ်ပေါက်ခဲ့ကြောင်း သိကြစေလိုသော စေတနာဖြင့် ဤစာကို ပြုစုပါသည်။

ဤစာကိုပြုစုသူသည် ၁၉၇၇ ခုနှစ် အောက်တိုဘာလတွင် ပရိတ်ကြီး ၁၁ သုတ်ကိုပင် "အာနုဘော်ကြီးမားသော မဟာပရိတ်တော်များ" အမည်ရှိသည့် စာအုပ်တစ်အုပ်ကို ပြုစုထုတ်ဝေခဲ့ဖူးပါသည်။ ပို၍ စိတ်ဝင်စားကြစေရန် ကိုယ်တွေ့များပါ ပူးတွဲဖော်ပြခဲ့ပါသည်။

ထိုစာအုပ်တွင်ပင် "နမက္ကာရ ဘုရားရှိခိုး" ကိုလည်း ပူးတွဲဖော်ပြခဲ့

ပါသည်။ မြတ်စွာဘုရားကိုယ်တော်မြတ်ကြီးအား မျက်ဝါးထင်ထင် ဖြစ်လာအောင် ဖွဲ့ဆိုထားသော ဘုရားရှိခိုးဖြစ်ကြောင်း သတိပြုမိကြစေချင်သော စေတနာဖြင့် ကြားဖူးနားဝ ဖြစ်ရပ်ကိုပါ ဖော်ပြခဲ့ပါသည်။

ဒုတိယစာအုပ်ကို ၁၉၇၈ ခုနှစ် ဖေဖော်ဝါရီလတွင် ပြုစုထုတ်ဝေဖြစ်ပြန်ပါသည်။ စာအုပ်၏အမည်မှာ "အနန္တတန်ခိုးတော်ရှင် ဗုဒ္ဓ" ဖြစ်ပါသည်။

ထိုစာအုပ်မှာ ဆယ်နှစ်ကျော် မျိုသိပ်ထားခဲ့ရသော စာအုပ်ဖြစ်ပေသည်။

လွန်ခဲ့သော ဆယ်နှစ်ကျော်ကာလက ပညတ်တော်ဆယ်ပါး အမည်ရှိ နိုင်ငံခြား ရုပ်ရှင်ကားတစ်ကား ရုံတင်ပြသခဲ့၏။ ထိုအထဲ၌ ပင်လယ်ရေပြင် ထက်ခြမ်းကွဲပုံပါဝင်၏။ မကြာမီ မြန်မာရုပ်ရှင်တစ်ကားက ထိုအခန်းမျိုး ရိုက်ကူးပြသသည်ကို တွေ့ရပါသည်။

ထေရဝါဒ ဗုဒ္ဓဘာသာတွင် သည့်ထက် အံ့ဖွယ်သရဲ အခြင်းအရာများ ရှိခဲ့ကြောင်းကို မသိ၍သာ ဖြစ်မည်။ သို့အတွက် ပေပေါ်တင်ပြီး ထုရာတွင် မာကြောသောသံထဲသို့ မြတ်စွာဘုရား၏ စွယ်တော် မြုပ်ဝင်သွားခန်းပါရှိသည့် လက်ဝဲအောက်ဓာတ် စွယ်တော်မြတ်သမိုင်း ဖြစ်ပါသည်။ အသိကို မျှဝေသည့် သဘောသာ ဖြစ်ပါသည်။

ယခု တတိယအုပ်မှာလည်း သိသမျှကို ကြိုးစားမျှဝေခြင်းသာ ဖြစ်ပါ၏။ တတ်လွန်း၍ကား မဟုတ်။ သိလွန်း၍ကားမဟုတ်ပါ။ ကြီးကျယ်သော ပညာရှင်များမှာ ကြီးကျယ်သော ကိစ္စရပ်များနှင့် မအားမလပ် ရှိနေကြပါသည်။ ထိုပညာရှင်များ၏ နောက်ပါးမှပါလာသူက တောက်တိုမယ်ရ အသေးအဖွဲ့များ ဝင်ရောက် လုပ်ကိုင်ပေးသည့် သဘောဖြစ်ပါသည်။

သို့ဖြစ်၍ မြန်မာအမျိုးသမီးများသည် သာသနာတော်၌ သာမန်ဘိက္ခုနီများသာ မဟုတ် "ဆိုင်ရာဂုဏ်ပုဒ်ရှိသူတို့တွင် အထူးမြတ်ဆုံးပုဂ္ဂိုလ်၊

ထိပ်ဆုံးပုဂ္ဂိုလ်" အဖြစ် ဧတဒဂ်ရရှိသူများလည်း ရှိခဲ့ပါသည်။ ထို့ပြင် အမျိုးသမီးရဟန္တာများသာမဟုတ် လူဝတ်ကြောင် အမျိုးသမီး ဥပါသိကာ (ဥပါသိကာ)များတွင်လည်း အံ့သြဖွယ်ရာသဒ္ဓါတရားထက်သန်သောကြောင့် ဧတဒဂ်ရသူ၊ မြတ်စွာဘုရားအား မဖူးမြင်ရပါဘဲလျက် တစ်ဆင့်ကြားဖြင့် ကြည်ညိုကာ သောတာပန်တည်သဖြင့် ဧတဒဂ်ရသူ စသည်များကို ဖတ်ရှုမိပါက အသိတိုးပွားခြင်းတွင် ရပ်တန့်မနေပါ။ မြင့်မြတ်သော စိတ်ဓာတ်များပါ ဖြစ်ပေါ်လာနိုင်ပါသည်။

ဦးအောင်သိမ်းမြတ်
(ဆင်ဖြူကျွန်းအောင်သိန်း)

၁၃၆၃ ခုနှစ် ဝါခေါင်လပြည့်နေ့၊
၃-၈-၂၀၀၁၊
တနင်္လာနေ့။

နမောတဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ

# (က)

# ရဟန္တာ ထေရီအရှင်မများ

## ၁။ ရတညုတေဒဂ်ရ ထေရီအရှင်မကြီး

မဟာပဇာပတိ ဂေါတမီ ထေရီအရှင်မကြီးသည်၊ မြတ်စွာဘုရား မယ်တော်၏ ညီမတော်ဖြစ်သောကြောင့် မြတ်စွာဘုရား၏အဒေါ် (မိထွေး) တော်စပ်ပါသည်။ သို့ကြောင့် ထိုအရှင်မကြီးအား မိထွေးတော် ဂေါတမီ ဟူ၍လည်း ခေါ်တွင်ကြပေသည်။

မိန်းမရဟန်း (ဘိက္ခုနီ)သာသနာကို တည်ထောင်သော၊ ဘိက္ခုနီသာသနာတော်၏ မယ်တော်ကြီး မဟာပဇာပတိ ဂေါတမီ ထေရီအရှင်မကြီးသည် 'ရတ္တညုတေဒဂ်' ရတော်မူသည်။ သူ၏ အတိတ်ဘဝကို ပြန်ပြောင်းလေ့လာသောအခါ ဤသို့ တွေ့ရပေသည်။

လွန်ခဲ့သော ကမ္ဘာတစ်သိန်းထက် သာရကမ္ဘာတွင် ပဒုမုတ္တရ မြတ်စွာဘုရား ထင်ရှားပွင့်တော်မူ၏။

ထိုအခါဝယ် မိထွေးတော်ဂေါတမီ လောင်းလျာသည် ဟံသာဝတီ

ပြည့်၌ မထင်ရှားသော အမျိုးဝယ်ဖြစ်၏။ အရွယ်ရောက်ချိန်ဝယ် မြတ်စွာဘုရား၏ကျောင်းတော်သို့ မပြတ်သွားကာ တရားတော်ကို နာယူလျက် သီတင်းသီလ စောင့်သုံး၏။

တစ်ရံရောအခါ ပဒုမုတ္တရမြတ်စွာဘုရား၏ မိထွေးတော်ဖြစ်သော ဘိက္ခုနီသည် နောက်လိုက်နောက်ပါ ဘိက္ခုနီများနှင့်အတူ မြတ်စွာဘုရား၏ တရားတော်ကို နာကြားနေကြသည်။ တရားတော်အဆုံးတွင် ပဒုမုတ္တရမြတ်စွာဘုရားသည် မိထွေးတော် ဘိက္ခုနီအား 'ရတ္တညျူ' တေဒဂ်အရာ၌ ထားတော်မူသည်။

မဟာပဇာပတိ ဂေါတမီလောင်းလျာသည် ထိုအရှင်မကြီးကဲ့သို့ ဖြစ်လိုသော အာသီသ ဖြစ်ပေါ်လာသည်။ သို့ကြောင့် ပဒုမုတ္တရမြတ်စွာဘုရား အမှူးရှိသော သံဃာတော်များအား အလှူကြီးပေးသည်။ ထို့နောက် မြတ်စွာဘုရားထံတော်ဝယ် ဤသို့ ဆုပန်ထွာ၏။

"ယခုပြုရသော ကောင်းမှုကံ စေတနာကြောင့် နောင် မြတ်စွာဘုရားတို့၏ သာသနာတော်၌ ဤဘိက္ခုနီမကဲ့သို့ မြတ်စွာဘုရား၏ မိထွေးတော်ဖြစ်ရာ အလားတူ တေဒဂ် ရ ရပါစေသော်"

ပဒုမုတ္တရ မြတ်စွာဘုရားသည် အနာဂတံသ ဉာဏ်တော်ဖြင့် ကြည့်တော်မူရာ ဒါယိကာမ၏ ဆုတောင်းပြည့်မည်ကို မြင်တော်မူသောကြောင့် ဗျာဒိတ်စကား မြွက်ကြားတော်မူ၏။

"ဒါယိကာမ၊ သင်သည် ငါဘုရားပွင့်တော်မူရာ သာရကမ္ဘာ၏ နောက် ကပ်တစ်သိန်းမြောက် ကျရောက်သော ဘဒ္ဒကမ္ဘာ၌ ဂေါတမမြတ်စွာဘုရား ထင်ရှားပွင့်တော်မူလတ္တံ့။ ထိုအခါ မဟာပဇာပတိ ဂေါတမီအမည်ရသော မြတ်စွာဘုရား၏ မိထွေးတော်ဖြစ်၍ အစ်မတော်၏သား ဘုရားလောင်းကို နို့တိုက်ကျွေးပြီး မွေးရလတ္တံ့"

ထိုဒါယိကာမသည် ထိုအခါမှ အစပြု၍ ဒါနသီလ တရားများကို

တိုးတက်ပြုလုပ်၏။ အသက်အတိုင်း နေခဲ့ပြီးနောက် စုတေလေသော် တာဝတိံသာ နတ်ပြည်၌ဖြစ်၏။ ထိုနတ်ဘဝမှ စုတေပြန်သောအခါ ဗာရာဏသီပြည်ဝယ် သူဌေးအိမ်၌ ဖြစ်၏။ သူဌေး၏ သူခစားငါးရာတို့ကို ကြီးကြပ်အုပ်ချုပ်ရသော "ဇေဋ္ဌကဒါသီ" အမည်တွင်သည်။

ဇေဋ္ဌကဒါသီ၏ လက်အောက်ခံ မိန်းမများသည် ၎င်းတို့၏ လင်သားများနှင့်အတူ အိမ်တစ်အိမ်တွင် နေထိုင်ကြကာ နေ့အခါတွင် အရှင့်အမှုကို ဆောင်ရွက်ကြ၏။ ကိုယ်ပိုင်ကိစ္စများကိုကား ညဥ့်အခါကျမှသာ ဆောင်ရွက်ကြရ၏။

ဝါလနီးသော နေ့တစ်နေ့ဖြစ်သည်။

ဂန္ဓမာဒနတောင်၌ သီတင်းသုံးတော်မူသော အရှင်ပစ္စေကဗုဒ္ဓါ ငါးပါးတို့သည် ဤအရပ်၌ ဝါကပ်တော်မူကြမည်ဖြစ်သဖြင့် ဝါဆိုကျောင်း ပြုပြင်ရန်ကိစ္စအတွက် သူဌေးအိမ်သို့ ကြွလာတော်မူကြ၏။ ဇေဋ္ဌကဒါသီမှာ ထိုအချိန်၌ ရေအိုးရွက်လျက် ရေဆိပ်သို့ ထွက်လာချိန်ဖြစ်၏။

ဇေဋ္ဌကဒါသီသည် လှည့်ကြည့်လှည့်ကြည့်ဖြင့် ရေဆိပ်သို့ သွားသည်။ ကမန်းကတန်းရေခပ်ပြီး ပြန်လာသောအခါ အရှင်မြတ်များ သူဌေးအိမ်မှ ပြန်ကြွလာကြသည်ကို တွေ့ရသဖြင့် ရေအိုးကိုချပြီး ရိုသေစွာ ရှိခိုးလျက် မေးလျှောက်၏။

"အရှင်ကောင်း အရှင်မြတ်တို့ဘုရား။ အရှင်တို့ဟာ သူဌေးအိမ်ကို အခုဝင်သွားပြီး အခုပဲ ပြန်ထွက်လာတာ ဘာကိစ္စရှိပါသတုန်းဘုရား"

"ဝါကပ်မည့် ဝါဆိုကျောင်း ပြုပြင်ရန်ကိစ္စ ဖြစ်ပေသည် ဒါယိကာမ"

"ရခဲ့ကြပါရဲ့လား ဘုရား"

"မရချေ။ သင့်လျော်ရာ၌ ရှာဖွေရဦးမည်"

သို့ကြောင့် ဇေဋ္ဌကဒါသီက စူးစမ်းလျှောက်ထားသည်။

"အရှင်မြတ်တို့ရဲ့ကျောင်းကို မင်းစိုးရာဇာနဲ့ သူဌေးသူကြွယ်များ ဆောင်ရွက်မှ ဖြစ်ပါသလားဘုရား။ တပည့်တော်မတို့လို သူခစား အမှုလုပ်တွေ ဆောင်ရွက်လို့ကော မဖြစ်နိုင်ဖူးလားဘုရား"

"မည်သူမဆို ပြုလုပ်ဆောင်ရွက် ပေးနိုင်ပေသည် ဒါယိကာမ"

ဇေဋ္ဌကဒါသီ ဝမ်းသာသွားသည်။ ဆက်လက်၍ ဝမ်းပမ်းတသာ လျှောက်ထားပြန်သည်။

"ဒါဆိုရင် တပည့်တော်မတို့ ကြိုးစားပြီး ကျောင်းကိုပြုပြင်ပါရစေဘုရား။ နက်ဖြန်အတွက်လည်း တပည့်တော်မတို့ရဲ့ ဆွမ်းအလှူကို ခံယူတော်မူပါဘုရား"

အရှင်ကောင်း အရှင်မြတ်များသည် သည်းခံ၍ ကြွသွားတော်မူကြ၏။ ဇေဋ္ဌကဒါသီလည်း အိမ်သို့ ဝမ်းမြောက်စွာပြန်လာသည်။ သူ့လက်အောက်ခံ အမှုလုပ်မိန်းမများကို စုရုံးကာ မေးသည်။

"ရှင်မတို့။ ကျွန်အဖြစ်က လွတ်ချင်သလား၊ မလွတ်ချင်ဖူးလား"

"ဘယ့်နှယ်ပြောပါလိမ့်။ အခွင့်ရရင် အခုတောင် လွတ်ချင်ပါတယ်"

အမှုလုပ်မိန်းမများက အားတက်သရော ဖြေကြသောအခါ ဇေဋ္ဌကဒါသီက ဤသို့ရှင်းပြ၏။

"ငါတို့တစ်တွေဟာ ရှေးတုန်းက ပုညအထူး ဆည်းပူးသမှု မပြုခဲ့ကြလို့၊ အခုဘဝမှာ သူတစ်ပါးကျွန် ဖြစ်ရတာ မဟုတ်လား။ ကုသိုလ်အစုကောင်းမှုဥစ္စာ ရတနာကသာ ငါတို့ကို တော်လှန်နိုင်အောင် စွမ်းဆောင်နိုင်လိမ့်မယ်"

အမှုလုပ်များသည် ဇေဋ္ဌက ပြောမည့်စကားကို စိတ်အား ထက်သန်စွာ နားစွင့်နေကြသည်။

"အဲသည်တော့၊ ကျောင်းပြုပြင်ဖို့ ဟတ္ထကံရှာဖွေတဲ့ ပစ္စေကဗုဒ္ဓါ

အရှင်မြတ်တို့ကို နက်ဖြန်အတွက် ငါဆွမ်းဖိတ်ခဲ့ပြီ။ ပြီးတော့ ရှင်မတို့ရဲ့ လင်တွေကိုလည်း စိတ်ကြည်လင်အောင် ဖျောင်းဖျပြောဆိုပြီး အရှင်ကောင်းတို့အတွက် ဝါဆိုကျောင်းတွေ ပြုပြင်ကြရအောင်”

အမှုလုပ်မိန်းမျာသည် ဝမ်းမြောက်စွာ သဘောတူကြ၏။ အလုပ်ခွင်မှ ပြန်ရောက်လာသော လင်များကိုလည်း ထိုအကြောင်းကို ပြောပြကြရာ လင်ယောကျ်ားတို့သည် သဒ္ဓါသောစိတ်ဖြင့် ရွှင်လန်းဝမ်းမြောက်ကြရ၏။ ထို့နောက် ဧဋ္ဌကဒါသီ၏အိမ်၌ စုဝေးကြကာ တပျော်တပါး ဆွမ်းဘောဇဉ်များ ချက်ပြုတ်ကြသည်။ နံနက် လင်းချိန်တွင် ကြွလာတော်မူကြသော ပစ္စေကဗုဒ္ဓါ အရှင်မြတ်များအား သဒ္ဓါရွှင်လန်း ဝမ်းမြောက်စွာ လောင်းလှူကြ၏။

ထိုမှတစ်ဖန် သူတို့သည် ရှေး ရှိရင်းကျောင်းနေရာကို မေးမြန်းလျှောက်ထားကာ စုပေါင်းမွမ်းမံပြင်ဆင်ကြ၏။ ထို့ပြင် ထပ်မံ၍လည်း စင်္ကြံ၊ မဏ္ဍပ်၊ ဇရပ်၊ တဲနန်း၊ နေ့သန့်ရာ၊ ညဉ့်သန့်ရာ နေရာများကို အသစ်ဆောက်လုပ် လှူဒါန်းကြသည်။

ဧဋ္ဌကဒါသီ အမှူးပြုသော အမှုလုပ်များသည် ထိုအရှင်မြတ်တို့ သီတင်းသုံးနေသော ဝါတွင်းသုံးလပတ်လုံး အလှည့်အလှယ်ထားလျက် နှစ်ပါးသောပစ္စည်း(ဆွမ်း၊ ဆေး)တို့ဖြင့် လှူဒါန်းပူဇော်ကြ၏။ ဝါလ ကင်း၍ အရှင်မြတ်တို့ ကြွတော်မူကြမည်ရှိသောအခါ အသပြာတစ်ရာ စုဆောင်းထည့်ဝင်ကြပြီးလျှင် တိစီဝရိတ်သင်္ကန်းများ လှူဒါန်းကြပြန်သည်။

သို့ဖြစ်သောကြောင့် သူတို့သည် အသက်အတိုင်း နေခဲ့ပြီးနောက် စုတေသောအခါ တုသိတာနတ်ပြည်၌ ဖြစ်ကြ၏။ ဧဋ္ဌကဒါသီမှကား ထိုနတ်ပြည်မှ စုတေသောအခါတွင် ဗာရာဏသီပြည်အနီးရှိ ရက်ကန်းသည်ရွာ၌ ဖြစ်လာ၏။ ရက်ကန်းသည်ငါးရာတို့ကို ကြီးမှူးရသော ရက်ကန်းသည်ကြီး၏သမီးအဖြစ်ဖြင့် အရွယ်ရောက်ချိန်ဝယ် သူကြွယ်တစ်ဦး၏ မယားဖြစ်

လာလေ၏။

တစ်ရံရောအခါဝယ် ရက်ကန်းသည်သမီး သူကြွယ်မယားသည် ကြုံတောင့်ကြုံခဲ အခွင့်အရေးကိုရ၏။ ယင်းမှာ ပဒုမဝတီမိဖုရား၏သား ပစ္စေကဗုဒ္ဓါရှင်မြတ်တို့အား လုပ်ကျွေးခွင့် ရခြင်းဖြစ်၏။ ထိုအရှင်ကောင်း အရှင်မြတ်တို့အား ဝါတွင်းသုံးလပတ်လုံး ဆည်းကပ်လုပ်ကျွေးသော ကောင်းမှုကံ စေတနာသည် ထိုဒါယိကာမ ကွယ်လွန်သောအခါ အထက် နတ်ရွာသို့ပင် ထပ်မံပို့ဆောင်ပေးပြန်၏။

ထိုဒါယိကာမသည် လူ့ပြည်နတ်ပြည်တို့သို့ ကမ္ဘာတစ်သိန်း ကာလပတ်လုံး လှည့်လည်စံစားခဲ့ပြီးနောက်၊ ဘိုးတော်အဥ္စနမင်း၏ မိဖုရား ကြီးဖြစ်သော ယသော်ဓရာ၏ဝမ်းဝယ် ကိန်းအောင်းလာသည်။ မိဖုရားကြီး မှ ဖွားမြင်လာသော သမီးတော်သည် ရွှေအဆင်းကဲ့သို့ လှပ၏။ အမည်မှည့် သည့်နေ့တွင် လက္ခဏာဖတ် ပညာရှိများက ဤသို့ ဟောကြားကြ၏။

"ဤသတို့သမီးသည် အကယ်၍ သားယောကျ်ား ဖွားမြင်မူ စကြ ဝတေးမင်းဖြစ်လတ္တံ့။ သမီးမိန်းမ ဖွားမြင်သော်ကား စကြဝတေးမင်း၏ မိဖုရား ဖြစ်လတ္တံ့"

ဤသို့ဖြင့် ထိုစကားကို အစွဲပြုလျက် 'မြတ်သော သမီးသား တို့၏ မိခင်ဖြစ်မည့်သူ' ဟု အဓိပ္ပာယ်ရသော 'မဟာပဇာပတိဂေါတမီ'ဟူ၍ အမည်ပေးကြသည်။ မဟာပဇာပတိ ဂေါတမီမင်းသမီး အရွယ်ရောက်သော အခါ ကပိလဝတ်ပြည့်ရှင် သုဒ္ဓေါဒနမင်းနှင့် အစ်မတော် သီရိမဟာမာယာ နှင့်အတူ ထိမ်းမြားမင်္ဂလာ ဆောင်နှင်းသည်။

ငါတို့ဆရာ ဂေါတမမြတ်စွာဘုရား အလောင်းတော်သည် နတ် ဘဝမှ စုတေပြီးနောက် မဟာမာယာ မိဖုရားကြီး၏ ဝမ်းဝယ် စွဲဝင်သန္ဓေ နေတော်မူသောအခါ သုဒ္ဓေါဒနမင်းသည် မဟာပဇာပတိဂေါတမီအား အဂ္ဂ မဟေသီ မိဖုရားကြီးအရာ၌ ထားတော်မူ၏။ ထိုသို့ထားတော်မူပြီး မကြာမီ

တွင် ဖွားသောသားကား 'နန္ဒ' မင်းသားပေတည်း။

များမကြာမီပင် သီရိမဟာမာယာ မိဖုရားကြီးမှ မြတ်စွာဘုရား အလောင်းတော် သိဒ္ဓတ္ထကုမာရကို ဖွားမြင်တော်မူသည်။ ဖွားမြင်ပြီးနောက် ခုနစ်ရက်မြောက်နေ့တွင် မြတ်စွာဘုရားအလောင်း၏ မယ်တော်တို့ ထုံးစံအတိုင်း မဟာမာယာမိဖုရားကြီး နတ်ရွာစံတော်မူ၏။ ထိုအခါ မဟာပဇာပတိ ဂေါတမီမိဖုရားကြီးမှာ သားတော်အရင်း နန္ဒကုမာရအား နို့ထိန်းတို့ထံ လွှဲအပ်ထားပြီး ကိုယ်တော်တိုင်မှာမူ သိဒ္ဓတ္ထကုမာရအား နို့တိုက်မွေးမြူခဲ့ရ ပေသည်။

မြတ်စွာဘုရား အလောင်းတော် သိဒ္ဓတ္ထမင်းသားသည် အရွယ်သို့ ရောက်တော်မူသောအခါ ယသော်ဓရာဒေဝီနှင့် ထိမ်းမြားမင်္ဂလာ ဆောင်နှင်းသည်။ သားတော်ရာဟုလကို ဖွားမြင်သောနေ့၏အဆုံးတွင် ထီးနန်းစည်းစိမ်ကို စွန့်ပစ်ကာ တောထွက်တော်မူသည်။

ဒုက္ကရစရိယအကျင့်ကို ဖြောက်ကျင့်ပြီးနောက် မဇ္ဈိမပဋိပဒါလမ်းစဉ်သို့ ပြောင်းလွဲကျင့်တော်မူမှသာ သုံးလောကထွတ်ထား သဗ္ဗညု မြတ်စွာဘုရားအဖြစ်သို့ ရောက်တော်မူသည်။

လူနတ်ဗြဟ္မာသတ္တဝါတို့၏ဆရာဖြစ်တော်မူသော မြတ်စွာဘုရားသည် ဝေဿလီပြည်သို့ တပည့်သား သံဃာတော်များခြံရံလျက် ကြွရောက်တော် မူလာကာ ပြည်သူတို့ဦကျရောက်နေသော ရန်မာန် အန္တရာယ်များကို ပယ်ရှားပေးတော်မူပြီးနောက် ရာဇဂြိုလ်ပြည်သို့ ပြန်လည်ကြွမြန်းလာကာ စတုတ္ထဝါ ကပ်တော်မူသည်။

ထို့နောက် ဝါလ ကင်းလွတ်ချိန်တွင် မြတ်စွာဘုရားသည် ဝေဿလီပြည်သို့ သံဃာတော်များ ခြံရံလျက် ကြွရောက်တော်မူလာပြန်သည်။ ထိုပြည်တွင် မြတ်စွာဘုရား သီတင်းသုံးတော်မူ၍ တစ်လကျော် ကြာမြင့်ချိန်ဝယ်၊ ကပိလဝတ်ပြည်မှ အမတ်တစ်ယောက် ရောက်လာသည်။ "အရှင့်

ခမည်းတော် အသည်းအသန် ဖြစ်နေပါတယ်ဘုရား" ဟု လျှောက်ကြား သည်။ သို့အတွက် ရှင်တော်မြတ်ဘုရားသည် သံဃာတော်အပါး ၅၀၀ ဖြင့်သာ ကပိလဝတ်ပြည်သို့ ကြွရောက်တော်မူလာသည်။

ကပိလဝတ်ပြည် နိဂြောဓာရုံကျောင်း၌ မြတ်စွာဘုရား သီတင်း သုံးတော်မူ၍ သုံးရက်အကြာတွင် ခမည်းတော်မင်းကြီးသည် နတ်ရွာစံတော် မူ၏။ သို့ရာတွင် သံသရာ လမ်းပြတ်၍ အရဟတ္တဖိုလ်ရ ပုဂ္ဂိုလ်အဖြစ်ဖြင့် ပရိနိဗ္ဗာန် စံဝင်ခြင်းဖြစ်သည်။

ထိုအချိန်ဝယ် မဟာပဇာပတိ ဂေါတမီ မိဖုရားကြီးအတွက် တွယ်ငြိစရာများ မရှိတော့ပြီ။ သူကိုယ်တိုင် နို့တိုက်ကျွေးကာ မွေးမြူခဲ့သော သိဒ္ဓတ္ထမင်းသားမှာ လောကမှန်ကူ သယမ္ဘူ မြတ်စွာဘုရား ဖြစ်နေပြီ။ သားတော်နန္ဒနှင့် မြေးတော်ရာဟုလာတို့လည်း သာသနာတော်တွင်း၌ ပျော် မွေ့နေကြပြီ။ နောက်ဆုံးငဲ့ကွက်စရာဖြစ်သော လင်မှာလည်း လူ့လောက မှသာမက သံသရာမှပါ ထွက်မြောက်သွားပြီ။

သို့အတွက် မိဖုရားကြီးသည် သားတော်များနှင့် မြေးတော်များ၏ လမ်းကို လျှောက်လှမ်းကျင့်သုံးရန် အကြံရသည်။ သို့အတွက် သားဘုရား ထံတော်သို့ ချဉ်းကပ်ပြီး လျှောက်ထားသည်။

"ဘုန်းတော်ကြီးလှပါတဲ့ မြတ်စွာဘုရား။ သားတော်မြတ် ဟော ဖော် ညွှန်ပြဆုံးမတဲ့ သာသနာတော်မှာ တပည့်တော်မတို့ မာတုဂါမတွေဟာ အိမ်ရာထောင်တဲ့ လူ့ဘောင်က ခွာသန်းပြီး ရဟန်းပြုပါရစေဘုရား။ တပည့် တော်မက အစပြုပြီး မာတုဂါမတွေကို ရဟန်းပြုပေးတော်မူပါ"

ထိုအခါ ရှင်တော်မြတ်ဘုရား၏ တုံ့ပြန်မြွက်ဟစကားမှာ

"မယ်တော်၊ မြတ်စွာဘုရား၏ သာသနာတော်၌ မာတုဂါမတို့ ရဟန်းပြုခြင်းငှာ မသင့်။ မာတုဂါမတို့ ရဟန်းပြုလျှင်လည်း ရှည်မြင့်စွာ မစင်ကြယ်ရာ။ သို့ဖြစ်၍ မယ်တော်သည် ရဟန်းအဖြစ်ကို မနှစ်သက်လင့်"

ဟူ၍ ဖြစ်ပေသည်။

မယ်တော် မဟာပဇာပတိ ဂေါတမီသည် အားမလျှော့သေးမူ၍ ထပ်မံ လျှောက်ထား တောင်းပန်ပြန်သည်။ သုံးကြိမ် တောင်းပန်သော်ငြား ရှင်တော်မြတ်ဘုရားသည် မာတုဂါမများ မိန်းမရဟန်းအဖြစ် သာသနာ့ဘောင်သို့ ဝင်ရောက်ရေးကို ခွင့်ပြုတော် မမူချေ။

ဂေါတမီ မိဖုရားကြီးသည် သူအားထားသော သားဘုရား၏ ငြင်းပယ်မှုကြောင့် ဝမ်းပန်းတနည်းငိုကြွေးလျက် မြတ်စွာဘုရားထံတော်မှ ထွက်ခွာခဲ့ရငြား အားမလျှော့ပေ။ ကပိလဝတ်ပြည်မှ မြတ်စွာဘုရား ပြန်လည်ကြွမြန်းသွားပြီးနောက် ဝေသာလီပြည်သို့ ရောက်ရှိ သီတင်းသုံးနေတော်မူချိန်ဝယ် နောက်ပါ သာကီဝင်မင်းသမီး ငါးရာနှင့်အတူ ဝေသာလီပြည်သို့ လိုက်လာကြပြန်သည်။

ဤအကြိမ်တွင်ကား မဟာပဇာပတိ ဂေါတမီသည် မိဖုရားကြီး မဟုတ်တော့ပေ။ ခေါင်းရိတ်ထားပြီး ဖန်ရည်စွန်းသော အဝတ်ကို ဝတ်ထားပြီးဖြစ်ချေသည်။ ထို့အတူပင် သာကီဝင်မင်းသမီး ၅၀၀ လည်း ဆံကိုရိတ်ပယ်ပြီး ဖန်ရည်စွန်းသော အဝတ်ဖြင့်ချည်း ဖြစ်ကြသည်။

မည်သို့ပင် ဖြစ်စေကာမူ မှူးမတ်များအတွက်ကား မိဖုရားကြီးသည် မိဖုရားကြီးသာ ဖြစ်၏။ သို့ကြောင့် ရထားထမ်းစင် ဝေါများဖြင့် လိုက်ပါ ပို့ဆောင်ရန် စီစဉ်ကြ၏။ ဤသည်ကို မိဖုရားကြီး လက်မခံပါ။ ယာဉ်ရထား တစ်စုံတစ်ရာ စီးပြီးသွားလျှင် မြတ်စွာဘုရားအား မရိုသေရာ ကျရောက်လိမ့်မည် အကြောင်းပြချက်ဖြင့် ခြေကျင်လာကြခြင်း ဖြစ်သည်။

ထိုအခါ မြေပြင်ပေါ်တွင် ခြေကျင်မလျှောက်ဖူးသော မင်းသမီးများ၏ ခြေအစုံတို့မှာ ဖူးယောင်ပေါက်ပြဲလျက် သွေးအလိမ်းလိမ်း ဖြစ်ကုန်တော့သည်။ ခြေကျင်လျှောက်သော ခရီးမှာလည်း နီးနီးကပ်ကပ် မဟုတ်။ (မိုင် ၆၀၀ ကျော်) ၅၁ ယူဇနာ ဝေးကွာသော ခရီးဖြစ်ရကား၊ ဝေသာလီပြည်

ကူဋာဂါရကျောင်းတော် တံခါးဝသို့ ရောက်ချိန်ဝယ် သွေးသန်ရဲရဲဖြင့် ပစ်လဲ ကုန်တော့သည်။

သဒ္ဓါယုံကြည်စိတ်ဖြင့် ခြေကျင်လာခဲ့ကြစေကာမူ လက်ငင်း ကြုံတွေ့ရသောဒဏ်ကို မခံနိုင်ကြချေ။ ပင်ပန်းနာကျင်သောကြောင့် ညည်းတွားကြသည်။ ငိုကြွေးသူက ငိုကြွေးသည်။

ထိုငိုကြွေးသံများ၊ ညည်းညူသံများကို သတိပြုမိသူမှာ အရှင် အာနန္ဒာ ဖြစ်ပေသည်။ အရှင်မြတ်သည် မည်သူတွေနည်းဟု ထွက်ပြီး ကြည့်တော်မူရာ မိဖုရားကြီးနှင့် မင်းသမီးများကို တွေ့ရတော့သည်။

"ဒါယိကာမကြီး၊ ဘာဖြစ်လို့ ဝမ်းပန်းတနည်း ငိုယိုနေတာလဲ။ ဝေးလံကြမ်းတမ်းတဲ့ သည်ခရီးကို ဘာကိစ္စ လာခဲ့ကြတာလဲ"

"အရှင်ဘုရား။ တပည့်တော်မတို့ဟာ သားတော်မြတ်စွာဘုရားရဲ့ သာသနာတော်မှာ ရဟန်းပြုချင်ကြတဲ့အတွက် အဲဒါကို ခွင့်တောင်းဖို့ လာခဲ့ တာပါဘုရား"

"ဒါယိကာမကြီး၊ သည်မှာပဲ ခေတ္တခဏ သည်းခံပြီး ဆိုင်းငံ့နေ ကြဦး။ ရှင်တော်မြတ်ဘုရားကို လျှောက်ထားချေဦးမယ်"

ထိုသို့ နှစ်သိမ့်ထားခဲ့ပြီးလျှင် အရှင်အာနန္ဒာသည် မြတ်စွာဘုရား ထံသို့ ချဉ်းကပ်လျှောက်ထားသည်။

"ဘုန်းတော်ကြီးလှပါတဲ့ အရှင်မြတ်ကြီးဘုရား။ မယ်တော် မဟာ ပဇာပတိ ဂေါတမီ မိဖုရားနဲ့ သာကီဝင်မင်းသမီးငါးရာတို့ဟာ သူတို့ ဆံပင် တွေကို ရိတ်ဖြတ်ပြီး သာသနာတော်မှာ ရဟန်းပြုဖို့အတွက် ကျောင်းတော် တံခါးဝမှာ ရောက်နေကြပါတယ်ဘုရား။ ခြေဖဝါးက သွေးဒီးဒီးယိုစီးပြီး မြူမှုန်လိမ်းကျံတဲ့ကိုယ်နဲ့ ငိုယိုရှိုက်ငင်နေကြတာ မမြင်ဝံ့စရာပါပဲဘုရား"

မြတ်စွာဘုရားသည် ထိုအကြောင်းကို သိတော်မူပြီးဖြစ်သောငြား လျှောက်ထားသူရှိမှသာ မိန့်တော်မူ၏။

"ချစ်သား အာနန္ဒာ၊ ငါဘုရား၏ သာသနာတော်၌ မာတုဂါမတို့အား ရဟန်းပြုခွင့်ပေးရန် မသင့်လျော်ချေ။ အကယ်၍ မာတုဂါမတို့အား ရဟန်းပြုခွင့်ပေးစေကာမူ ရှည်လျားစွာ မစင်ကြယ်ရာ။ ထို့ကြောင့် မာတုဂါမတို့၏ ရဟန်းဖြစ်ခြင်းကို သင် အလိုမရှိလင့်"

"အရှင်ဘုရား၊ တပည့်တော် တောင်းပန်ပါတယ်ဘုရား။ အရှင်ဘုရားရဲ့ သာသနာတော်မှာ မာတုဂါမတွေကို ရဟန်းပြုခွင့် ပေးတော်မူပါဘုရား"

မြတ်စွာဘုရား ခွင့်ပြုတော် မမူပါ။

အရှင်အာနန္ဒာသည် သုံးကြိမ်တောင်းပန်၏။ မြတ်စွာဘုရားကလည်း သုံးကြိမ်လုံး ပယ်မြစ်တော်မူသည်။ ထိုအခါ အရှင်အာနန္ဒာသည် မဟာပဇာပတိ ဂေါတမီ မိဖုရားကြီး၏ ဂုဏ်ကျေးဇူးကို ချီးပလျှောက်ထားသည်။

"ဘုန်းတော် အလွန်တရာကြီးမြတ်တော်မူတဲ့ အရှင်ဘုရား။ အရှင်မြတ်ကြီး သိအပ်၊ ရအပ်၊ ဆုံးမအပ်တဲ့ သာသနာတော်မှာ မာတုဂါမတို့ဟာ ရဟန်းဖြစ်ဖို့ မထိုက်တန်လို့ပါလားဘုရား။ သူတို့တစ်တွေ ရဟန်းပြုပြီးတော့ မြင့်မြတ်တဲ့ သောတာပတ္တိဖိုလ်၊ သကဒါဂါမိဖိုလ်၊ အနာဂါမိဖိုလ်နဲ့ အရဟတ္တဖိုလ်တို့ကို မျက်မှောက်ပြုဖို့ မစွမ်းဆောင်နိုင်ကြလို့ပါလား ဘုရား။ တကယ်လို့ အဲသည်တရားတွေကို ရနိုင်ကြတယ်ဆိုရင်တော့ မာတုဂါမတွေကို ရဟန်းပြုဖို့ ခွင့်ပေးသင့်ပါတယ်ဘုရား"

အရှင်အာနန္ဒာသည် အကျိုးအကြောင်း တင်ပြလျှောက်ထားအပြီး လိုရင်းဖြစ်သော မယ်တော်ကြီးအကြောင်းကို ဆက်လက်လျှောက်ထား၏။

"အရှင်မြတ်ဘုရား၊ မယ်တော်မဟာပဇာပတိ ဂေါတမီမိဖုရားဟာ ကိုယ်တော်မြတ်ကို ကျေးဇူးအများကြီး ပြုခဲ့ပါတယ်ဘုရား။ အရှင်ဘုရား ငယ်စဉ်ကတည်းက ထိန်းယချီပိုးပြီး မြတ်နိုးတနာပြုခဲ့ပါတယ်။ နို့ချိုကျွေး

လို့ မွေးမြူခဲ့ပါတယ်ဘုရား။ ကိုယ်တော်မြတ်ကို ဝမ်းနဲ့လွယ်ပြီး မွေးတဲ့ မယ်တော်ရင်းနဲ့ ထက်အောက်ဆင်းတဲ့ မိထွေးချစ်လည်း ဖြစ်ပါပေတယ်။ မယ်တော်ရင်းထက် တိုးတက်ကဲပြီး အဆင်းရဲခံခဲ့ရသူလည်း ဖြစ်ပါတယ် ဘုရား။ ဒါလောက်ကျေးဇူးရှိတဲ့ ကျေးဇူးရှင်ကို အရှင်ဘုရား ခွင့်သနားတော် မမူဘူးဆိုရင် နောက်သားနောင်လာ လူတကာတို့ 'မာတုဂုဏ ဝိသေသ' (မိဘ၏ ဂုဏ်ကျေးဇူးအထူး)ကို မနှိုင်းဆကြဘဲ ရှိကြပါလိမ့်မယ်။ ဒါကြောင့် မယ်တော်မြတ်ကို ရဟန်းပြုခွင့် ပေးသနားတော်မူပါဘုရား"

သနားစဖွယ် ညိုးငယ်စွာ လျှောက်ထားသော အရှင်အာနန္ဒာအား၊ မြတ်စွာဘုရားသည် ဤသို့ မိန့်ကြားတော်မူ၏။

"ချစ်သားအာနန္ဒာ၊ ငါ၏မယ်တော် မဟာပဇာပတိ ဂေါတမီ မိဖုရားသည် ရှစ်ပါးသော ဂရုဓမ္မ (လေးစားစွာ လိုက်နာရမည့်၊ အလေးပြု အပ်သောတရား)ကို အသက်တည်သမျှ မကျူးလွန်ရအောင် အမြဲဖြည့်စွမ်း နိုင်သည် ဖြစ်အံ့။ ရဟန်းပြုခြင်းငှာ ငါ ခွင့်ပြုတော်မူမည်"

အဆိုပါ 'ဂရုဓမ္မရှစ်ပါး'မှာ၊

၁။ ဝါတော်တစ်ရာ ရပြီးသော ဘိက္ခုနီမဖြစ်စေကာမူ ယနေ့မှ ရဟန်းဝတ်သော ရဟန်းယောကျ်ားအား ညွတ်တွား ရှိသေရခြင်း။

၂။ ရဟန်းယောကျ်ား မရှိသော အရပ်ဒေသ၌ ဘိက္ခုနီမတို့ ဝါမဆို၊ ဝါမကပ်ရခြင်း။

၃။ ရဟန်းယောကျ်ားတို့ထံ နှစ်ပါးသောဓမ္မတို့ကို လခွဲတစ်ကြိမ် တောင်းပန်ရခြင်း။

၄။ ဝါကျွတ်သောအခါတွင် 'ဉဘတော' သံဃာ၌ ပဝါရဏာ ပြုရခြင်း။

၅။ 'ပက္ခမာနတ္တ'ကို နှစ်စဉ်မပြတ် ကျင့်ရခြင်း။

၆။ 'သိက္ခမာန်' အဖြစ်ဖြင့် ၂ နှစ်နေပြီးမှ၊ ဉဘတောသံဃာ၌

ဥပသမ္ပဒ ကံဆောင်ရခြင်း။

၇။ ရဟန်းယောကျ်ားတို့အား ပရိယာယ် စကားမျှဖြင့်လည်း မဆဲရေး မပြည်တမ်းရခြင်း။

၈။ ရဟန်းယောကျ်ားတို့ ဟောကြားဆုံးမသည်ကို လိုက်နာရခြင်း။

တို့ ဖြစ်ကြပေသည်။

အရှင်အာနန္ဒသည် အထက်ပါ ဂရုဓမ္မရှစ်ပါးကို မြတ်စွာဘုရားထံတော်၌ သင်ကြားနာခံခဲ့ပြီးလျှင် ကျောင်းတော်တံခါးဝ၌ စောင့်ဆိုင်းနေသော မယ်တော်နှင့် သာကီဝင်မင်းသမီးများထံသို့ ကြွလာသည်။ ထိုတရားများကို မယ်တော်မိဖုရားကြီးအား တစ်ဆင့် ဟောညွှန် ပြသတော်မူသည်။

"ကျေးဇူးတော်ရှင် မယ်တော်မိဖုရားကြီး။ ဤရှစ်ပါးသော ဂရုဓမ္မတို့ကို လုံ့လအားထုတ်၍ မယုတ်မယိုရအောင် အသက်ရှည်သမျှ ကျင့်ကြံလိုက်နာမည်ဟု ဝန်ခံလျှင် သာသနာတော်၌ မယ်တော်တို့ ရဟန်းဖြစ်လိမ့်မည်"

မဟာပဇာပတိဂေါတမီ မိဖုရားလည်း ဝမ်းမြောက်ဝမ်းသာဖြင့် တုံ့ပြန် လျှောက်ထားသည်။

"ချစ်သားအာနန္ဒ၊ အဲသည် အလေးပြုအပ်တဲ့ တရားရှစ်ပါးကို တပည့်တော်မ လိုက်နာကျင့်ဆောင်ပါမယ်။ အတူပါလာတဲ့ သာကီဝင်မင်းသမီးတွေကိုလည်း ကျင့်ဆောင်စေရပါစေ့မယ်ဘုရား"

အရှင်အာနန္ဒသည် ထိုအကြောင်းကို မြတ်စွာဘုရားအား လျှောက်ထားလေသည်။

"ချစ်သားအာနန္ဒ။ မာတုဂါမတို့သည် ရဟန်းအဖြစ်ကို ရ၍ ဂရုဓမ္မရှစ်ပါးကို ရိုသေလိုက်နာကြသည်ဖြစ်အံ့။ ငါဘုရား၏ သာသနာတော်သည် မာတုဂါမတို့၏ဘောင်၌ အနှစ်တစ်ထောင် ကာလပတ်လုံး တည်ရစ်

လတ္တံ့။ ထို့ကြောင့် မာတုဂါမတို့အား ရဟန်းပြုစေ

ထိုကဲ့သို့ ရှင်တော်မြတ်ဘုရား ရွှေနှုတ်တော်မှ "ဘိက္ခုနီ ဥပသမ္ပဒကံ"ကို ပညတ်တော်မူသဖြင့် မဟာပဇာပတိ ဂေါတမီ မိဖုရားကြီးနှင့် သာကီဝင်မင်းသမီး ငါးရာတို့ ရဟန်းအဖြစ်ကို ရကြ၏။

မဟာပဇာပတိ ဂေါတမီ ထေရီအရှင်မသည် မြတ်စွာဘုရားထံတော်မှ လျှောက်ပတ်သော ကမ္မဋ္ဌာန်းတရားကို သင်ယူပြီးလျှင် အစဉ်အတိုင်း အားထုတ်သဖြင့် လောကုတ္တရာတရား၏ အထွတ်သို့ ရောက်တော်မူသည်။ သာကီဝင်မင်းသမီး ထေရီငါးရာတို့မှာမူ နန္ဒကောဝါဒသုတ်ကို နာကြားအပြီးတွင် အရဟတ္တဖိုလ်သို့ ဆိုက်ရောက်တော်မူကြသည်။

(ရှင်တော်မြတ်ဘုရားသည် မာတုဂါမတို့အား သာသနာတော်အတွင်း၌ ရဟန်းပြုခွင့်ပေးရမည့်အကြောင်းကို ကြိုတင်သိမြင်ပါလျက် ကပိလဝတ်ပြည်တွင် ဂေါတမီမိဖုရားကြီး ခွင့်တောင်းစဉ်က အဘယ်ကြောင့် ခွင့်မပြုခဲ့သနည်း။ တစ်ဖန် ဆင်းရဲပင်ပန်းစွာဖြင့် ဝေသာလီပြည်သို့ လိုက်လာကြသောအခါတွင်လည်း မည်သည့်အတွက် အလွယ်တကူ ခွင့်မပြုသနည်း။ မာတုဂါမတို့၏ သဘောသဘာဝမှာ စစ်မှန်သော သဒ္ဓါတရား အလွန်နည်းပါးသောကြောင့် ဖြစ်သည်။ တစ်ဖန် မာတုဂါမတို့၏ သဒ္ဓါတရားသည် မတည်မြဲလှ။ ထို့ကြောင့် ခွင့်တောင်းလျှင်တောင်းခြင်း ခွင့်မပြုသေးဘဲ ခဲယဉ်းစွာလျှောက်ထားမှသာ ခွင့်ပြုတော်မူခြင်းဖြစ်သည်။ ထိုမှ တစ်ဖန် သာသနာတော်၌ ပို၍လေးစားစေရန်အတွက် ဂရုဓမ်ပညတ်ကို ထားတော်မူပြီးမှ ခွင့်ပြုတော်မူခြင်း ဖြစ်သည်။)

ဂေါတမီထေရီ အရှင်မကြီးသည် မြတ်စွာဘုရား၏ သာသနာတော်အတွင်းရှိ သင်္ကန်းဝတ် မိန်းမတို့တွင် အဦးအစလည်း ဖြစ်၏။

ဧတဒဂ်ထား၍ ချီးမြှောက်တော်မူသောအခါ မဟာပဇာပတိ ဂေါတမီထေရီအား ရတညူဧတဒဂ် (ဘိက္ခုနီ အပေါင်းတွင် သိက္ခာဝါအကြီးဆုံးဘွဲ့) ပေးတော်မူခြင်း ဖြစ်၏။

ဘိက္ခုနီသာသနာတော်ကို ဦးဆောင်တည်ထောင်တော်မူခဲ့သော မဟာပဇာပတိ ဂေါတမီ ရဟန္တာအရှင်မကြီးသည် သက်တော် ၁၂၀ ရှိသော နေ့တစ်နေ့တွင် ဤသို့ ဆင်ခြင်၏။

'အခု ငါ့အသက်ဟာ ၁၂၀ ရှိပြီ။ ရင့်ရော်ယိုယွင်းအိုမင်းလှပြီ။ မကြာမီ ပရိနိဗ္ဗာန် ပြုရတော့မည်။ မြတ်စွာဘုရားနဲ့တကွ၊ အဂ္ဂသာဝကကြီးနှစ်ပါး၊ သားတော်ရင်း အရှင်နန္ဒ၊ မြေးတော် အရှင်ရာဟုလာ၊ တူတော် အရှင်အာနန္ဒာထေရ်တို့ ပရိနိဗ္ဗာန် စံဝင်တာကိုလည်း ဖူးမြင်ခွင့် မရှိတော့ပါကလား။ ငါအခုလို အမတမည်ခေါ် ပြည်တော်အောင်ခန်း နိဗ္ဗာန်နန်းကို ခိုဝင်တော့မယ့်အကြောင်းကို ရှင်တော်မြတ်ဘုရားနဲ့တကွ အဂ္ဂသာဝကကြီးနှစ်ပါး၊ အရှင်မဟာကဿပ၊ အရှင်ကောဏ္ဍည၊ အရှင်မဟာကစ္စည်း၊ အရှင်အနုရုဒ္ဓါတို့ကို လျှောက်ထားပန်ကြားသင့်တယ်။ အရှင်နန္ဒ၊ အရှင်ရာဟုလာ၊ အရှင် အာနန္ဒာတို့ကိုလည်း ပန်ကြားမှ ဖြစ်မယ်'

အရှင်မကြီး ဂေါတမီထေရီကဲ့သို့ပင် သာကီဝင်မင်းသမီး ထေရီငါးရာနှင့် ခေမာထေရီ အရှင်မလည်း ပရိနိဗ္ဗာန်ပြုရန် အကြံဖြစ်ကြသည်။ ထိုအခါ မဟာပထဝီ မြေကြီးသည် ဟိန်းဟိန်းမြည်လျက် တုန်လှုပ်လေ၏။ မိုးချုန်းသံ၊ ပွဲတင်ဟည်းသံ၊ တော်လည်းသံတို့လည်း ပြင်းထန်ကျယ်လောင်စွာ တစ်ပြိုင်နက်တည်း ဖြစ်လေ၏။

ဤသို့ရှိစဉ်ဝယ် ဘိက္ခုနီကျောင်းတိုက်ကို စောင့်ရှောက်နေကြသော နတ်တို့လည်း ဂေါတမီထေရီနှင့် မိန်းမရဟန္တာတို့ ပရိနိဗ္ဗာန်ပြုတော့မည့်အကြောင်းကို သိရသဖြင့် ငိုကြွေးကြ၏။ နတ်တို့၏ ထိုငိုကြွေးသံကို ကြားရသော ဘိက္ခုနီများသည် လှုပ်လှုပ်ရှားရှားဖြစ်လျက်၊ အရှင်မကြီး

ဂေါတမီထံ ချဉ်းကပ်ကာ မေးမြန်းလျှောက်ထားကြ၏။ အရှင်မကြီးက လည်း ပရိနိဗ္ဗာန်ပြုတော့မည့်အကြောင်းကို ပြန်လည်မိန့်ကြားတော်မူပြီး ကျောင်းတိုက်မှ ထွက်တော်မူ၏။

"တပည့်တော်မတို့ ဘုန်းကံနည်းလှပါကလား။ ဂေါတမီ အရှင်မကြီးနဲ့ မိန်းမရဟန္တာငါးရာ ပရိနိဗ္ဗာန်ပြုသွားရင် သည်ကျောင်းတိုက်ကြီး ဆိတ်သုဉ်းသွားတော့မယ်။ မနက်လင်းလို့ နေမင်းထွက်ပေါ်လာတဲ့အခါ ကြယ်တာရာနက္ခတ်တွေကို မမြင်ရသလို၊ မြတ်စွာဘုရားရဲ့ သမီးတော် မိန်းမရဟန္တာ ငါးရာတို့ကိုလည်း ဖူးမြင်ရတော့မှာ မဟုတ်ပါကလားဘုရား"

သောတာပန် သကဒါဂါမ်နှင့် ပုထုဇဉ် ဘိက္ခုနီများ ငိုကြွေးလျက် လိုက်ပါလာကြ၏။ သည့်နောက်တွင် သိက္ခမာန်မများ၊ သာမဏေရီများ။ ဥပါသိကာမ ကြီးငယ်တို့သည် လက်အုပ်ချီလျက် ငိုကြွေးရင်း လိုက်ပါလာကြသည်။

"ချစ်သမီးတို့ သောကပူဆွေး ငိုကြွေးဖို့ မသင့်ဘူး။ အခုအချိန်အခါဟာ ဝမ်းသာရမယ့်အချိန်ပဲ။ ငါဟာ ဒုက္ခဖြစ်ကြောင်းတွေကို အကုန်ပယ်စွန့်ပြီး နိဗ္ဗာန်ကို မျက်မှောက်ပြုတာ ဖြစ်တဲ့အတွက် ဝမ်းသာသင့်တယ်။ အလွန်လေးလံတဲ့ ခန္ဓာကိုယ်ကြီးကို ရွက်ဆောင်နေရာက ဆင်းရဲလွန်းတဲ့ ခန္ဓာကိုယ်ကြီးကို ပယ်စွန့်ပြီးတော့။ ချမ်းသာတဲ့နိဗ္ဗာန်ကို သွားတာဟာ ငိုစရာ မဟုတ်၊ ဝမ်းသာစရာပါ"

ဂေါတမီအရှင်မကြီးသည် အုန်းအုန်းကျွက်ကျွက် ငိုကြွေးလျက် လိုက်ပါလာသော ပရိသတ်ကြီးအား လှည့်၍ တရားပြတော်မူ၏။

"အို၊ ချစ်သမီးအပေါင်းတို့။ မြတ်စွာဘုရား ထင်ရှားရှိတော်မူတယ်။ မြတ်စွာဘုရား ဟောကြားတော်မူတဲ့ တရားတော်တွေ ထင်ရှားရှိတယ်။ ရဟန်းသံဃာတွေလည်း ချမ်းချမ်းသာသာ ကျန်းကျန်းမာမာနဲ့ ရှိနေတော်မူကြတယ်။ ဒါကြောင့် မငိုကြနဲ့"

ထိုသို့ ဖျောင်းဖျစကားဖြင့် နှစ်သိမ့်သော်ငြား ငိုကြွေးသံများမှု မဆိတ်စဲ။

“ချစ်သမီးတို့၊ ငါဟာ ကမ္ဘာတစ်သိန်း ကာလပတ်လုံး ပါရမီကို ဖြည့်ခဲ့ရတယ်။ အဲသည်လို တောင့်တလိုလားပြီး ဆုတောင်း ဖြည့်ဆည်းခဲ့ရတဲ့ အကျိုးဟာ ကနေ့ပြည့်ပြီ။ တကယ်လို့ ချစ်သမီးတို့ဟာ ငါ့ကို ချစ်ခင်ရင် ငါ့ကျေးဇူးကိုသိရင် တရားကို အားထုတ်ကြပါ။ မိန်းမတွေ ရဟန်းပြုခွင့်ရအောင် ငါဟာ မြတ်စွာဘုရားကို တောင်းပန်ခဲ့ရတယ်။ ဒါကြောင့် ငါဟာ ရဟန်းဘဝကို နှစ်သက်သလို၊ ချစ်သမီးတို့လည်း ရဟန်းဘဝကို နှစ်သက်ကြပါ”

ထိုအချိန်အခါဝယ် လောကထိပ်တင် သဗ္ဗညုရှင်သည် ဝေသာလီပြည် ကူဋာဂါရ ကျောင်းတော်သို့ တဖန်ကြွရောက် သီတင်းသုံးနေတော်မူချိန် ဖြစ်၏။ ဂေါတမီအရှင်မကြီးနှင့် သာကီဝင်မင်းသမီး ထေရီ အရှင်မငါးရာတို့ ပရိနိဗ္ဗာန် စံဝင်တော်မူကြမည့်သတင်းကြောင့် ဝေသာလီပြည်၌လည်း အုတ်အုတ်ကျက်ကျက် ဖြစ်၏။

ဂေါတမီ အရှင်မကြီးနှင့် ရဟန္တာမ ငါးရာတို့သည် မြတ်စွာဘုရားအား ရှိသေဝတ်တွား ကန်တော့ကြပြီးနောက် ထေရီမကြီးက လျှောက်ထား၏။

“ကောင်းသောစကားကို ဆိုတော်မူတဲ့ မြတ်စွာဘုရား။ တပည့်တော်မ ဂေါတမီဟာ အရှင်ဘုရားရဲ့ လောကီမိခင်ဖြစ်သလို၊ အရှင်ဘုရားရဲ့ ရူပကာယကြီးပွားအောင် တပည့်တော်မ မွေးမြူခဲ့သလို၊ တပည့်တော်မရဲ့ ဓမ္မကာယ ကြီးပွားအောင် အရှင်ဘုရားက မွေးမြူခဲ့ပါတယ်ဘုရား။ ဒါကြောင့် တပည့်တော်မဟာ အရှင်ဘုရားရဲ့ လောကုတ္တရာ သမီးတော် ဖြစ်ပါတော့တယ်ဘုရား။

“ကြီးသောလုံ့လ ရှိတော်မူတဲ့ မြတ်စွာဘုရား။ အရှင်ဘုရားကို

တပည့်တော်မက အာဟာရအစာ နို့ချိုတိုက်ကျွေးခဲ့ပါတယ်ဘုရား။ တပည့်တော်မ ဂေါတမီကို အရှင်ဘုရားက အေးမြလှတဲ့ တရားတော်နို့ရည် တိုက်ကျွေးပါတယ် ဘုရား"

ကျောင်းတော်၏ အပြင်ဘက်တွင် ငိုကြွေးသံများ ညံနေပြီး၊ မြတ်စွာဘုရား၏ ရှေ့တော်တွင်မူ မယ်တော်ဘိက္ခုနီကြီး၏ လျှောက်ထားသံမှတစ်ပါး၊ တိတ်ဆိတ်နေပေ၏။

"မာယာရင်နှစ် သားချစ်မြတ်များ၊ အရှင်ဘုရား။ သားဆုတောင်းကြတဲ့ မိန်းမတွေဟာ စကြာမင်းလောင်း သားကောင်းရတနာကို ရကြပါတယ်ဘုရား။ ဒါပေမယ့် မန္ဓာတု စကြာမင်းကြီးရဲ့ မယ်တော်ဖြစ်သော်လည်း သံသရာဝဲသြဃမှာ နစ်မြုပ်နေကြရပါတယ် ဘုရား။ အရှင်မြတ်ဘုရားဟာ တပည့်တော်မကို သံသရာဝဲ ပင်လယ်ထဲမှ ဆွဲထုတ်ကယ်တင်တော်မူပါပေတယ် ဘုရား။

"မိန်းမတွေမှာ စကြာမင်းမယ်တော်၊ ဧကရာဇ်မင်းရဲ့မယ်တော် ဆိုတဲ့အမည်ဟာ ရလွယ်ပါတယ်ဘုရား။ တပည့်တော်မကတော့ ရဖို့အလွန်ခက်ခဲတဲ့ ဘုရားမယ်တော်အမည်ကို ရခဲ့ပါပြီဘုရား။ ဘုရားမယ်တော်ဆိုတဲ့ အမည်ကိုရအောင် ကမ္ဘာတစ်သိန်း ပါရမီဖြည့်ခဲ့တာ ပြည့်စုံပြီဖြစ်တဲ့အတွက် သည်ခန္ဓာကိုယ်ကြီးကို စွန့်ပစ်ပြီး ပရိနိဗ္ဗာန် ပြုပါရစေဘုရား။ ခွင့်ပြုတော်မူပါဘုရား"

ဂေါတမီထေရီသည် ထိုသို့လျှောက်ထားပြီးနောက် မြတ်စွာဘုရား၏ခြေတော်အစုံကို ရှိခိုးပြန်သည်။ ပြီးမှ ထပ်မံလျှောက်ထားသည်။

"နေမျိုးနတ်နွယ် ဖြစ်တော်မူတဲ့ မြတ်စွာဘုရားကို တပည့်တော်မရဲ့ ရှိခိုးခြင်းဟာ နောက်ဆုံး ဖြစ်ပါတော့တယ်ဘုရား။ မိန်းမတို့ဟာ အပြစ်အနာအဆာတို့ရဲ့ တည်ရာ ဖြစ်ပါတယ်ဘုရား။ ဒါကြောင့် တပည့်တော်မမှာ အပြစ်ရှိရင် သည်းခံတော်မူပါဘုရား။ အရှင်ဘုရား ခွင့်ပြုတော်မူတဲ့အတိုင်း

ဘိက္ခုနီမတို့ကို ဆုံးမဩဝါဒ ပေးခဲ့ပါတယ်ဘုရား။ အဲသည်လို ဆုံးမဩဝါဒပေးရာမှာ အမှားအယွင်း တစ်စုံတစ်ရာရှိရင်လည်း သည်းခံတော်မူပါဘုရား"

ထိုအခါ မြတ်စွာဘုရားသည် ဤသို့ မိန့်တော်မူ၏။

"မိထွေးတော် ဂေါတမီ။ တောင်းပန်ကန်တော့ခြင်း မပြုသောသူ၌သော်လည်း သည်းခံရသေး၏။ ဂုဏ်ကျေးဇူးတို့ဖြင့် တန်ဆာဆင်လျက် တောင်းပန်ကန်တော့သော မိထွေးတော်၌မူ မည်သည့်အပြစ်ရှိတော့အံ့နည်း။ နိဗ္ဗာန်သို့သွားပါတော့မည်ဟု ခွင့်ပန်သော မိထွေးတော်အား မည်သို့ဆိုနိုင်တော့အံ့နည်း"

မြတ်ဗုဒ္ဓ ရှင်တော်မြတ်သည် ထိုသို့ မိန့်တော်မူပြီးမှ ဆောင်ရွက်ဖွယ်များကို မိန့်ကြားတော်မူ၏။

"မိထွေးတော် ဂေါတမီ။ ငါဘုရား၏ တပည့်သာဝက ရဟန်းသံဃာတို့သည် စင်ကြယ်ကုန်၏။ ဤသည်ဘုံဘဝ ဒုက္ခတွင်းမှ လွတ်ခြင်းငှာ သည်းခံခြင်းတရား ရှိကြကုန်၏။ ငါဘုရား၏ ထိုတပည့်ရဟန်း သံဃာတို့အားလည်း ဖူးမြော်ကန်တော့ဦးလော့"

ဂေါတမီထေရီအရှင်မကြီးသည် သားတော်အရှင်နန္ဒနှင့်မြေးတော်အရှင်ရာဟုလာ၊ တူတော် အရှင်အာနန္ဒာတို့အား ဖူးမြော်ကန်တော့ပြီးလျှင် ခွင့်တောင်းလျှောက်ထားသည်။ ပြီးလျှင် ရှင်တော်မြတ်ဘုရားဘက်သို့ လှည့်၍ ရှိခိုးချိန်တွင် မြတ်စွာဘုရားက မိန့်တော်မူ၏။

"မိထွေးတော်ဂေါတမီ။ မိန်းမတို့၏ တရားအထူးကို သိမြင်ခြင်း၌ သူမိုက်တို့သည် မသိဝိုးဝါး ယုံမှားရှိကြ၏။ ထိုသူတို့၏ အယူမှားကို ပယ်ခြင်းငှာ တန်ခိုးပြခဲ့ဦးလော့"

ထိုအခါ ဂေါတမီထေရီသည် မြတ်စွာဘုရား၏ခြေတော်ကို ဦးတိုက်ရှိခိုး၍ ကောင်းကင်သို့ ပျံတက်ကာ များစွာသော တန်ခိုးပြာဋိဟာ

တို့ကို ပြတော်မူ၏။

ထေရီမကြီးပြသော တန်ခိုးပြာဋိဟာများမှာ၊

တစ်ပါးတည်းကို အများဖြစ်အောင် ဖန်ဆင်းပြခြင်း။ အများကို တစ်ပါးတည်းဖြစ်အောင် ပြခြင်း။ နံရံတံတိုင်းခြားရာသို့ ဖောက်ထွင်းသွားခြင်း။ မြေကြီးအတွင်းသို့ ငုပ်လျှိုး၍ပြခြင်း။ ရေပေါ်၌ စင်္ကြံလျှောက်ခြင်း၊ ကောင်းကင်၌ ထက်ဝယ်ဖွဲ့ခွေလျက် ပျံသန်းခြင်း စသည်တို့ ဖြစ်သည်။

ထိုမှတစ်ပါး ထေရီအရှင်မကြီးသည် ဗြဟ္မာ့ပြည်သို့တိုင်အောင် တက်ကြွသွားသည်။ မြင်းမိုရ်တောင်ကြီးကို ထီးရိုးပြုလျက်၊ ပထဝီမြေကြီးကို ထီးရွက်ပြုကာ ဆောင်းသည်။ ထက်အောက် ပြောင်းပြန်လှန်သည်။ စကြာမင်းကြီးဗိုလ်ထုနှင့် လှည့်လည်သွားလာပုံကိုလည်း ဖန်ဆင်းပြသသည်။

ထို့ပြင် ဂဠုန်ယောင်၊ နဂါးယောင်၊ ခြင်္သေ့ယောင် ဖန်ဆင်းပြသ၏။ အလွန်များပြားသော မိန်းမရဟန်းတော်များ၊ ကောင်းကင်ယံ စျာန်ကြွနေပုံများကိုလည်း ဖန်ဆင်းပြပြီးနောက် မြတ်စွာဘုရားအား ရှိခိုးလျှောက်ထား၏။

"ကြီးသောလုံ့လ ရှိတော်မူသော မြတ်စွာဘုရား။ အရှင်ဘုရားဆုံးမတော်မူတိုင်း ပြုကျင့်တတ်သော ဂေါတမီပါဘုရား။ စက္ခုငါးပါးဖြင့် ပြည့်စုံတော်မူသော အရှင်ဘုရား၏ ခြေတော်အစုံကို ရှိခိုးပါ၏ဘုရား"

ထေရီအရှင်မကြီးသည် 'လောကဝိဝရဏ' အလုံးစုံသောစကြဝဠာတစ်သောင်းကို လင်းစေသော အဓိဋ္ဌာန်ကို ပြုတော်မူရာ၊ လူတို့ကို ငရဲဘုံ၊ နတ်ဘုံများမှ မြင်ရ၏။ လူတို့ကလည်း ငရဲပြည်၊ နတ်ပြည်များကို မြင်ကြရ၏။ ငရဲသူငရဲသားနှင့် လင်းနို့ပမာ တွယ်ကပ်နေကြသော 'လောကန္တရိက်' ငရဲကိုလည်း မြင်ကြရအောင် ပြသသည်။

မဟာပဇာပတိ ဂေါတမီ ထေရီမကြီး၏ တန်ခိုးဣဒ္ဓိပါဒ်ကို

ဖူးမြော်ကြရသော ပရိသတ်များက လက်အုပ်ချီလျက် လျှောက်ထားကြ၏။

"မြတ်စွာဘုရား၏ မယ်တော်ဖြစ်သော အရှင်မဘုရား။ ဤကဲ့သို့သော တန်ခိုးများ ပြသနိုင်ရန် မည်သည့်ကာလမှ အစပြု၍ မည်ကဲ့သို့ ပါရမီ ဖြည့်ကျင့်ဆည်းပူးခဲ့သည်များကိုလည်း ဆည်းပူးနာယူ မှတ်သားဖွယ် အဖြစ် ဟောကြားတော်မူပါဘုရား"

ထို့ကြောင့် ထေရီအရှင်မကြီးသည် ပဒုမုတ္တရ မြတ်စွာဘုရား၏ ရွှေလက်ထက်တော်မှ အစပြုကာ ဖြည့်ကျင့်ဆည်းပူးခဲ့ရသော ပါရမီတို့ကို ဟောကြားတော်မူသည်။

ထို့နောက် သာကီဝင်မင်းသမီး ထေရီ အရှင်မများကလည်း ကောင်းကင်သို့ ကြွသွားကာ အများမြင်သာအောင် တန်ခိုးပြသကြသည်။ ပရိသတ်ကြီး အံ့ဩမဆုံးဖြစ်နေကြစဉ် ကောင်းကင်မှ ဆင်းသက်လာပြီး မြတ်စွာဘုရား၏ ခြေတော်ကို ဦးခိုက်လျက် လျှောက်ထားကြသည်။

"တပည့်တော်မတို့ မြတ်စွာဘုရားထံတော်သို့ ရောက်လာရခြင်းသည် ကောင်းသောရောက်ခြင်း ဖြစ်ပါသည်ဘုရား။ တပည့်တော်မတို့သည် ဝိဇ္ဇာသုံးပါးကို ရကြပါပြီ။ လေးဖြာသော ပဋိသမ္ဘိဒါ၊ ရှစ်ဖြာသော ဝိမောက္ခ၊ ခြောက်ပါးသော အဘိညာဉ်တို့သို့ ကောင်းစွာရောက်ကြပါပြီ။ တပည့်တော်မတို့ကိုလည်း ပရိနိဗ္ဗာန်ပြုရန် အခွင့်သနားတော်မူပါ ရှင်တော်မြတ်ဘုရား"

"အိုနာသေခြင်း လွတ်ကင်းရာမှန် မြတ်နိဗ္ဗာန်သို့ စံဝင်တော့မည် ခွင့်တောင်းသည်ကို အဘယ်သို့ တားမြစ်ရအံ့နည်း။ သင်တို့ပြုရမည့် အချိန်အခါကို သင်တို့ သိကြကုန်လော့"

ဂေါတမီထေရီနှင့် ရဟန္တာမ ငါးရာတို့သည် မြတ်စွာဘုရား၏ မိန့်တော်သံအဆုံးတွင် မြတ်စွာဘုရားအား ဦးခိုက်ရှိခိုးပြီး ထွက်ခွာလာကြ၏။ မြတ်စွာဘုရားသည် မိထွေးတော်အား ကျောင်းတော်တံခါးမုခ်အထိ

လိုက်လံပို့ဆောင်တော်မူသည်။

ပရိနိဗ္ဗာန် စံဝင်တော်မူမည့် ဘိက္ခုနီအရှင်မများသည် ကျောင်းတိုက်သို့ပြန်ရောက်လျှင် ငြိမ်သက်စွာဖြင့် ပထမဈာန်ကို စတင်ဝင်စားကြပြီ။ ဥပါသိကာမများကား ဂေါတမီအရှင်မ၏ ခြေတော်ကို ဦးခိုက်ငိုကြွေးနေကြ၏။ အချို့သော်ကား အမြစ်ပြတ်သော နွယ်ပင်အလား ညိုးနွမ်းလျက် ယိုင်လဲ လူးလိမ့်နေကြ၏။

ရဟန္တာ အရှင်မကြီးများကား ဒုတိယဈာန်မှ တတိယဈာန်၊ စတုတ္ထဈာန်၊ အာကာသဈာန်၊ ဝိညာဏဈာန်၊ အာကိဉ္စညဈာန်၊ နေဝသညာဈာန်တို့ကို အစဉ်အတိုင်း ဝင်စားနေတော်မူကြသည်။

တစ်ဖန် နေဝသညာဈာန်မှ နောက်ပြန်ဆုတ်လျက် ပထမဈာန်အထိ ဝင်စားတော်မူကြသည်။ ပထမဈာန်သို့အရောက်တွင် စတုတ္ထဈာန်အထိ အစဉ်အတိုင်း ဝင်စားတော်မူကာ စတုတ္ထဈာန်မှထ၍ စုတိစိတ်ကျလျက်၊ ဆီမီးတောက်သည် ငြိမ်းပျောက်သွားသကဲ့သို့ အသင်္ခတဓာတ်ဖြင့် ပရိနိဗ္ဗာန် ပြုတော်မူကြလေ၏။

မဟာပထဝီမြေကြီးသည် ပြင်းစွာတုန်လှုပ်၏။ လျှပ်စစ်လျှပ်နွယ်တို့သည် ထိန်လင်းဖြာလျက် ပဲ့တင်သံပေး၏။ ကောင်းကင်မှ ပန်းပွင့်မိုးရွာကျလာကာ မြေပြင်ကို ဖုံး၏။ နတ်စည် ယွမ်း၏။ ရာဂ မကင်းသေးသော နတ်တို့သည် ငိုကြွေးကြ၍ ဗြဟ္မာတို့မူ ထိတ်လန့်ကြသည်။

"ရပ်နာမ်ဓမ္မ သင်္ခါရတို့သည် မမြဲကြပါတကား။ မိထွေးတော် ဂေါတမီသည် ကွယ်လွန်ခြင်းသို့ ရောက်တော်မူချေပြီ။ အကြွင်းငါးရာကုန်သော ရဟန္တာအရှင်မတို့သည်လည်း ဤအရှင်မကြီးအား ခြံရံကြကုန်၏။ မြတ်စွာဘုရား ဆုံးမတော်မူသည့်အတိုင်း ကျင့်ကြံကြ၍ တန်ခိုးပြနိုင်ကြ၏။ ထို မိန်းမရဟန္တာ ငါးရာတို့သည်လည်း စွဲငြိစရာ မီးစာမရှိသော ဆီမီးတောက်ကဲ့သို့ ငြိမ်းပျောက်ကြလေပြီ"

နတ်သမီးများ၏ ဖွဲ့နွဲ့ ငိုကြွေးသံဖြစ်သည်။

"ယှဉ်တွဲတွေ့ကြုံပေါင်းဆုံမိခြင်းသည် ကွဲကွာခြင်း၌ အဆုံးရှိချေ၏တကား။ ငါတို့မှာမူ ပူဆာညှိုးနွမ်း ပင်ပန်းဆင်းရဲလှချေ၏တကား။ အလုံးစုံသော ဖြစ်သမျှ တရားအပေါင်းတို့သည် မမြဲသော အရာများပါတကား။ အသက်ရှင်ခြင်းသည် အဆုံးသို့ရောက်က ပျက်စီးရသော အရာမျိုးပါတကား"

မဟာပဇာပတိ ဂေါတမီ အရှင်မကြီးနှင့် ရဟန္တာအရှင်မ ငါးရာတို့၏ရုပ်ကလာပ်များပါ ဝေးစွာသောအရပ်ရှိ သံဃာတော်များလည်း ကြွလာကြ၏။

အလောင်းတို့တင်ထားသည့်ညောင်စောင်းငါးရာကို ရွှေပြာသာဒ်များတွင် ထည့်သွင်းကြသည်။ လောကပါလ နတ်မင်းကြီးလေးပါးသည် မိထွေးတော်ဂေါတမီ၏ ပြာသာဒ်ကို ပခုံးဖြင့် ထမ်းကြ၏။ သိကြားမင်း၊ ယာမာနတ်မင်း စသော နတ်မင်းတို့သည် ကြွင်းသော ပြသာဒ်များကို ထမ်းလျက် လောင်တိုက်ရှိရာသို့ အစဉ်အတိုင်း ဆောင်ယူကြသည်။

အလောင်းတင် ပြာသာဒ်များနောက်မှ လူများလိုက်ပါကြသည်။ ၎င်းနောက်မှ နတ်များ၊ နဂါး၊ ဂဠုန်၊ ကုမ္ဘာန်၊ ယက္ခ၊ ဂန္ဓဗ္ဗ၊ အသုရာနှင့် ဗြဟ္မာများ လိုက်ပါ ပူဇော်ကြသည်။ ဤသည့်နောက်မှ သံဃာတော်များနှင့် မြတ်စွာဘုရားလိုက်ပါ ပို့ဆောင်သည်။

လောင်တိုက်တည်ရှိရာသို့ ရောက်လာပြီ။ ရုပ်ကလာပ်များကို နံ့သာထင်းပုံပေါ်သို့ တင်သည်။ နံ့သာမှုန့် အမျိုးမျိုးကိုဖြူးကာ၊ နောက်ႇံ ပူဇော်ကြပြီးနောက် မီးတိုက်ကြသည်။

အရှင်အာနန္ဒသည် မဟာပဇာပတိ ဂေါတမီ ထေရီမကြီး၏ ဓာတ်တော်များကို သပိတ်တွင်ထည့်ပြီး မြတ်စွာဘုရားသို့ ဆက်ကပ်၏။ မြတ်စွာဘုရားသည် မိထွေးတော်၏ဓာတ်တော်များကို ရွှေလက်တော်ဖြင့် ကိုင်လျက် ဤသို့ မိန့်တော်မူ၏။

"ရဟန်းတို့။ ဥပမာအားဖြင့် ကြီးစွာသော သစ်ပင်ကြီးသည် အနိစ္စသဘောဖြစ်၍ အကိုင်းအခက်တို့သည် ကျိုးပဲ့ပျက်စီးပြီး ဆွေးမြေ့သွားသကဲ့သို့ သစ်ပင်ကြီးနှင့်အတူ မိထွေးတော် ဂေါတမီသည်လည်း ဘိက္ခုနီသံဃာအလယ်မှ ပရိနိဗ္ဗာန်ပြု၍သွားလေပြီ။ ထိုမိထွေးတော် ဂေါတမီသည် ကြီးသော ပညာရှိ၏။ ခိုင်ခံ့ထူထဲသော များသောပညာရှိ၏။ ထိုမိထွေးတော် ဂေါတမီသည် ဘိက္ခုနီမိန်းမရဟန်းအပေါင်းတို့တွင် အကြီးဆုံးဟူ၍ မှတ်ယူကြလေကုန်"

ရှင်တော်မြတ်ဘုရားသည် ဆက်လက်၍ မိန့်တော်မူ၏။

"မိထွေးတော် ဂေါတမီသည် တန်ခိုးအရာ၌လည်း လွန်စွာလေ့လာ လျင်မြန်ထက်သန်၏။ ဒိဗ္ဗသောတ အဘိညာဉ်၌လည်းကောင်း၊ စေတောပရိယ အဘိညာဉ်၌လည်းကောင်း၊ ပုဗ္ဗေနိဝါသ အဘိညာဉ်၌လည်းကောင်း၊ ဒိဗ္ဗစက္ခု အဘိညာဉ်၌လည်းကောင်း လျင်မြန်ထက်မြက်၏။ အလုံးစုံသော အာသဝေါတရားတို့သည် ကင်းပလွတ်ငြိမ်း စင်ကြယ်၏။ နောင်တစ်ဖန် ဖြစ်ခြင်းမရှိ။ ပဋိသမ္ဘိဒါ လေးပါးတို့သည် အလွန်စင်ကြယ်စွာ ဖြစ်၏။ ထို့ကြောင့် မိထွေးတော် ဂေါတမီသည် စိုးရိမ်ခြင်း မရှိ။

မိန်းမရဟန်းတို့၏ အကြီးအမှူး ဖြစ်တော်မူသော မဟာပဇာပတိ ဂေါတမီ ရဟန္တာအရှင်မကြီးကို အကြောင်းပြုလျက်၊ ရှင်တော်မြတ်ဘုရားသည် တပည့်သားတို့အား၊

"ရဟန်းဘို့၊ ထို့ကြောင့် သင် ချစ်သားတို့သည်လည်း ကိုယ့်ကိုယ်သာလျှင် မှီရာကျွန်းသဖွယ် ဖြစ်၍ သတိပဋ္ဌာန် တရားလျှင် အာရုံရှိကုန်သည်ဖြစ်၍ ဗောဇ္ဈင်ခုနစ်ပါးတို့ကို ပွားစေကုန်၍ ဖြစ်ခြင်း၊ ပျက်ခြင်း၊ ဆင်းရဲခြင်း၏ အဆုံးကို ပြုကြလေကုန်"

ဟု ဆုံးမတော်မူပေ၏။



## ၂။ မဟာပညာ တေဒဂ်ရ ထေရီ

ဤကမ္ဘာမှ ပြန်လည်ရေတွက်လျှင် ကမ္ဘာတစ်သိန်းမြောက် ကျရောက်သော ကာလ၌ ပဒုမုတ္တရ မြတ်စွာဘုရား ပွင့်တော်မူခဲ့သည်။ ထိုစဉ်အခါက ဟံသာဝတီပြည်ကြီးဝယ်၊ ခေမာထေရီလောင်းလျာသည် ဥစ္စာခနေ ပေါများကြွယ်ဝသော သူဌေးတစ်ဦး၏ သမီး ဖြစ်ခဲ့ပေသည်။

သူဌေးသမီးသည် ပဒုမုတ္တရ မြတ်စွာဘုရားထံတော်၌ တရားတော်ကို နာယူကာ သရဏဂုံကို ဆောက်တည်သည်။ ထိုကဲ့သို့ မြတ်စွာဘုရား၏ ကျောင်းတော်သို့သွားကာ တရားတော်ကို နာယူနေစဉ် ပဒုမုတ္တရ မြတ်စွာဘုရားသည် သံဃာတော်တို့၏ အလယ်၌ မိန်းမ ရဟန်းတော် တစ်ပါးအား 'မဟာပညာ' တေဒဂ်ထားတော်မူသည်။

သူဌေးသမီးသည် ထိုဘိက္ခုနီ အရှင်မအားကြည့်ပြီး အလွန်ကြည်ညို၏။ အလွန် ဝမ်းမြောက်၏။ သို့ဖြစ်သောကြောင့် မိဘတို့အား တောင်းပန်ပြီး မြတ်စွာဘုရားနှင့် သံဃာတော် အရှင်မြတ်တို့အား ခုနစ်ရက်ပတ်လုံး ဆွမ်းကပ်လှူ ပူဇော်၏။

ခုနစ်ရက်ပြည့်မြောက်သောနေ့၌ ဆွမ်းအနုမောဒနာ ပြုသောအခါ သူဌေးသမီးက ဤသို့ ဆုတောင်း၏။

"ယခုပြုရသော ကောင်းမှုကုသိုလ်ကြောင့် လွန်ခဲ့သော ခုနစ်ရက်က တေဒဂ်ရသော အရှင်မကဲ့သို့ တပည့်တော်မသည်လည်း ပွင့်လတ္တံ့သော မြတ်စွာဘုရားတို့၏ လက်ထက်တော်၌ 'မဟာပညာတေဒဂ်' ရရပါလိုသော်"

ထိုအခါ ပဒုမုတ္တရ မြတ်စွာဘုရားက၊

"ချစ်သမီး၊ သင်၏ ဆုတောင်းခြင်းသည် ပြည့်စုံလတ္တံ့။ သံဃာတော်များနှင့် ငါဘုရားအား ပူဇော်သက္ကာရပြုသော သင်ချစ်သမီး၏ ကုသိုလ်ကံ စေတနာသည် မရေတွက် မနှိုင်းယှဉ်နိုင်သည့် ကြီးစွာသော အကျိုးရှိ၏"

ဟူ၍ မိန့်တော်မူပြီးမှ ဗျာဒိတ်ပေးတော်မူ၏။

"သင်သည်၊ ဤကမ္ဘာမှ တစ်သိန်းထက်၌ သြက္ကာကမင်းမျိုး၌ ဖြစ်သော ဂေါတမီအမည်ရှိသော မြတ်စွာဘုရားသည် လူ့ပြည်၌ ဖြစ်လတ္တံ့။ ထိုဂေါတမ မြတ်စွာဘုရား၏ တရားတော်တို့၌ အမွေခံဖြစ်သော၊ မြတ်စွာဘုရား၏ သမီးတော်ဖြစ်သော၊ တရားတော်သည် ဖန်ဆင်းအပ်သော၊ မဟာပညာတေဒဂ်သို့ ရောက်သော 'ခေမာ' အမည်ရှိသည့် မိန်းမရဟန်းဖြစ်လတ္တံ့."

ခေမာထေရီလောင်းလျာ ထိုသူဌေးသမီးသည် ထိုဘဝမှ စုတေသောအခါ တာဝတိံသာ နတ်ပြည်၌ ဖြစ်၏။ တာဝတိံသာမှ စုတေပြန်လျှင် ယာမာနတ်ပြည်သို့ရောက်၏။ ယာမာနတ်ပြည်မှ စုတေပြန်သော်၊ သူဌေးသမီးသည် တုသိတာ။ ထိုမှ စုတေပြန်လျှင် နိမ္မာနရတိ။ ထိုမှတစ်ဖန် ပရနိမ္မိတ ဝသဝတီနတ်ပြည်များ၌ အဆင့်ဆင့် တိုးမြင့်စွာ ဖြစ်၏။

ထိုသို့ နတ်ပြည်အဆင့်ဆင့်၌ တိုးမြင့်စွာ ဖြစ်တိုင်းဖြစ်တိုင်းလည်း

နတ်မင်းကြီးတို့၏ အဂ္ဂမဟေသီ နတ်မိဖုရားကြီးချည်း ဖြစ်ခဲ့သည်။ ဤသည်မှာ ပဒုမုတ္တရ မြတ်စွာဘုရားအား ဆွမ်းခုနစ်ရက် ဆက်ကပ်လှူဒါန်းခြင်း ကုသိုလ်ကံတို့၏ အကျိုးပေတည်း။

ခေမာထေရီလောင်းလျာ သူဌေးသမီးသည် ပဒုမုတ္တရ မြတ်စွာဘုရား လက်ထက်တော်နှင့် ဝိပဿီမြတ်စွာဘုရား လက်ထက်တော်များ၏ ကြားကာလ၌ လူ့ပြည်နတ်ပြည်တွင်သာ စုန်ဆန် တက်သက် လှည့်လည်စံစားနေခဲ့၏။

စကြာမင်း၏ အဂ္ဂမဟေသီ မိဖုရားကြီး၊ ကေရာဇ်မင်း၏ မိဖုရားကြီး အဖြစ်များကို ကြိမ်ဖန်များစွာ ရရှိစံစားခဲ့သော သူဌေးသမီးသည် လွန်ခဲ့သော ၉၁ ကမ္ဘာထက်၌ ဝိပဿီမြတ်စွာဘုရား ပွင့်တော်မူချိန်ဝယ်၊ တစ်ခုသောအမျိုး၌ ဖြစ်၏။ အရွယ်ရောက်သော် သာသနာ့ဘောင်သို့ ဝင်ရောက်၍ မိန်းမရဟန်း ပြုလေသည်။

ဝိပဿီမြတ်စွာဘုရား၏ သာသနာတော်ဝယ် မိန်းမရဟန်းအဖြစ် နှစ်ပေါင်းရှစ်သောင်းလုံးလုံး ကျင့်ကြံကြိုးကုတ်အားထုတ်ခဲ့သည်။ ကျမ်းဂန်ပိဋကတ်ကို သင်ကြားသဖြင့် များသော ဗဟုသုတရှိသည်။ ပဋိစ္စသမုပ္ပါဒ်၌ လိမ္မာကျွမ်းကျင်သည်။ သစ္စာလေးပါး၌လည်း ရဲရင့်တော်မူသည်။

ထိုထေရီအရှင်မသည် သိမ်မွေ့သော အနက်အဓိပ္ပာယ်တို့ကို ထုတ်ဖော်၍ ဆန်းကြယ်သော တရားစကားတို့ကိုလည်း ဟောတော်မူသည်။ ကမ္မဋ္ဌာန်းတရား၌လည်း အားထုတ်လုံ့လပြုသည်။ မြတ်စွာဘုရား၏ ဆုံးမဩဝါဒများကိုလည်း ကောင်းစွာ လိုက်နာ ကျင့်ဆောင်တော်မူသည်။

ထိုအရှင်မသည် ထိုအဖြစ်မှ စုတေပြီးနောက် ကောဏာဂုံ မြတ်စွာဘုရား ပွင့်တော်မူချိန်အထိ လူ့ပြည်နတ်ပြည်၌သာ ကျင်လည်နေခဲ့၏။ အနှစ်ရှစ်သောင်းလုံးလုံး မိန်းမရဟန်းပြုခဲ့သောကြောင့် အခြားတစ်ပါး နတ်သမီးတို့ထက် သာလွန်သော စည်းစိမ်ချမ်းသာမှာ လွန်စွာကြီးမား၏။

ထို့ပြင် ပညာကြီး၏။ သီလရှိ၏။ ရရှိသော အခြေအရံများမှာလည်း ယဉ်ကျေးလိမ္မာသူများသာ ဖြစ်တော့၏။

လူ့ဘဝသို့ ရောက်ရှိချိန်တွင်လည်း လင်ယောကျ်ား၏ လွန်စွာ မြတ်နိုးမှုကို ခံယူရရှိ၏။ လင်ယောကျ်ား၏ မထေမဲ့မြင်ပြုမှု၊ ဆဲရေး ရိုက်ပုတ် မုန်းထားမှုဟူသည်ကို ကြားသော်မျှ မကြားစဖူးချေ။

ဤဘဒ္ဒကမ္ဘာသို့ ရောက်လာပြီ။

ကောဏာဂုံ မြတ်စွာဘုရား ပွင့်တော်မူချိန်ဝယ်၊ ခေမာထေရီ လောင်းလျာသည် ဗာရာဏသီပြည်၌ သူကြွယ့်သမီး ဖြစ်လာသည်။ သူ၏ အပေါင်းအသင်းများမှာ သုမေဓာထေရီလောင်းလျာနှင့် ဓနဥ္စနီပုဏ္ဏေးမတို့ ဖြစ်သည်။ ထိုသူငယ်ချင်း သုံးယောက်သည် ချစ်ခင်ညီညွတ်စွာဖြင့် စုပေါင်း ပြီးလျှင် သံဃာတော်များ သီတင်းသုံးရန် အာရာမ်ကျောင်းတိုက်၊ သံဃိက ကျောင်းများကို ဆောက်လုပ်လှူဒါန်းကြသည်။

သူငယ်ချင်းမ သုံးယောက်သည် ထိုဘဝမှ စုတေသောအခါ တာဝတိံသာနတ်ပြည်သို့ ရောက်ရသည်။ ကဿပမြတ်စွာဘုရား ပွင့်တော်မူ ချိန်တွင်ကား သူတို့သည် နတ်ပြည်မှစုတေခဲ့၍ ကိကီမင်းကြီး၏ သမီးတော် များ ဖြစ်လာကြသည်။ မြတ်စွာဘုရား၏ ပစ္စည်းလေးပါး ဒါယိကာမများ ဖြစ်လာသည်။

ကိကီမင်းကြီး၏ သမီးတော်များမှာ ၁။ သမဏီ၊ ၂။ သမဏာ ဂုတ္တာ၊ ၃။ ဘိက္ခုနီ၊ ၄။ ဒါယိကာ၊ ၅။ ဓမ္မာ၊ ၆။ သုဓမ္မာနှင့် ၇။ သင်္ဃဒါသီ တို့ပေတည်း။

ထိုခုနစ်ယောက်လုံးမှာ ဆုကြီးပန် လောင်းလျာ မိန်းမမြတ်တွေ ချည်းဖြစ်၏။

ကိကီမင်းကြီး၏ အကြီးဆုံးသမီးတော် 'သမဏီ' မှာ ခေမာထေရီ လောင်းလျာ ဖြစ်သည်။

ဒုတိယသမီးတော်ဖြစ်သော 'သမဏာဂုတ္တာ'မှာ ဥပ္ပလဝတ် ထေရီ လောင်းလျာ ဖြစ်သည်။

တတိယသမီးတော် 'ဘိက္ခုနီ'မှာ ပဋာစာရီထေရီ အလောင်း အလျာ ဖြစ်ပေသည်။

စတုတ္ထသမီးတော် 'ဘိက္ခုဒါယိကာ'မှာ ကုဏ္ဍလကေသီ ထေရီ အလောင်းအလျာ ဖြစ်သည်။

ပဉ္စမသမီးတော်ဖြစ်သော 'ဓမ္မာ'မှာ ကိသာဂေါတမီ ထေရီ လောင်းလျာဖြစ်သည်။

ဆဋ္ဌမသမီးတော်ဖြစ်သော 'သုဓမ္မာ'မှာ ဓမ္မဒိန္နာထေရီလောင်းလျာ ဖြစ်ပေသည်။

သတ္တမသမီးတော်ဖြစ်သော 'သင်္ဃဒါသီကုမာရီ' ကား၊ ကျောင်း အမကြီး ဝိသာခါ လောင်းလျာပေတည်း။

ထိုသမီးတော်များသည် မြတ်စွာဘုရား၏ သာသနာတော်၌ သဒ္ဓါ သက်ဝင်သောကြောင့် ဘိက္ခုနီ ပြုလိုကြ၏။ သို့ရာတွင် ခမည်းတော် မယ်တော်တို့က ခွင့်မပြုကြ။ သို့အတွက် သမဏီ အမှုးပြုသော ညီအစ်မ ခုနစ်ဖော်သည် အနှစ်နှစ်သောင်းပတ်လုံး အိမ်ထောင်မပြုဘဲ 'ကုမာရီ ဗြဟ္မ စရိယသီလ'ကို ဆောက်တည်လျက် နန်းထက်၌ ပျော်ရွှင်စွာ စံစားနေကြ သည်။

သမီးတော်ခုနစ်ပါးသည် မိန်းမရဟန်း မပြုရငြား၊ ရတနာသုံးပါး ကို မပြတ်ဆည်းကပ်သည်။ တစ်ရံရောအခါဝယ် မင်းသမီးသမဏီသည် ကဿပမြတ်စွာဘုရား ဟောကြားတော်မူသော မဟာနိဒါနသုတ်တော်ကို နာကြားရသည်။ သမဏီသည် တရားတော်၌ သဒ္ဓါကြည်ညိုအားကြီးရကား ထိုသုတ်တော်ကို အရဆောင်ကာ နှုတ်တက်အာဂုံ ဆောင်သည်။

မဟာနိဒါနသုတ်တော်ကို အာဂုံဆောင်ကာ ပွားများရသည့်

ကုသိုလ်ကား ကြီးမားလှသည်။ သမဏီသည် ထိုဘဝမှ စုတေသောအခါ တာဝတိံသာနတ်ပြည်၌ ဖြစ်၏။ ထိုမှတစ်ဖန် လူ့ပြည်နတ်ရပ် လှည့်ပတ်စံစားပြီးနောက် ယခုနောက်ဆုံးဘဝတွင် မဒ္ဒ(မဒ္ဒရာဇ်)တိုင်း၌ သာဂလပြည်ဝယ် မဒ္ဒရာဇ်မင်းကြီး၏ သမီးတော် ဖြစ်လာခဲ့လေ၏။

မဒ္ဒရာဇ်မင်းကြီး၏ သမီးတော်အမည်မှာ 'ခေမာ' ဖြစ်သည်။ ထိုကလေးကို ဖွားမြင်ချိန်တွင် ပြည်သူပြည်သားတို့၌ စွဲကပ်နေသော ရောဂါဝေဒနာများ ကင်းစင်ပပျောက် ကုန်သောကြောင့် ဖြစ်သည်။

ခေမာသတို့သမီးသည် အလွန်လှပသည်။ အရွယ်ရောက်ချိန်ဝယ် ဇမ္ဗူရာဇ်ရွှေကို ရတနာခုနစ်ပါးစီခြယ်လျက် ပန်းချီပန်းပု ရေးထုထားဘိ အလား လှပတင့်တယ်လွန်းသဖြင့် မြင်သမျှ ယောကျ်ားမိန်းမတို့ နှစ်မြို့ကြသည်။ ယောကျ်ားသားတို့မူ မရပ်တည်နိုင်ဘဲ မူးမိုင်တွေဝေရသည်။

ခေမာကုမာရီသည် ရာဇဂြိုဟ်ပြည့်ရှင် ဗိမ္ဗိသာရမင်းတရားကြီး၏ အဂ္ဂမဟေသီ ဒေဝီရတနာ ဖြစ်လာ၏။ ထိုအချိန်ဝယ် သုံးလူ့ထွတ်ထား မြတ်စွာဘုရားသည် ဝေဠုဝန်ဥယျာဉ်၌ သီတင်းသုံးတော်မူလျက် ရှိ၏။ ရာဇဂြိုဟ်ပြည်သူပြည်သားများသည် ဝေဠုဝန်ကျောင်းတော်သို့ သွားရောက်ကာ တရားတော်ကို နာကြားကြငြား ခေမာမိဖုရားကြီးကား မသွားပေ။

မသွားခြင်းမှာ မြတ်စွာဘုရားသည်'အဆင်းလှသူတို့၏ အဆင်း၌ အပြစ်ကိုတင်ဖွဲ့၍ ကဲ့ရဲ့တော်မူတတ်သည်'ဟု ခေမာမိဖုရားကြီး ကြားထားသောကြောင့် ဖြစ်သည်။

ဗိမ္ဗိသာရမင်းမှာ ရတနာသုံးပါး၌ အလွန်ကြည်ညို၍ ကျောင်းဒါယကာလည်း ဖြစ်သည်။ သို့ကြောင့် သူမြတ်နိုးသော မိဖုရားကြီးလည်း သူနှင့်အလားတူ ရတနာသုံးပါး၌ ပျပ်ဝပ်ကြည်ညိုစေချင်သည်။

'ငါ့ဟာ မြတ်စွာဘုရားကို အသက်ဆံဖျားထားပြီး ကိုးကွယ်လုပ်ကျွေးတဲ့ ဥပါသကာမြတ် ဖြစ်တယ်။ အဲသည်လိုရှိတဲ့ ဘုရင်နဲ့ မိဖုရားဟာ

မြတ်စွာဘုရားထံတော်ကို အဖူးအမြော် မသွားတာဟာ မတော်ဘူး။ မသွားရင် မနေရ၊ အာဏာနဲ့ခိုင်းရင်လဲ ပြည်သူတွေ ကဲ့ရဲ့မယ်'

ဗိမ္ဗိသာရ ဘုရင်မင်းမြတ်သည် ဤသို့လျှင် စဉ်းစားမိသည်။

'သည်တော့ မြတ်စွာဘုရားရဲ့ ကျောင်းတော်ကို ငါ့မိဖုရား သွားချင်အောင် ပရိယာယ်ဆင်မှပဲ'

သို့ဖြင့် ဗိမ္ဗိသာရမင်းကြီးသည် ရတုကဗျာလင်္ကာသီချင်း ဖွဲ့တတ်၊ သီတတ်သူများအား ဆင့်ခေါ်ကာ၊ တေးသီချင်းများ အရေးအဖွဲ့ခိုင်းသည်။ ရေးဖွဲ့ပြီးသော ထိုတေးသီချင်း ရတု ရကန် အဲ အန်များကို ခေမာမိဖုရား ကြားလောက်သည့်နေရာ၌ သီဆိုကခုန်ကြရန် စေလွှတ်တော်မူသည်။

လှသော မိဖုရားအတွက်၊ လှသော သီချင်းတွေ လွင့်ပျံ့လာ၏။

"သူဟာ မြတ်စွာဘုရား သီတင်းသုံးတော်မူတဲ့ ဝေဠုဝန် ကျောင်းတိုက်ကို မမြင်ဖူးဘူး။ သူဟာ တာဝတိံသာနတ်တွေ မွေ့လျော် ပျော်ပါးတဲ့ နန္ဒဝန်ဥယျာဉ်တော်ကို မမြင်ဖူးသူလို့ ငါတို့ ထင်တယ်"

ဝေဠုဝန်ဥယျာဉ်၏ လှပသာယာပုံကို သွယ်ဝိုက်ကာ ချီးမွမ်းထားခြင်း ဖြစ်ပေသည်။

"အဲသည်လူဟာ လူတွေနှစ်သက်မြတ်နိုးတဲ့ မြတ်စွာဘုရားရဲ့ ကျောင်းတော်ကို မြင်ဖူးတယ်။ သူဟာ တာဝတိံသာက သိကြားတွေ၊ နတ်တွေ ပျော်စံတဲ့ နန္ဒဝန်ဥယျာဉ်ကို မြင်ဖူးသူ ရောက်ဖူးသူပေပဲ"

အရေးအဖွဲ့ကျစ်လျစ်၍ သီဆိုသူကလည်း ကောင်းမွန်သော တေးသံကို မိဖုရားကြီးခေမာ နားဆင်မိချေပြီ။

ခေမာမိဖုရားအား ဖမ်းစားထားသော တေးသံသည် တစ်ဆင့်တက်လာ၏။

"တာဝတိံသာ နတ်တွေဟာ သူတို့ရဲ့ နန္ဒဝန်ဥယျာဉ်ကို ကျောခိုင်းစွန့်ခွာပြီး လူ့ပြည်ကို ဆင်းလာကြတယ်။ မွေ့လျော် ပျော်စဖွယ်ဖြစ်တဲ့

ဝေဠုဝန်ကျောင်းတော်ကြီးကို မြင်ရတဲ့အခါ အလွန်အံ့ဩပြီး ကြည့်လို့ အားမရအောင် ဖြစ်ကုန်ကြပါလေရော”

ဝေဠုဝန်ဥယျာဉ်နှင့် ဝေဠုဝန်ကျောင်းတော်သည် နန္ဒဝန်ဥယျာဉ်ထက် သာလွန်သော နှလုံးမွေ့လျော် ပျော်ဖွယ်ရာဖြစ်သည်ဟု ဆိုလိုက်ခြင်း ဖြစ်သည်။

“ရာဇဂြိုဟ်ပြည့်ရှင် ဘုရင်မင်းမြတ်ရဲ့ဘုန်းကံကြောင့် ပေါ်ပေါက်လာရတဲ့ မြတ်စွာဘုရားရဲ့ သမ္ဘာတော်၊ ပါရမီတော်၊ ဂုဏ်တော်၊ တန်ခိုးတော်တို့နဲ့ တန်ဆာဆင်တဲ့ ဝေဠုဝန် ကျောင်းတိုက်ကြီးကို မြင်ရတဲ့ လူတွေဟာ ကြည့်ပြီးရင်း ကြည့်ချင်ရင်း ဖြစ်ပြီး ရှုမငြီးကြ”

သာယာသော၊ ပြေပြစ်သော၊ ကြားရသူတို့ စိတ်နှလုံးချမ်းမြေ့ဖွယ်ကောင်းသော တေးသီချင်းသံများသည် ခေမာမိဖုရားအား ဝေဠုဝန်ဥယျာဉ်သို့ သွားချင်အောင် ဖြားယောင်းကြကုန်၏။

သို့ကြောင့် ခေမာမိဖုရားသည် ဝေဠုဝန်ဥယျာဉ်သို့ သွားရောက်ခွင့်ပြုပါရန် ဘုရင်မင်းမြတ်ထံ ခွင့်ပန်သည်။ ဗိမ္ဗိသာရမင်းလည်း အလွန်ဝမ်းမြောက်စွာဖြင့် အခြံအရံများစွာ ခြံရံလျက် သွားခွင့်ပြုသည်။

အသာအကြည် ခွင့်ပြုသော်ငြား မြတ်စွာဘုရားအကြောင်းကို ထည့်သွင်း မိန့်ကြားလိုက်သည်။

“စည်းစိမ်ချမ်းသာ ကြီးလှပါတဲ့ ခေမာ မိဖုရား။ အခြံအရံတွေ အများကြီးနဲ့ ဥယျာဉ်တော်ကို သွားပါ။ ဝေဠုဝန် ဥယျာဉ်တော်ဟာ မျက်စိအရသာ ရှိတယ်။ အခါခပ်သိမ်း ကျက်သရေရှိတယ်။ အဲသည် ဥယျာဉ်တော်ထဲက ကျောင်းတော်မှာ သုံးလောကထွတ်ထား သဗ္ဗညုမြတ်စွာဘုရားကိန်းအောင်း မွေ့လျော် စံပယ်တော်မူတယ်”

ထိုဥယျာဉ်သို့သွားလျှင် မြတ်စွာဘုရားအား ဖူးမြင်နိုင်ကြောင်း အရိပ်အမြွက် ပြောလိုက်သော်ငြား မိဖုရားလည်း အထူးသတိထားပြီး ရှောင်

ကွင်း၏။ မြတ်စွာဘုရားသည် 'အဆင်း'ကို အပြစ်တင်စွာ ဟောတော်မူသည်ဟု ကြားထားသည် မဟုတ်သလော။

ထို့ကြောင့် ရာဇဂြိုဟ်မြို့တွင်းသို့ မြတ်စွာဘုရား ဆွမ်းခံကြွတော်မူချိန်တွင်သာ မိဖုရားသည် ဝေဠုဝန်ဥယျာဉ်သို့ ထွက်စံလာခဲ့၏။ ဝေဠုဝန်ဥယျာဉ်မှာ တေးတျာဖွဲ့သည့်အတိုင်း လှပသာယာပါသည်။ ဆန်းကြယ်စွာပွင့်နေသော ပန်းထူးပန်းဆန်းများဖြင့် တင့်တယ်ပါသည်။

ပန်းတို့၏ အလယ်၌ ပျံကာဝဲကာ ပန်းဝတ်ရည်သုံးနေသော ပိတုန်းညိုတို့၏ တောင်ပံသံက ဆန်းကြယ်သော ဂီတသံပါ။ သာယာစွာ တွန်ကျူးသည့် ဥသြသံကလည်း နားအရသာ ရှိစဖွယ်ပါ။

ဝေဠုဝန်ဥယျာဉ်တော်သည် ဤမျှဖြင့်ကား မကျော်ကြားပါ။ ဥဒေါင်းငှက်တွေလည်း မြူးထူးရွှင်ပျစွာ ကခုန်နေကြပါသေးသည်။ ကုဋီ၊ မဏ္ဍပ်၊ ဇရပ်၊ တန်ဆောင်း၊ ကျောင်းကြီးကျောင်းငယ်တို့လည်း သန့်ရှင်းသပ်ယပ်စွာ တည်ရှိနေပြန်ပေသည်။ နေချင့်စဖွယ် ကောင်းလှပါတကား။

ကြည်နူးရွှင်ပျစွာ လှည့်လည်သွားလာနေသော မိဖုရားသည် တစ်နေရာ အရောက်၌ ငြိမ်သက်စွာ ထိုင်နေတော်မူသော ရဟန်းတော်တစ်ပါးကို ဖူးမြင်ရ၏။ ထိုအခါ အဆင်းလှခြင်း၌သာ မာန်ယစ်နေသော မိဖုရားသည် ဤသို့ ကြံစည်မိ၏။

"ဤရဟန်းပျိုကလေးမှာ အဆင်းက လှပပါဘိသနှင့်။ အရွယ်ကလေးကလည်း အသက်နှစ်ဆယ် အစိတ်ပါတကား။ ဤကဲ့သို့ အရွယ်ဖြင့် အဆင်းဖြင့်ပြည့်စုံသော ယောကျ်ားပျိုသည် ငါးပါးအာရုံ ကာမဂုဏ်အရသာကို စွန့်ပယ်ပြီးလျှင် ဦးခေါင်းကို ပြောင်စင်စွာရိတ်လျက်၊ ဖန်ရည်စွန်းသော သင်္ကန်းကို ဝတ်ရုံပြီး၊ တောမြိုင်အတွင်း၌ မပျင်းမရိ သတိမဖောက်ဘဲ တစ်ယောက်ထီးတည်း ကမ္မဋ္ဌာန်းကိုရှုကာ ရဟန်းပြု၍ နေနိုင်ပေ၏တကား"

မိဖုရားသည် ဆက်လက်လျှောက်လာရာ မြတ်စွာဘုရား သီတင်းသုံးတော်မူရာ ဂန္ဓကုဋီတိုက်ဘေးသို့ ရောက်လာသည်။ ပကတိ တိတ်ဆိတ်ငြိမ်သက်နေပေသည်။

ခေမာမိဖုရားသည် တိုက်တော်အတွင်းရှိ အခင်းအကျင်းကို မြင်လိုသည်။ မြတ်စွာဘုရား ဆွမ်းခံကြွတော်မူနေသည်လည်း ထင်သဖြင့် လေဝင်ပေါက်မှ စောင်းငဲ့ကြည့်မိ၏။

"အလို မြတ်စွာဘုရားပါတကား"

တကယ်သစ်စနေမင်းကဲ့သို့ ထွန်းလင်းသပ္ပာယ် ရောင်ခြောက်သွယ်ဖြင့် တင့်တယ်တော်မူလှသော မြတ်စွာဘုရားကို ဖူးမြင်ရသဖြင့် ဖြစ်သည်။ ထိုမှတစ်ဖန် မိဖုရား အံ့ဩရသည်မှာ ချောမောလှပပြီး ငယ်ရွယ်သော မိန်းမပျိုတစ်ယောက်သည် မြတ်စွာဘုရားအား ယပ်လေခပ်လျက် ပူဇော်နေသည်ကို မြင်ရသဖြင့် ဖြစ်သည်။

မိန်းမပျို၏ အသားအရေသည် ရွှေအဆင်းကဲ့သို့ ဝင်းဝါ၏။ ပဒုမ္မာကြာပန်းကဲ့သို့ တင့်တယ်သော မျက်ခုံးမျက်လုံးလည်း ရှိသည်။ နှုတ်ခမ်းကလေးက နီဖလံအဆင်းနှယ် ခြင်းခြင်းနီ၊ သွားကလေးတွေကလည်း သင်းခွေပန်းငုံ၊ စံပယ်ငုံအသွေးနှယ် သန့်စင်စွာ ရှုချင်စဖွယ်၊ နားရွက်ကလေးများမှာလည်း ယဉ်ကျေးသပ်ယပ်စွာ လျောက်ပတ်တင့်တယ်လှပါဘိ။ လည်တိုင်ကလေး တင့်တယ်ပုံမှာ၊ ရွှေမုရိုးစည်ကဲ့သို့ ညီညာလုံးပြေလှလွန်းပါဘိ။

ထိုကုမ္မာရီ အချောအယဉ်ကလေးသည် သီးနှသီးကင်းအလားတင့်တယ်လှပစွာသော ရင်သားကလေး၊ ရွှေပွတ်လုံး ဗဟိုချက်ကဲ့သို့ သေးသွယ်နွဲ့နှောင်း ညွတ်ပျောင်းသော ခါးကလေး၊ ရွှေငှက်ပျောပင်အလား ချောမောလှပသော ပေါင်တံကလေးဖြင့် ညိုရောင်စိမ်းဖန့် နူးညံ့သောထဘီကို ဝတ်ဆင်ထား၏။ တစ်ဖန် ဝင်းဝင်းဝါဝါ နူးညံ့လှစွာသော ပဝါကလေး

ကိုလည်း ပခုံးထက်၌ စံပယ်တင်ကာ သိုင်းခြုံထားသောကြောင့် မိဖုရား၏ မျက်စိထဲ၌ ကြည့်၍မဝ အလှကြီးလှနေ၏။

'ဩော် လှလိုက်တာ၊ ချစ်စရာကလေးပါကလား'ဟု ခေမာမိဖုရား မှတ်ထင်နေစဉ်မှာပင် ကုမ္မာရီ အချောကလေးသည် ရုတ်ချည်း ဖောက်ပြန်သွား၏။ အသွင်ဆိုးဖြင့် အရိုးအကြော ငေါငေါပေါ်ထွက်လာသည်။ မျက်စိ၊ နား၊ နှာ၊ ရုပ်ဝါ ချွတ်ယွင်းလာသည်။ ဟောက်ခွက်လျက် နက်သော မျက်တွင်း၊ ကျိုးပဲ့ယိုင်ရွဲ့သော သွား၊ ပါးရေ တွန့်ရှုံ့လျက် ဖြူဆွတ်သော ဆံပင်ဖြင့် ရှုချင်စဖွယ် အလျဉ်းမရှိသော အသွင်သို့ ဖောက်ပြန်သွား၏။

ထိုမိန်းမသည် တုန်တုန်ယင်ယင်ထလျက် တောင်ဝှေးဆွဲကာ ထသွား၏။ သည်အခါကျမှ ပိုပြီး အကြည့်ရ ဆိုးရွားသည်။ ကျိုးသော သွား၊ တွန့်လိပ်သော ပါး၊ မဲ့ခွက်သော နှုတ်ခမ်း၊ အသားမရှိ အရေခွံမျှဖြင့် တွဲလျား ကျနေသော ရင်သား၊ အရိုးအကြော ငေါငေါထွက်သော ခါးနှင့်မို့ ယခုတွင်က ရှုမြင်ရသော အဆင်းရုပ်ဝါတို့သည် ဘာတစ်ခုမျှ မရှိတော့ပြီ။

"အဆင်းရုပ်ဝါ လှပစွာသော သမီးတော် ခေမာ။ နာကျင်ဆင်းရဲ တတ်စွာသော၊ ရွံ့ရှာစက်ဆုတ်ဖွယ်သော၊ မတင့်တယ်သော အရိုးအကြော တို့ဖြင့် ဖွဲ့ဆက် စိုက်ထောင်၍ ထားအပ်သော၊

"ဟောင်စပ်ညှီပုပ် စက်ဆုတ်ဖွယ်သော အပုပ်ရည်တို့သည် တစီစီ တစိုစို ယိုထွက်အန်စီးကျသော ကိုယ်ကောင်ကြီးကို ဖြီးလိမ်းဝတ်ဆင် တပြင်ပြင် တသသ အလှစုံမက် နှစ်သက်မြတ်နိုးခြင်းသည် ဆင်းရဲရုံမျှသော အလုပ်ပို ဖြစ်ချေသည်။ ဤကိုယ်ကောင်ပုပ်၌ ဟုတ်တိုင်းမှန်ရာ ကောင်းစွာ မြင်အောင်ရှုလော့"

မမျှော်လင့်ဘဲ နာကြားလိုက်ရသော မြတ်စွာဘုရား၏ တရားတော် ဖြစ်သည်။

"ချစ်သမီးခေမာ။ တလွန့်လွန့်တလူးလူးနေသော သူအိုမကြီးအား

ရှုလော့။ ထိုသူအိုမကြီး၏ ကိုယ်ကဲ့သို့ပင် ချစ်သမီး၏ကိုယ်ကြီးသည်လည်း ရင့်ရော် ယိုယွင်း အိုမင်းတတ်သောသဘောရှိ၏။ တလွန့်လွန့် တလူးလူး နေသော သူအိုမကြီး၏ ကိုယ်သည်လည်း ချစ်သမီး၏ ကိုယ်ကဲ့သို့ပင် ယခင်အခါက အလွန်လှပ၏။ ယခုအခါသော်ကား ကြည့်ဝံ့စရာ မရှိ။ ကြောက်မက်ဖွယ် ရွံရှာဖွယ် ထိတ်လန့်ဖွယ် ဖြစ်နေပြီ မဟုတ်လော"

မကြားဖူးသော စကား၊ မနာဖူးသော တရားမို့ မိဖုရား ထိတ်လန့်သည်။

"ချစ်သမီး ခေမာ။ ဤကိုယ်၏ အတွင်းသို့လည်းကောင်း၊ ပြင်ပကို လည်းကောင်း၊ အကုန်အစင် ဟုတ်တိုင်းမြင်အောင် ဆင်ခြင်ရှုကြည့်ပြီး၊ ဤကိုယ်ကြီးအား ဖြီးလိမ်းဝတ်ဆင် တပြင်ပြင်တသသ တကြွကြွဖြင့် အလှစုံမက်နှစ်သက်မြတ်နိုး၍ မနေလေလင့်။အရိုးအကြော အသားအရေ တစ်ခုစီ တစ်ခြားစီနေအောင် ခွဲ၍ကြည့်ရှု အာရုံပြုလျက် အသုဘသညာကို ဖြစ်စေပါလော့။ မြတ်နိုးခင်တွယ်ခြင်းကို စွန့်ပစ်လေလော့။ မြတ်နိုးခင်တွယ်ခြင်းမှ ကင်းလွတ်သော်၊ အေးငြိမ်းချမ်းသာ ငြိမ်သက်စွာသော နိဗ္ဗာန်သို့ ရောက်ရာ၏"

မြတ်သောတရားတော်သည် ခေမာမိဖုရား၏ ငုပ်လျှိုးနေသော ပါရမီ သမ္ဘာရကို လှုပ်နိုးလေပြီ။ မဟာနိဒါ သုတ်တော်ကို နှစ်ပေါင်း နှစ်သောင်းပတ်လုံး လေ့ကျက်ခဲ့သူ မဟုတ်ပါလော။

"ပင့်ကူအိမ်ကို တည်ဆောက်သော ပင့်ကူသည် မိမိပြုလုပ်သော ပင့်ကူမျှင်ကို အစဉ်လိုက်၍ လျှောက်သွားရသည့်နည်းတူ အကြင်သူတို့သည် မိမိကိုယ်ကို ဖြီးလိမ်းဝတ်ဆင် တပြင်ပြင် တသသနေသော အဆင်းရုပ်ဝါ တဏှာအမြင်၌ အစဉ်လိုက်၍ နေကြရကုန်၏။ ဖြီးလိမ်းပြင်ဆင်ပြီး တသသ တကြွကြွဖြစ်နေသော တဏှာအစဉ်ကို ပယ်ဖြတ်လျက် မတွယ်တာ မငဲ့ကွက် တဏှာမဖက်သော ပညာရှိတို့သည် ကာမချမ်းသာကို ပယ်စွန့်ပြီး

ရဟန်းပြုကြကုန်၏”

မိဖုရားသည် မြတ်စွာဘုရားဟောကြားတော်မူသော တရားစကားကို နားစိုက်လျက် စဉ်းစားဆင်ခြင်ရာ ကြည်လင်ခိုင်ခံ့ တည်တံ့သောစိတ်ဖြစ်ပေါ်လာတော့သည်။ ထိုအခါ ရှင်တော်မြတ်ဘုရားသည် ခေမာ မိဖုရား၏ စိတ်ကြည်လင် ငြိမ်သက်သည်ကို သိတော်မူသောကြောင့် မဟာနိဒါနသုတ်ကို ဟောတော်မူသည်။

ခေမာမိဖုရားသည် ထိုမဟာနိဒါနသုတ်တော်ကို ကဿပမြတ်စွာဘုရားလက်ထက်တော်က နှစ်ပေါင်းနှစ်သောင်းပတ်လုံး အိမ်ထောင်မပြုဘဲ ‘ကုမ္မာရီ ဗြမ္မာစရိယသီလ’ ကို စောင့်သုံးစဉ်အခါက နှုတ်တက်အာဂုံဆောင်ခဲ့ဖူး၏။ ယခု ထိုသုတ်တော်ကို ခေမာမိဖုရား အမှတ်ရလာသည်။ ရှေးဘဝကို ထင်မြင်လာသည်။ ထိုသည့်ခဏတွင် တည်ငြိမ်သောစိတ် ရှိသည်ဖြစ်လျက် နိဗ္ဗာန်ကိုမြင်သည့်အတွက် ‘သောတာပန်’ တည်လေတော့၏။

မိဖုရားသည် မြတ်စွာဘုရား၏ ခြေတော်ရင်း၌ ဦးတိုက်ဝတ်လျှိုးရှိခိုးပြီးလျှင် ဝန်ချတောင်းပန်၏။

“မဟာကရုဏာ ကြီးကျယ်စွာဖြင့် သတ္တဝါအများကို သနားတော်မူတတ်ပါတဲ့ မြတ်စွာဘုရား။ အရှင်ဘုရားကို တပည့်တော်မ ရှိသေမြတ်နိုးရှိခိုးပါတယ်ဘုရား။ သံသရာခရီး ပင်လယ်ကြီးထဲက ကူးမြောက်တော်မူပြီးတဲ့ မြတ်စွာဘုရား။ ကာမရာဂ မိုက်မှောင်ကျပြီး ယွင်းခွဖောက်ပြားအထင်မှားခဲ့တဲ့အတွက် အရှင်ဘုရားကို မတွေ့ချင်မမြင်ချင်ဘဲ၊ ကိုယ်ကိုပြုပြင် တန်ဆာဆင် နေခဲ့ပါတယ်ဘုရား။ တပြင်ပြင် တသသ တကြွကြွနဲ့ မိုက်မှောင်ကျနေတဲ့ အမိုက်မ ခေမာကို အရှင်ဘုရားဟာ လိမ္မာသိမြင် တရားထင်အောင် ပုံသွင်းဆန်းကြယ် နည်းဥပါယ်နဲ့ ချစ်ဖွယ်၊ရွံဖွယ် နှစ်သွယ်နှစ်ဝ ရပ်ပုံပြပြီးတော့ ဆုံးမတော်မူတတ်ပါပေတယ်ဘုရား”

ခေမာမိဖုရားသည် မပြည့်စုံသေးသော တောင်းပန်စကားကို

ဆက်လက် လျှောက်ထား၏။

"အဲသည်လို များပြားစုပုံနေတဲ့ ကျေးဇူးဂုဏ်နဲ့ ပြည့်စုံတော်မူတဲ့ မြတ်စွာဘုရားကို မမြင်ရ၊ မဖူးရ၊ မတွေ့ကြုံရတဲ့ အနန္တသတ္တဝါတွေဟာ သံသရာဝဲသြဃထဲမှာ ဆင်းရဲကြီးစွာ ဘေးများစွာကို တွေ့ကြုံခံစားနေကြရပါတယ်ဘုရား။ အမိုက်မ မိခေမာဟာ မြတ်စွာဘုရားအနီးသားနဲ့ မသွားရောက်လို မမြင်လိုဘဲဖြစ်ပြီး၊ ရှောင်လွှဲပုန်းလျှိုးနေမိတဲ့အပြစ်ကို တောင်းပန်ပါတယ်ဘုရား"

သုံးလောကထွတ်ထား မြတ်စွာဘုရားသည် အေးကြည်ချမ်းမြသော အမတရေစင်ဖြင့် သွန်းလောင်း ဆွတ်ဖျန်းတော်မူသည်။

"ချစ်သမီး ခေမာ။ ငါဘုရားဆုံးမသော တရားတော်၌ ကောင်းစွာတည်၍ နေလေလော့"

"ကိလေသာရန် ဘေးအတန်တန်ကို အောင်လံစိုက်ထူတော်မူပါတဲ့ မြတ်စွာဘုရား။ အရှင်ဘုရား စီမံဖန်ဆင်းပြီး ပြတော်မူတဲ့ ရုပ်ပုံပြနည်းဥပါယ်ဟာ အံ့သြဖွယ်ကောင်းလှပါတယ်ဘုရား။ တောကို ကြည့်နေချင်တဲ့ တပည့်တော်မဟာ ထွေးရှုပ်တဏှာ တောလွတ်ရာကိုရောက်ပြီး မြတ်စွာဘုရားကို ဖူးမြင်ရပါပြီဘုရား"

ခေမာမိဖုရားသည် မြတ်စွာဘုရားအား ရိုသေစွာရှိခိုးပြီးနောက် နန်းတော်သို့ ပြန်လာသည်။ မြတ်စွာဘုရားအား ဖူးခဲ့ရခြင်း ရှိ မရှိ မေးလိုသောအကြည့်ဖြင့် ကြိုဆိုနေသော ဘုရင်မင်းမြတ်အား မထင်မှတ်သော စကားကို ပြောတော့သည်။

"အရှင်မင်းကြီး၊ ကျွန်တော်မဟာ အဆင်းရုပ်ဝါမှာ အလွန်ငြီးငွေ့တဲ့ အတွက် မြတ်စွာဘုရားရဲ့ သာသနာတော်မှာ ရဟန်းပြုခွင့်ပေးတော်မူပါ"

ဗိမ္ဗိသာရမင်းတရားမှာ အံ့လည်း အံ့သြ၏။ ဝမ်းလည်း မြောက်၏။ သို့ကြောင့် ကြည်နူးအားရစွာ မိန့်တော်မူ၏။

"ရှင်မိဖုရားရဲ့ ရဟန်းအဖြစ်ဟာ ပြည့်စုံ ပြီးမြောက်ပါစေဗျား"

ခေမာမိဖုရားသည် ခေမာထေရီ ဖြစ်လာပေပြီ။

ခေမာထေရီ အရှင်မသည် ရဟန်းပြု၍ လခွဲအကြာတွင် တောက်လောင်နေသော ဆီမီးကို ကြည့်ရှုဆင်ခြင်တော်မူသည်။

ဆီမီး၏ တောက်လောင်ခြင်းကိုလည်းကောင်း၊ ဆီမီး၏ငြိမ်းခြင်းကိုလည်းကောင်း ကြည့်ရှုဆင်ခြင်သောအခါ သံဝေဂစိတ်ဖြင့် အလုံးစုံသော သင်္ခါရတရားတို့ကို ငြီးငွေ့စေလျက်၊ ပဋိစ္စသမုပ္ပါဒ် အကြောင်းစပ်၍ တတ်သိလိမ္မာ လေးဖြာလွန်မြောက် အရဟတ္တဖိုလ်သို့ ရောက်တော်မူ၏။

အရှင်မသည် အရဟတ္တဖိုလ်သို့ ရောက်ကာ "ဣဒ္ဓိဝိဓ၊ ဒိဗ္ဗသောတ၊ ပရစိတ္တဝိဇာနာန၊ ပုဗ္ဗေနိဝါသာနုဿတိ၊ ဒိဗ္ဗစက္ခု" ဟူသော အဘိညာဉ် ငါးပါး၊ အာသဝက္ခယဉာဏ်တည်းဟူသော လောကုတ္တရာ အရဟတ္တဖိုလ် စိတ်ကို ထည့်၍ အဘိညာဉ်ခြောက်ပါး။ အတ္ထ၊ ဓမ္မ၊ နိရုတ္တိ၊ ပဋိသမ္ဘိဒါ လေးပါး။ ဤတရားမြတ်တို့ကို အလုံးစုံရပြီး၍၊

သီလဝိသုဒ္ဓိ၊ စိတ္တ၊ ဒိဋ္ဌိ၊ ကင်္ခါဝိတရဏ၊ မဂ္ဂါမဂ္ဂဉာဏဒဿန၊ ပဋိပဒါဉာဏဒဿန၊ ဉာဏဒဿနဝိသုဒ္ဓိဟူသော ဝိသုဒ္ဓိခုနစ်ပါး။ ကထာဝတ္ထုဆယ်ပါးနှင့် အဘိဓမ္မာနည်းတို့၌ ကောင်းစွာလေ့လာ ကျွမ်းကျင်ပြီး မြတ်စွာဘုရား၏ သာသနာတော်၌ မိန်းမရဟန္တာ ဖြစ်လာကာ နိဗ္ဗာန်ကို မျက်မှောက်ပြုရပေ၏။

ခေမာထေရီ အရှင်မသည် ရဟန္တာအဖြစ်သို့ ရောက်တော်မူပြီးနောက် တစ်နေ့သ၌ တစ်ခုသောသစ်ပင်ရင်းဝယ် တည်ကြည်ငြိမ်သက်စွာ နေသည့်အခိုက် ဝဿဝတ္တီမာရ်နတ်သည် ရောက်လာ၏။

"ရဟန်းမကလေး၊ မယ်မင်းဟာ ငယ်လှပါသေးတယ်။ အဆင်းကလည်း လှပပါဘိသနဲ့၊ ရဟန်းလုပ် မနေနဲ့ဦး။ ငါလည်း လုလင်ပျိုရွယ် ငယ်သေးတဲ့အတွက် အတူတကွ ပွဲလမ်းသဘင်မှာ ပျော်ရွှင်ချင်တယ်။ ငါ

ခေါ်ရာကို အခုပဲ လိုက်ခဲ့ပေတော့၊ တူရိယာငါးပါးနဲ့ ပျော်ပျော်ပါးပါး ကစား မြူးထူးကြပါစို့"

လုလင်ပျိုအသွင် ဖန်ဆင်းထားသော နတ်မိုက်သည် စင်စစ်အား ဖြင့် ကာမဂုဏ်ကို လိုလား၍မဟုတ်။ အရှင်မ၏ ရဟန္တာအဖြစ်ကို မသိသေး သဖြင့် သီလပျက်စေရန် လာရောက်နှောင့်ယှက်ခြင်းသာ ဖြစ်၏။

"မိစ္ဆာသူနပ် မာရ်နတ်ယုတ်။ ကိုးဆယ့်ခြောက်ဖြာ ဘေးရောဂါ ဖြင့် နာကျင်တတ်ထသော၊ ဖရိုဖရဲ ဖောက်လွဲကြေမွ ပျက်စီးတတ်လှသော ဤကိုယ်ကောင်ပုပ်အား ငါသည် စက်ဆုတ်ရွံရှာလှ၏။ ပုထုဇဉ်မိုက်တို့ အလွန်ကြိုက်သော၊ အမိုက်တဏှာ ကျင့်ယုတ်မာကို ငါသည် မဂ်လေးရပ် ဖြင့် ပယ်ဖြတ် သုတ်သင်ပြီးပြီ"

ခေမာထေရီ အရှင်မ၏ တုံ့ပြန်စကား ဖြစ်သည်။

"ကာမဂုဏ်တို့သည် အဖျားချွန်ထက်လှစွာသော လှံသွားနှင့် တူကုန်၏။ ရုပ်နာမ်ခန္ဓာတို့သည် အမဲသားစဉ်းခုတ်သော စဉ်းတီတုံးနှင့် တူကုန်၏။ သင်မာရ်နတ်သည် အကြင်ကာမဂုဏ်တို့ဖြင့် ပျော်မွေ့ခြင်းကို ဆိုလာ၏။ ငါထေရီမကား ထိုကာမဂုဏ် ပျော်မွေ့လိုခြင်းတို့ မရှိတော့ပြီ"

ထိုစကားကို ကြားသောခဏဝယ် 'ငါ့အား မာရ်ယုတ်ဟု အရှင်မ သိနေပါတကား'ဟု ထိတ်လန့်စွာ တွေးမိသဖြင့် တစ်ခဏအတွင်းမှာပင် မာရ်နတ် ပျောက်ကွယ်သွားလေ၏။

တစ်ရံရောအခါတွင် ခေမာထေရီ အရှင်မသည် သာဝတ္ထိမြို့နှင့် သာကေတမြို့၏အကြားရှိ တောရဏဝတ္ထုမြို့၌ သီတင်းသုံးနေတော်မူ၏။ ကောသလမင်းကြီးလည်း ထိုမြို့သို့ရောက်လာရာ၊ ကြုံကြိုက်ခိုက်တွင် အရှင်မအား ဝင်ရောက်ဖူးမြော်ရင်း သိမ်မွေ့နက်နဲ ခက်ခဲသည့် ပြဿနာ များကို မေးလျှောက်သည်။

ခေမာထေရီ အရှင်မသည် ထိုမင်း၏ လျှောက်ထားချက်ကို

လွယ်လင့်တကူ ဖြေကြားတော်မူ၏။ မင်းသည် ကောင်းစွာမကျေလည်သော ကြောင့် သာဝတ္ထိသို့ ပြန်အရောက်တွင် မြတ်စွာဘုရားထံတော်သို့ သွားရောက်ကာ ထိုပြဿနာကိုပင် လျှောက်ထားပြန်သည်။ မြတ်စွာဘုရား၏ အဖြေတော်သည် ခေမာထေရီ အရှင်မ ရှင်းလင်းဟောကြားလိုက်သည်နှင့် တစ်ထပ်တည်း ဖြစ်နေလေရာ ကောသလမင်းမှာ ချီးမွမ်းအံ့သြ၍ မဆုံးတော့ချေ။

မြတ်စွာဘုရားသည် တပည့်သား သာဝကတို့အား ထိုက်သက်ရာ ဧတဒဂ် ထားတော်မူသောအခါ ခေမာထေရီ အရှင်မအား 'မဟာပညာ ဧတဒဂ်' အရာပေးတော်မူ၏။



## ၃။ ဣဒ္ဓိမန္တ တေဒဂ်ရ ထေရီ

လွန်ခဲ့သော ကမ္ဘာတစ်သိန်းထက်၌ ပဒုမုတ္တရ မြတ်စွာဘုရား ပွင့်တော်မူချိန် ဝယ် ဥပ္ပလဝဏ်ထေရီ အရှင်မလောင်းလျာသည် နဂါးဘဝ၌ ရောက်ရှိနေ၏။ နဂါးမကလေး၏ အမည်မှာ 'ဝိမလာ' ဟူ၏ဟူသည်း။

ဝိမလာ၏ဖခင် နဂါးမင်းကြီးသည် ရတနာသုံးပါး၌ သဒ္ဓါတရား ထက်သန်သူဖြစ်သည်။ ထို့ကြောင့် မြတ်စွာဘုရား အမှူးရှိသော သံဃာတော် များအား နဂါးပြည်သို့ ပင့်ဖိတ်ကာ အထူးထူးမွမ်းမံထားသော မဏ္ဍပ် အတွင်း၌ ဆွမ်း၊ အဖျော်၊ ခဲဖွယ်ဘောဇဉ်များ ဆက်ကပ်လှူဒါန်းသည်။

ဝိမလာမှာ မြတ်စွာဘုရားနှင့် သံဃာတော်များအား ဖူးမြော်၍မဝ၊ ကြည်ညို၍မဆုံးအောင် ရှိနေတော့သည်။ ထိုအခြင်းအရာကို သိမြင်တော် မူသော မြတ်စွာဘုရားသည် အဂ္ဂသာဝိကာ 'ဘိက္ခုနီထေရီ' အား ရှေ့တော် သို့ ခေါ်တော်မူပြီး တန်ခိုးပြရန် မိန့်တော်မူသည်။

အဂ္ဂသာဝိကာ ထေရီသခင်မသည် အသူတစ်ရာမြင့်သော ဗြဟ္မာ မင်းသဏ္ဍာန် ဖန်ဆင်းပြသည်။ ထိုကိုယ်ဖြင့်ပင် သမုဒ္ဒရာ ရေပြင်ပေါ်၌

စကြိုလျှောက်လျက် နေ၀န်း၊ လ၀န်းကို ဒုကုဋ္ဌကြား၌ထည့်ပြီး စကြ၀ဠာ တောင်ကို လှည့်လည်ပြသ၏။

ဤသည်ကို နဂါးမကလေး ၀ိမလာ ဖူးမြင်ရသည်။ ဤထေရီ အရှင်မကဲ့သို့ ဖြစ်လိုသောဆန္ဒ ပြင်းပြစွာ ပေါ်လာ၏။ ထို့ကြောင့် ငါးပါး သီလကို ခံယူဆောက်တည်ပြီး၊ မြတ်စွာဘုရား အမှူးပြုသော သံဃာတော် အရှင်မြတ်တို့အား 'အရဏ' ကြာပန်းဖြင့် ပူဇော်သည်။

"တပည့်တော်မသည် ဤကဲ့သို့ ပြုရသော ကောင်းမှုအကျိုး အားကြောင့် နောင်သောအခါ၀ယ် ဤပန်း၏ အရောင်အ၀ါကဲ့သို့ လှပသော ကိုယ် ရှိရပါလို၏ဘုရား။ ဤတန်ခိုးကြီးမားသော ထေရီအရှင်မကဲ့သို့ လည်း နောင်ပွင့်တော်မူလတ္တံ့သော မြတ်စွာဘုရား၏ သာသနာတော်၌ သာ၀ိကာအရှင်မ ဖြစ်ရပါလို၏ဘုရား"

၀ိမလာသည် ပဒုမုတ္တရ မြတ်စွာဘုရားထံတော်၌ ဆုတောင်း၏။

နဂါးမ ၀ိမလာဒေ၀ီသည် ဤဘ၀မှ စုတေခဲ့သောအခါ ထို ကောင်းမှုကံကြောင့် လူ့ဘုံနတ်ရပ်တို့၌ ကျင်လည်ခဲ့ပြီးမှ ဟံသာ၀တီပြည် ၀ယ် ကုဋေလေးဆယ်ကြွယ်၀သော သူဌေးသမီးဖြစ်လာ၏။ ထိုအချိန်၀ယ် ပဒုမုတ္တရမြတ်စွာဘုရားသည် ပရိနိဗ္ဗာန် ပြုတော် မမူသေးချေ။

သူဌေးသမီးသည် နဂါးဘ၀က ရတနာသုံးပါး၌ လွန်စွာကြည်ညို ခဲ့သည့်နည်းတူ၊ ယခုဘ၀၌လည်း သရဏာဂုံဆောက်တည်လျက် မြတ်စွာ ဘုရား၏ တရားတော်ကို မပြတ်နာယူ၏။

တစ်နေ့သောအခါတွင် သူဌေးသမီးပါ၀င်သော ပရိသတ်ကြီး သည် မြတ်စွာဘုရား၏တရားတော်ကို နာယူနေကြ၏။ ထိုစဉ်တွင် မြတ်စွာ ဘုရားသည် ဘိက္ခုနီတစ်ပါးအား ဧတဒဂ် ထားတော်မူ၏။ ထိုအရှင်မ ခံယူ ရရှိသော ဧတဒဂ်မှာ တန်ခိုးကြီးမားသောအရာ၌ ဖြစ်သည်။

သူဌေးသမီးလည်း ဧတဒဂ်ရ အရှင်မကဲ့သို့ ဖြစ်လိုသည်။ သို့

ကြောင့် မြတ်စွာဘုရားအမှူးပြုသော သံဃာတော် အရှင်မြတ်များအား ဆွမ်း၊ ခဲဖွယ် ဘောဇဉ်နှင့် သင်္ကန်းများ ဆက်ကပ်လှူဒါန်းပြီးလျှင် "အထက်ပါ အရှင်မလိုပဲ ဣန္ဒိမန္တတေဒဂ် ရ ရပါလို၏ဘုရား" ဟု ဆုပန်ခြွေလိုက်လေ၏။

အထက်ပါ သူဌေးသမီးသည် ထိုဘဝမှ ကွယ်လွန်ခဲ့ပြီးနောက် ကောင်းမြတ်သောဘဝများ၌ အထပ်ထပ်အဖန်ဖန် စုန်ဆန်ကျင်လည်ခဲ့ကာ ကဿပမြတ်စွာဘုရား၏ ရွှေလက်ထက်တော်၌ ဗာရာဏသီပြည့်ရှင် ကိကီမင်းကြီး၏ သမီးတော် 'သမဏာဂုတ္တာ' ဖြစ်လာလေ၏။

မင်းသမီး သမဏာဂုတ္တာသည် သာသနာတော်၌ သဒ္ဓါတရား ထက်သန်သောကြောင့် မိန်းမရဟန်း ပြုလို၏။ သို့ရာတွင် ခမည်းတော် မယ်တော်တို့က ခွင့်မပြုသောကြောင့် 'ကုမာရိဗြဟ္မစာရီသီလ'ကိုသာ အနှစ်နှစ်သောင်းပတ်လုံး ကျင့်သုံးဆောက်တည်ရင်း၊ ကျောင်းကန်၊ဇရပ်၊ ရေတွင်း ရေကန်များ ဆောက်လုပ်လှူဒါန်းလျက် နေထိုင်ခဲ့ရသည်။

သမဏာဂုတ္တာမင်းသမီးသည် ထိုဘဝမှ ကွယ်လွန်ပြီးနောက် လူ့ပြည်နတ်ပြည်တို့၌ အလီလီစံစားခဲ့ရငြား တစ်ခုသောအကုသိုလ်ကံ ဖိစီးသဖြင့် ဗာရာဏသီပြည်ဝယ် သူဆင်းရဲ၏သမီး ဖြစ်လာရချေသည်။

သူဆင်းရဲမကလေးသည် အရွယ်ရောက်လာသောအခါ ထုံးစံအတိုင်း လှပချင်သည်။ ဝတ်စားဆင်ယင် လိုသည်။ သို့ရာတွင် မိဘများမှာ ဆင်းရဲလှသည်။ ဤအတောအတွင်း၌ အရပ်ထဲတွင် နက္ခတ်သဘင်ပွဲ ပေါ်လာသည်။

"အဖေတို့၊ အမေတို့။ သမီးကို ပန်းဝတ်တစ်ထည် ဝယ်ပေးကြပါ"

ဆင်းရဲသူမကလေးက ပူဆာသည်။

"သမီး၊ အမေတို့မှာ စားဖို့တောင် ပင်ပင်ပန်းပန်း လုပ်ကိုင်ရှာကြံကြရတယ်။ ပန်းဝတ်တန်ဆာကို ဘယ်လိုလုပ်ပြီး ဝယ်ပေးနိုင်မှာတုန်း။ အေး.... ပန်းဝတ်တန်ဆာ လိုချင်ရင်တော့ ကြွယ်ဝတဲ့လူတစ်ဦးဦးထံမှာ

အစေအပါးခံပြီး ဝတ်ဖို့ကလွဲလို့ တခြား နည်းလမ်းမရှိဘူး သမီး"

မိခင်ဖြစ်သူ၏ နည်းပေးလမ်းပြမှုအရ မိန်းကလေးသည် သူဌေးကြီး တစ်ယောက်ထံ၌ သုံးနှစ်စာရင်းနှံပြီး အစေအပါးခံသည်။ သို့ရာတွင် အမှုကြီး အမှုငယ်တို့၌ မခိုမကပ် ကျိုးနွံစွာဆောင်ရွက်ဖော်ရသည့်အတွက် သူဌေးလင်မယားက ချစ်ခင်သနားပြီး သုံးနှစ်မပြည့်မီပင် ပန်းဝတ်တစ်စုံ ပေးလိုက်ကြလေ၏။

အလွန်လိုချင်မက်မောသော ပန်းဝတ်ထည်ကို ရင်ဝယ်ပိုက်လျက် အိမ်သို့ ပျော်ရွှင်စွာပြန်လာသော သူဆင်းရဲမကလေးသည် သစ်ရွက်တွေ ပတ်လာသော ရဟန်းတစ်ပါးကို ဖူးမြင်ရသည်။

'အင်း.... အရှင်မြတ်ရဲ့ သင်္ကန်းကို သူခိုးဓားပြတွေ လုယူလိုက်ပြီထင်ရဲ့'

ထိုအသိနှင့် တစ်ပြိုင်နက်ပင် မိန်းကလေး ဆင်ခြင်မိသည်။

"ငါဟာ အရင့်အရင် ဘဝတွေတုန်းက ဒါနမပြုခဲ့လို့၊ အခုဘဝမှာ တစ်ဆယ့်ခြောက်နှစ်သမီး ဖြစ်လာတဲ့အထိ ပန်းဝတ်တန်ဆာ တစ်ထည်ကလေးမျှ မရှိခဲ့ဘူး။ မရှိလို့ တောင့်တလိုက်ရတာ။ အခုလည်း မလှူဒါန်းဘဲနေဦးမယ်ဆိုရင် နောင်ဘဝလည်း ဆင်းရဲဦးမှာပဲ။ ဒါကြောင့် သုံးနှစ်ကျွန်ခံမှ ရတဲ့ သည်အထည်ကို ငါလှူမယ်"

ထိုသို့ ကြံမိသည်နှင့် တစ်ပြိုက်နက်တည်း၊ သူဆင်းရဲမကလေးသည် ရဟန်းတော်၏ရှေ့တွင် ရိုသေစွာ ထိုင်မိသည်။

"အရှင်မြတ်ဘုရား။ တပည့်တော်မကို သနားသောအားဖြင့် ဟောသည် လှပတဲ့ ပန်းပွင့်ခြယ် ပုဆိုးအစုံကို အလှူခံတော်မူပါဘုရား"

အရှင်မြတ်မှာ ကဿပမြတ်စွာဘုရား၏ သာဝကရဟန္တာတစ်ပါးဖြစ်ပေသည်။ ထိုအရှင်မြတ်သည် ကလေးမ လှူဒါန်းသော အဝတ်ကို လက်ခံ ဝတ်ဆင်တော်မူသည်။

အလှုရှင် ဒါယိကာမကလေးသည် ထွက်သစ်သော နေလုလင်ကဲ့သို့ ရှုချင်စဖွယ် တင့်တယ်သော အရောင်အဝါကို ဖူးမြင်ရသဖြင့် ဝမ်းမြောက် ရွှင်လန်းစွာ ဆုပန်ထွာသည်။

"တပည့်တော်မဟာ သည်သင်္ကန်းကို ဆက်ကပ်လှုဒါန်းရသော အကျိုးအားကြောင့် ရှည်လျားဘဝ နောင်ကာလတို့မှာ လှပတင့်တယ် ရှုချင်စဖွယ် အရောင်အဝါနဲ့ ပြည့်စုံတဲ့ အမျိုးကောင်းသမီး ဖြစ်ရပါလို၏ ဘုရား။ ယောကျ်ားတကာ စေတနာပြန့်ပြူးပြီး မူးရူးတိမ်းညွတ်သူ ဖြစ်ရပါလို၏"

ရဟန္တာအရှင်မြတ်သည် လျှောက်ပတ်သော အနုမောဒနာ ပြုပြီး ကြွတော်မူ၏။ စေတနာရှင် သူဆင်းရဲမကလေးသည် အသက်အတိုင်းနေပြီး နောက် ကွယ်လွန်ခဲ့လျှင် နတ်ပြည်၌ တစ်ကြိမ်ဖြစ်ပြီးမှ သိဝိတိုင်း အရိဋ္ဌပူရ ပြည်၌ သူဌေးသမီး ဖြစ်လာ၏။ သူဌေး၏အမည်မှာ တိရိတိဝစ္ဆ ဖြစ်၏။ ထိုသူဌေးသမီးသည် ငယ်ရွယ်စဉ်အခါကပင် မြင်မြင်သမျှ မိန်းမ ယောကျ်ားတို့ လေးမြတ်စဖွယ် တင့်တယ်သော အရောင်အဝါရှိသဖြင့် 'ဥမ္မာဒန္တီ' ဟူသော အမည်ကိုပေး၏။

ဥမ္မာဒန္တီ သတို့သမီး ၁၆ နှစ်အရွယ်သို့ ရောက်လာချိန်ဝယ်၊ ပကတိ လူ၏အလှကိုလွန်၍ နတ်သမီးတမျှလှပသည်။ ၎င်းအား မြင်ရသော ယောကျ်ားတို့သည် တပ်မက်သောစိတ်ဖြင့်ကြည့်မိပါက သည်းပွတ်လိုက်ဆူလျက် သုရာယစ်သော ယောကျ်ားအလား တိမ်းပါး ရူးသွပ်ကြရသည်။

ထိုမျှ လှပသော သတို့သမီးကို သည်အတိုင်းထားလျှင် အန္တရာယ်များသောကြောင့် အဖသူဌေးကြီးသည် သိဝိရာဇ်မင်း၏ ရှေ့တော်သို့ဝင်၍ လျှောက်ထားသည်။

"အရှင်မင်းမြတ်၊ ကျွန်တော်မျိုးရဲ့အိမ်မှာ အရှင်မင်းမြတ်နဲ့သာ ထိုက်တန်တဲ့ သမီးရတနာရှိပါတယ်ဘုရား။ လက္ခဏာကြန်အင်ကို စစ်ဆေး ကြည့်ပြီး ဆောင်ယူတော်မူပါ"

သိဝိရာဇ် ဘုရင်မင်းမြတ်လည်း ဝမ်းမြောက်ဝမ်းသာ လက်ခံတော်မူသည်။ နောက်တစ်နေ့တွင် လက္ခဏာကြန်အင်အရာ၌ ကျွမ်းကျင်လိမ္မာသော ပုဏ္ဏားတို့ကို သူဌေးအိမ်သို့ စေလွှတ်လိုက်သည်။

တိရိတိဝစ္ဆ သူဌေး၏ အိမ်သားများသည် ပုဏ္ဏားများကို စားကောင်းသောက်ဖွယ်ဖြင့် ဧည့်ခံကြသည်။ ပုဏ္ဏားတို့ အလုအယက် စားသောက်နေကြစဉ် ဥမ္မာဒန္တီသည် အခန်းထဲမှ ထွက်လာသည်။ ၎င်းအား ပုဏ္ဏားတို့မြင်သောအခါ မိမိတို့၏ အခြေအနေ အဆင့်အတန်းကို မထောက်ဆနိုင်၊ မထိန်းသိမ်းနိုင်ဘဲ သတိ လက်လွတ်ကုန်ကြသည်။ စားစရာကို ပါးစပ်ထဲ မခွံ့ဘဲ ခေါင်းပေါ်တင်သူ တင်၊ ချိုင်းကြားညှပ်သူ ညှပ်၊ မျက်ဆန်ချာချာလည်လျက် လဲကျကုန်ကြလေ၏။

ဆရာပုရောဟိတ်တို့၏ အဖြစ်ကိုကြည့်ကာ၊ ဥမ္မာဒန္တီ စိတ်ပျက်သွားသည်။

"ပြည့်ရှင်မင်းကြီးက ငါ့လက္ခဏာကို အကြည့်ခိုင်းလိုက်တဲ့ ပုဏ္ဏား ပညာရှိကြီးတွေတဲ့။ ဒါလား ပညာရှိ။ ရှုးကုန်ကြပါပြီကော"

ထိုသို့ သဘောပေါက်သော ဥမ္မာဒန္တီသည် အစေအပါးတို့အား အမိန့်ပေးလိုက်သည်။

"လမ်းမကို ဆွဲထုတ်ပစ်လိုက်ကြစမ်း။ ပညာရှိဆိုတာ သတိရှိရတယ်။ သိက္ခာ ရှိရတယ်။ ဣန္ဒြေ ရှိရတယ်။ အခုတော့ အရူးတွေ"

အစေအပါးများလည်း ပုဏ္ဏားများကို ကြိုးဖြင့်တုပ်သူက တုတ်သည်။ ကုပ်မှဆွဲသူက ဆွဲသည်။ ထို့နောက် လမ်းမ ဖုန်တောထဲသို့ ပစ်ချထားလိုက်သည်။ လမ်းသွားလမ်းလာများက ပုဏ္ဏားများအား လှောင်ပြောင်ကြသည်။ ကဲ့ရဲ့ကြ ရှုံ့ချကြသည်။

သို့အတွက် အရှက် အကွဲကြီးကွဲသော ပုဏ္ဏားများသည် ဥမ္မာဒန္တီအား အငြိုးထားပြီး ပြည့်ရှင်မင်းထံ မမှန်မကန် လျှောက်ထားကြ၏။

"အရှင်မင်းကြီး၊ ဉမ္မာဒန္တီဟာ အဆင်းအဝါ တင့်တယ်ပေမယ့် မိန်းမမြတ် မဟုတ်ပါဘုရား။ မိဖုရားအရာနဲ့ မထိုက်တန်ပါဘုရား"

သိဝိရာဇ်မင်းကြီးသည် ပုဏ္ဏားတို့၏ ကုန်းစကားကို ယုံကြည်တော်မူသည်။ သို့ကြောင့် ဉမ္မာဒန္တီအား လျစ်လျူပြုထားလိုက်တော့သည်။

တိရိတိဝစ္ဆသူဌေးလည်း မိမိသမီးအား ဘုရင်မင်းမြတ် အလိုမရှိကြောင်း သိသောအခါ စစ်သူကြီး 'အဘိပါရက' နှင့် ဆောင်နှင်းထိမ်းမြားပေးလိုက်လေသည်။ စစ်သူကြီးကား ပညာရှိသောကြောင့် ဉမ္မာဒန္တီအား မိန်းမရတနာ မိန်းမမြတ်အဖြစ် သိသည်။ သိသည့်အလျောက် စစ်သူကြီးတစ်ယောက်၏ မြောက်စားမှုတွင် အဆုံးစွန် အခေါင်အဖျား မြောက်စားလေ၏။

တစ်ရံရောအခါတွင် နေပြည်တော်အတွင်း၌ နက္ခတ်သဘင်ပွဲ ကျင်းပရန် ပြင်ဆင်နေကြ၏။ စစ်သူကြီးမှာလည်း မင်းမိန့်ဖြင့် ခရီးထွက်ရန် အကြောင်း ပေါ်လာချေ၏။ သို့အတွက် ခရီးထွက်ခါနီး၌ မြောက်သား ဉမ္မာဒန္တီအား သေချာစွာ မှာကြားခဲ့၏။

"ချစ်နှမ၊ မကြာမီ ကျင်းပတော့မယ့် သဘင်ပွဲတော်ကို ငါတို့မင်းကြီးဟာ ရထားစီးပြီး လှည့်လည် ရှုစားတော်မူလိမ့်မယ်။ အဲဒီအခါမှာ ချစ်နှမရဲ့ အဆင်းပြင်လျာကို မပြနဲ့။ ပြရင်တော့ ချစ်နှမနဲ့ ငါနဲ့ ကွေကွင်းကြရလိမ့်မယ်"

"အရှင်၊ စိုးရိမ်တော် မမူပါနဲ့။ ကြွစရာရှိရာကိုသာ စိတ်နှလုံးဖြောင့်ဖြောင့်နဲ့ ကြွတော်မူပါ"

ဉမ္မာဒန္တီသည် လင်ရှေ့တွင်သာ ကျိုးနွံစကား ပြောလိုက်သော်ငြား စိတ်ထဲတွင်ကား သိဝိရာဇ်မင်းကြီးအား ကြီးမားသော အာဃာတဖြင့် လက်စားချေလိုစိတ် ပြင်းပြနေသည်။

"ပုဏ္ဏားမိုက်တို့၏ ကုန်းစကားကို ယုံစားတဲ့ဘုရင်။ ငါဟာ မိန်းမ

ယုတ် ဟုတ်မဟုတ်၊ မကြာမီ သိရစေမယ်"

သို့အတွက် ဥမ္မာဒန္တီသည် နက္ခတ်သဘင်ပွဲညဉ့် မိမိတို့အိမ်အနီးသို့ ဘုရင်မင်းမြတ်ရောက်လျှင် မိမိအား အကြောင်းကြားရန် အစေအပါးတို့အား မှာကြားထားလေ၏။

တန်ဆောင်မုန်း လပြည့်နေ့ည ဖြစ်သည်။

အရှေ့လောကဓာတ်မှ ငွေလဝန်းကြီး ထွက်ပြူလာပြီ။ မြို့သူမြို့သားတို့၏ ဆီမီးရောင်နှင့် ငွေလမင်းတို့ အလုပြိုင်နေကြစဉ် သိဝိရာဇ်မင်းကြီးသည် ရထားစီးလျက် ထွက်စံတော်မူလာ၏။ အခြွေအရံ များစွာမပါချေ။ အိမ်စဉ်လည်၍ အေးဆေးစွာ ရှုစားတော်မူ၏။

ဥမ္မာဒန္တီသည် ကောင်းစွာပြုပြင် တန်ဆာဆင်လျက် အိမ်ရှေ့သို့ထွက်လာ၏။ ဘုရင်မင်းမြတ်၏ ရထား မိမိအနီးသို့ ရောက်လာပြီ။ ရထားဘေးသို့ကပ်ကာ နတ်၏ရနံ့နှင့်တူသော ကိုယ်သင်းနံ့ကို သင်းပျံ့မွှေးထုံစေလျက် ရွှေခွက်ထဲမှ ပန်းဝတ်မှုံများကို ရထားပေါ်သို့ ကြဲပက်လေ၏။ သိဝိရာဇ်မင်းကြီးမှာ ဥမ္မာဒန္တီအား နတ်သမီးထင်လျက် သတိလက်လွတ်မထိန်းနိုင်မသိမ်းနိုင် ဖြစ်ရကာ ရထားထိန်းထံတွင် စုံစမ်းတော်မူ၏။

"အမောင် ရထားထိန်း၊ ဤအိမ်ကား မည်သူ့အိမ်နည်း။ သည်နတ်သမီးကား မည်သူ့ဇနီးပေနည်း"

"အရှင်မင်းမြတ်၊ သည်အိမ်ဟာ စစ်သူကြီး အဘိပါရကရဲ့ အိမ်ပါဘုရား။ နတ်သမီးလား ထင်မှားရတဲ့ မိန်းမကတော့ အရှင်မင်းကြီး မလိုချင်လို့ စစ်သူကြီးက ကောက်ယူလိုက်ရတဲ့ ဥမ္မာဒန္တီပါဘုရား"

သိဝိရာဇ်မင်းကြီးမှာ ထိုခဏဝယ် မြင်းမိုရ်ဖျားမှ လျှောကျသောအသုရာ။ အသပြာတစ်သိန်းမျှ ဆုံးရှုံးလိုက်ရသော ယောကျာ်းကဲ့သို့နှလုံးသား ပွက်ပွက်ဆူလျက်၊ သည်းအူပြောင်းပြန် လန်ဘနန်း ပင်ပန်းတုန်လှုပ်သည်။ သို့ကြောင့် နက္ခတ်သဘင်ပွဲကို ပျော်ရွှင်စရာဟု မထင်နိုင်တော့

သဖြင့် နန်းတော်သို့ လှည့်ပြန်ခဲ့တော့သည်။

"ဥမ္မာဒန္တီ နတ်သမီးကား၊ ဒေဝီ ငါ့မှာ ဖြစ်သင့်ပါလျက် ယုတ်မာမိုက်မဲ ပုဏ္ဏားမွဲတို့ကြောင့် ငါ့မှာ အလွဲကြီးလွဲရသည်။ လူတို့ဘုံတွင် မကြုံဖူးဘိ အံ့ဖွယ်ရှိသော ဣတ္ထိရတနာ လာဘ်မဟာကို ငါရှုံးရပြီ။ ကံကောင်းမကာ သိကြားလာ၍ ငါ့အား ယခု ဆုပေးငြားအံ့။ တစ်ပါးဆုကို မယူလိုပြီ၊ ဥမ္မာဒန္တီ ကျော်ညီတွင်ထ မိန်းမလှကိုသာ ရလိုပါ၏ဟု ငါ ဆုယူအံ့"

သိဝိရာဇ်မင်းကြီးသည် ထိုသို့မြည်တမ်းလျက် ရှူးသွပ်ခြင်းသို့ ရောက်လေ၏။ မိဖုရားနှင့် မှူးမတ်အများ ခစားမေးမြန်းကြငြား၊ တစ်စုံတစ်ရာ မဖြေကြား။ တဟင်းဟင်း တဟဲဟဲ ညည်းတွားကာသာ လူးလိမ့်နေ၏။

အဘိပါရက စစ်သူကြီးလည်း ခရီးသွားရာမှ ပြန်ရောက်လာလျှင် မင်းတရား၏သတင်းကို ကြားရသဖြင့် အလျင်တဆော ပြေးလာခစား၏။

"အရှင်မင်းကြီး ဘာရောဂါပါလဲဘုရား။ ဘာ အလိုမကျလို့ စားတော် မခေါ်၊ စက်တော် မခေါ်ဘဲ တညည်းညည်း တညူညူ ဖြစ်နေရတာလဲ ဘုရား။ ကျွန်တော်မျိုးကို မိန့်တော်မူပါ။ အရှင့်ဆန္ဒ ချက်ချင်း ပြည့်ဝစေရပါမယ်ဘုရား"

ဘုရင်မင်းမြတ်ကား တစ်စုံတစ်ရာ မိန့်တော် မမူချေ။ သို့ရာတွင် စစ်သူကြီးကား သူ့မယားကြောင့် ဘုရင်ကြီးရူးရသည်ကို သိပြီးဖြစ်၏။ သို့ဖြစ်သဖြင့် မင်းချင်းတစ်ယောက်အား လိုက်နာဆောင်ရွက်ရန်များကို မှာကြားပြီး စေလွှတ်လိုက်၏။ ထိုသူလည်း မင်းကြီး ဗလိနတ်စာ ကျွေးမြဲ ညောင်ပင်သို့လာပြီး ညောင်ခေါင်းထဲသို့ ဝင်နေလေ၏။

စစ်သူကြီးလည်း မှူးမတ်များကိုခေါ်ကာ ညောင်ပင်သို့ စေလွှတ်လိုက်သည်။ ပြုဖွယ်ကိစ္စများ ဆောင်ရွက်ပြီးနောက် သမားတော်၊ ပုဏ္ဏားတော်များနှင့် မှူးမတ်များက "အသင်နတ်မင်း။ ပြည့်ရှင်မင်းမှာ ကပ်ငြိနေတဲ့

ရောဂါကို ဘယ်လိုကုစားရမယ်ဆိုတာ မိန့်ကြားပါ”ဟု ပြောကြသည်။

ထိုအခါ သစ်ခေါင်းထဲ၌ နတ်အတုက အသံဖျက်ပြီး ပြောသည်။

“ဟယ် လူသားတို့၊ သင်တို့မင်းမှာ တစ်ပါးသော ရောဂါမရှိ။ အဘိပါရကစစ်သူကြီး၏ မြောက်သား ဥမ္မာဒန္တီကို ခင်မင်တိမ်းညွတ်သဖြင့် ရူးသွပ်ခြင်းဖြစ်လေသည်။ ဥမ္မာဒန္တီကို လျှင်လျှင်မြန်မြန်စွာရပါမှ ချမ်းသာလတ္တံ့။ မရချေမူ သေဖွယ်ရှိသည်”

နတ်အတုကို ရက္ခစိုးနတ် အစစ်ဟုထင်သော အမတ်များသည် အဆောတလျင် ပြန်လာကြသည်။ စစ်သူကြီးအား ပြန်ပြောင်းတင်ပြကြသည်။ စစ်သူကြီးလည်း ဘုရင်မင်းမြတ် အပါးသို့ကပ်ကာ လျှောက်ထားသည်။

“အရှင်မင်းမြတ်၊ အရှင့်ဝေဒနာကို အရှင်မမြွက်ဟပေမယ့်၊ နတ်တွေတောင် သိကုန်ကြပြီဘုရား။ ဥမ္မာဒန္တီကို သိမ်းပိုက်တော်မူပါဘုရား။ အပင်ပန်းခံပြီး မျိုသိပ်မနေပါနဲ့ဘုရား”

သိဝိရာဇ်မင်းကြီးသည် ထိတ်လန့်တုန်လှုပ်စွာဖြင့် ထထိုင်တော်မူ၏။ “ငါ့အကြောင်းကို နတ်များပင် သိကုန်ပါပေါ့လား” ရေရွတ်လျက် စိတ်ကို သတိဖြင့် ထိန်းချုပ်တော်မူ၏။

“ငါသည် ပြည်သူ့ဦးကင်း မင်းဖြစ်ပါလျက် ရာဂနိုင်ငံသို့လိုက်၍ သင်၏ချစ်ဖက်ကို ဖျက်ဆီးငြားအံ့။ အလုံးစုံပြည်သား လူအများတို့သည် ငါ့အား ရှုံ့ချ ကဲ့ရဲ့ကြပြီး၊ အဓမ္မမူ မင်းခိုးသူဟု ဆိုယူကြမည် မချွတ်တည်း”

သင့်မယားအား ငါယူမိပါက မယားလုသော သူခိုးဟု ပြည်သူတို့ ကဲ့ရဲ့ရှုံ့ချလိမ့်မည်ဟု ဆိုလိုရင်း ဖြစ်သည်။

“ငယ်စဉ်ကစ ဓမ္မညီထွေ ကျင့်ခဲ့လေလျက် ယွင်းသွေဖောက်ပြန်ဤမကောင်းမှုကံကြောင့် ပစ္စုပ္ပန်တွင်း ဂုဏ်နှံ့ကင်းပြီး အပယ်တွင်းနစ်မည် မုချတည်း။ မိဘဘေးဘိုး ကျင့်ရိုးမဟုတ် အကျင့်ယုတ်ကြောင့် မင်းဒုသီလ

(သီလမရှိသော မင်း) မင်းပါပ (ယုတ်မာဆိုးညစ်သော မင်း)ဟု တိုင်းမ ပြည်လုံး စုရုံးပြောကြ ဥဒါန်းရမည် မချွတ်တည်း။ ငါသည် သင့်မယားဌ် တိမ်းပါးမိသော်လည်း သတိပညာ ထားကာ တရားရှုလျက် ငါ မလုယက် ချစ်မဖက်ပြီ။ အသက်ရှည်စွာ သင်နှင့်သာလျှင် ကောင်းစွာ ပေါင်းဖက်ကြ လေလော့”

သူတစ်ပါးမယားကို လုယူသောအကျင့်ကို ဘေးလောင်းတော်၊ ဘိုးလောင်းတော် ဘုရင်များလည်း မကျင့်ခဲ့။ ငါ လုယူလျှင် မင်းယုတ်ဟု ပြည်သူအများ ကဲ့ရဲ့ကြလိမ့်မည်။ ငါ စိတ်ကစားမိသည်မှာ မှန်သော်လည်း ယခု တရားနှင့် ဆင်ခြင်မိပြီ။ သင်တို့လင်မယား အသက်ထက်ဆုံး ကြင်နာ စွာ ပေါင်းဖက်ကြဟု မင်းတရားကြီးက မိန့်ကြားခြင်း ဖြစ်သည်။

“မင်းကြီးနဲ့တူတဲ့ ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်ဟာ သည်လောကဓာတ် မှာ ရှားတယ်”

အဘိပါရက စစ်သူကြီးသည် ဘုရင်မင်းမြတ်အား တအံ့တသြ ချီးမွမ်းလေ၏။

ဥမ္မာဒန္တီကား ဘုရင်အား အလုစွမ်းပြခြင်းမှတစ်ပါး၊ အကျင့် မပျက်၊ မဖောက်ပြား၊ ကောင်းမှုကုသိုလ်များ မပြတ်ပွားများသူ ဖြစ်သဖြင့် ထိုဘဝမှ စုတေသောအခါ နတ်ပြည်၌ ဖြစ်ပေ၏။

ဥမ္မာဒန္တီသည် နတ်သမီးဘဝမှ စုတေခဲ့လျှင် ဘဝဟောင်း၌ တစ်စုံ တစ်ရာ ချွတ်ယွင်းခဲ့မိသဖြင့် ဗာရာဏသီပြည်အနီးရှိ ရွာငယ်တစ်ရွာ၌ လယ်သမားသူဆင်းရဲ၏ သမီး ဖြစ်လာသည်။

လယ်သူမကလေး အရွယ်ရောက်လာပြီးနောက် တစ်ခုသောနေ့ တွင် သူသည် လယ်စောင့်ရန် လယ်တောသို့ လာသည်။ လမ်းခရီး၌ လှပ သော ပဒုမ္မာကြာပွင့်ကြီးများကို တွေ့သဖြင့် ခူးယူခဲ့သည်။ ထို့နောက် လယ်စောင့်တဲသို့အရောက်၌ ကောက်နှံများကို ပေါက်ပေါက်ဖြစ်အောင်

ဖောက်လှော်သည်။

ဤသို့ လယ်သူမလေး အလုပ်များနေစဉ် ပစ္စေကဗုဒ္ဓါတစ်ပါး ကြွတော်မူလာ၏။ ထိုအရှင်မြတ်ကား ဂန္ဓမာဒနတောင်တွင် နိရောဓ သမာပတ်မှ ထလာတော်မူစ ဖြစ်၏။ မိန်းကလေးသည် အရှင်မြတ်အား သဒ္ဓါရွှင်လန်းစွာဖြင့် သပိတ်ထဲသို့ ပေါက်ပေါက်ပွင့်တွေ လောင်းလှူပြီး နောက် သပိတ်ဖုံးပေါ်တွင် ပဒုမ္မာကြာပန်းတွေ ဖုံးလွှမ်းလှူဒါန်းသည်။

"ရဟန်းနဲ့၊ ပန်းနဲ့ မအပ်စပ်ဘူးထင်တယ်။ ပန်းဟာ ငါတို့ ပန် တာပဲ"

အရှင်မြတ် ကြွသွားတော်မူမှ မိန်းကလေး အကြံဖြစ်သည်။ အရှင် မြတ်နောက်သို့ ပြေးလိုက်သွားပြီး ကြာပန်းတွေကို ပြန်ယူလာခဲ့သည်။ ပြန်ယူလာခဲ့သော်ငြား မိန်းကလေး၏စိတ်က မပြတ်သား။

'အရှင်မြတ်အတွက် ကြာပန်းလိုလိုမလိုလို၊ ငါလှူရင် ဒါနမြောက် တာပဲ မဟုတ်လား'

မိန်းကလေး ပြေးလိုက်သွားပြန်သည်။ အရှင် ပစ္စေကဗုဒ္ဓါ၏ ရှေ့တော်တွင် တုပ်ဝပ်ရိုသေစွာ ထိုင်ပြီး ရှိခိုးသည်။

"အရှင်ဘုရား၊ သည်ကြာပန်းတွေ လှူဒါန်းရတဲ့ ကုသိုလ်ကံ စေတနာကြောင့် တပည့်တော်မ ဖြစ်လေရာ ဘဝတိုင်း မြေမှ ပဒုမ္မာကြာများ ထွက်လာကာခံပါစေဘုရား။ ပေါက်ပေါက်ပွင့် ငါးရာ လှူဒါန်းရတဲ့အတွက် အရှင်ဘုရားလို သားတွေ ငါးရာ ဖွားမြင်ရပါလို၏ဘုရား"

အရှင်မြတ်သည် တရားအနုမောဒနာပြုကာ ကြွတော်မူလေ၏။

လယ်သူမလည်း ဤဘဝတွင် အသက်အတိုင်း နေထိုင်ပြီးနောက် စုတေသောအခါ တာဝတိံသာနတ်ပြည်၌ 'ပဒုမနတ်သမီး'ဟူ၍ ဖြစ်လာ သည်။ နတ်သမီး၏ ခြေဖဝါး ချတိုင်းချတိုင်းသော နေရာမှ လှည်းဘီးစက် ပမာဏရှိသော ကြာပန်းတို့ ပေါက်ကာပေါက်ကာ ခံလာသည့်အတွက် ပဒုမ

နတ်သမီးဟု တွင်ခြင်း ဖြစ်သည်။

ဤသို့ဖြစ်ရခြင်းကား ပစ္စေကဗုဒ္ဓါအရှင်မြတ်အား ပဒုမ္မာကြာပန်းများ လှူဒါန်းခဲ့သော ကုသိုလ်ကံ အကျိုးပေတည်း။

ပဒုမနတ်သမီးဘဝမှ စုတေပြန်သောအခါ ဟိမဝန္တာတောစပ်ရှိ ရေအိုင်ကြီးတစ်အိုင်၌ ကြာပွင့်ကြီးတစ်ပွင့်အတွင်းဝယ် လာရောက်ပဋိသန္ဓေနေလာလေ၏။

ထိုကြာအိုင်အနီးတွင် ထိုရေအိုင်ကို အမှီပြုနေထိုင်သော ရသေ့တစ်ပါးရှိသည်။ တစ်နေ့သော နံနက်ဝယ် ရသေ့သည် မျက်နှာသစ်ရန်အတွက် ရေအိုင်သို့ ရောက်လာသည်။ အခြားသော ကြာပန်းတွေ ပွင့်ကြပါလျက် ထူးခြားစွာ ကြီးမားသောကြာငုံကြီး ကျန်နေသည်ကို ရသေ့ သတိပြုမိ၏။

“ဤကြာပွင့်ဟာ ထူးခြားတယ်။ ဘာကြောင့် မပွင့်တာပါလိမ့်”

ရသေ့သည် ရေထဲသို့ဆင်းကာ ကြာဖူးကြီးရှိရာသို့ ချဉ်းကပ်လာသည်။ ကြာဖူးကို ရသေ့ကိုင်လိုက်သည်နှင့် တစ်ပြိုင်နက်တည်း၊ ငုံရာမှ ချက်ချင်း ပွင့်လာသည်။ ကြာဝတ်ဆံများအလယ်တွင် အိပ်ပျော်နေသော မိန်းကလေး။

ထိုကလေးကို မြင်သည့်တစ်ခဏတွင် ရသေ့သည် သမီးဟူသော အမှတ်ဖြင့် သနားချစ်ခင်စိတ် ဖြစ်ပေါ်လာသည်။ ကြာကို အရိုးမှချိုးပြီး ကျောင်းသင်္ခမ်းသို့ ယူလာသည်။ ကလေးကို ညောင်စောင်းပေါ်တွင် တင်ထားကာ အဓိဋ္ဌာန်ပြုသည်တွင် ရသေ့၏လက်မမှ နို့ရည်ယိုကျလာတော့၏။

ကလေးသည် ဤသို့ဖြင့် ရသေ့လက်မှထွက်သော နို့ကိုမှီဝဲလျက် ကြီးပြင်းလာရ၏။ ထိုကလေး မတ်တပ်သွားနိုင်သောအခါ ကလေး၏ ခြေချရာ နေရာတိုင်း၌ ပဒုမ္မာကြာပွင့်များ ခံလာ၏။ ကလေးခြေ ရုပ်သိမ်း

သွားမှသာ ကြာပွင့်ပျောက်ကွယ်သွား၏။ ကလေး၏ ကိုယ်ရောင်ကိုယ်ဝါမှာလည်း ပဒုမ္မာဝတ်ဆံ ကုံကုမံဝတ်မှုန်စုအလား တင့်တယ်လှပသောကြောင့် ထိုကလေးအား 'ပဒုမဝတီ' ဟု အမည်မှည့်ခေါ်ထားသည်။

ပဒုမဝတီ အရွယ်ရောက်ချိန်တွင် မုဆိုးတစ်ယောက်က မြင်သွားသည်။ မြို့သို့ပြန်ရောက်လျှင် မုဆိုးသည် ဗာရာဏသီ ပြည့်ရှင်မင်းအား ပဒုမဝတီအကြောင်းကို သံတော်ဦး တင်တော့သည်။ ပြည့်ရှင်မင်းလည်း မကြာမြင့်မီကာလ၌ မုဆိုးကို လမ်းပြခိုင်းလျက် ပဒုမဝတီရှိသည့် တောသို့ ရောက်လာလေ၏။

ပြည့်ရှင်မင်းသည် ရသေ့၏သင်္ခမ်းနှင့်မနီးမဝေးတွင် သစ်တပ်မြို့တည်၏။ ရသေ့ထံချဉ်းကပ်ကာ ရင်းနှီးအောင်ပြုပြီးမှ လာရင်း စကားကို ဆိုသည်။

"အရှင်ရသေ့၊ အရှင့်ထံမှာ ရဟန်းတို့နှင့် ဝိသဘာဂ (မလျော်ကန်ဆန့်ကျင်သော) ပုဂ္ဂိုလ်ရှိသည် ကြားသဖြင့် တပည့်တော် လာရခြင်း ဖြစ်ပါသည်။ တပည့်တော်အား ပေးသနားတော်မူပါဘုရား"

"ဒါယကာ၊ ငါ့သမီးမှာ ဆွေမျိုးနည်းပါးတယ်၊ ကိုးစားရမည့်သူ မရှိဘူး။ ပြည်ကြီးသေဌ်နင်း မင်းဆိုတာဟာ အခြံအရံများလွန်းတယ်။ ကုန်းချောသူ ပေါ်ပေါက်လာရင် ငါ့သမီးကို မင်းတရား အရှည်ချစ်မှာ မဟုတ်ဘူး။ 'သနားသော်ကြင်၊ မုန်းလျှင်ပြစ်လျှောက်' မထောက်မဆ ပြုတတ်သူသာ များတဲ့အတွက် ငါ့သမီးကို ပေးဖို့ခက်တယ်"

ရသေ့က မလိုလားသော စကားဖြင့် တုံ့ပြန်၏။

"အရှင်ရသေ့၊ စိုးရိမ်တော် မမူပါနှင့်။ အရှင့်သမီးကို သူတစ်ပါး မနှိပ်စက်နိုင်အောင် အဂ္ဂမဟေသီ (တောင်ညာစံထား မြတ်သောမိဖုရားကြီး) အရာမှာ ထားပါမယ်ဘုရား"

ပြည့်ရှင်မင်းသည် အပြောဖြင့်သာ မဟုတ်။ ရတနာအစုအပုံ

ထက်တွင် ပဒုမဝတီကို တင်ကာ မိဖုရားကြီးအဖြစ် အဘိသိက်သွန်းလောင်းခြင်းဖြင့် လက်တွေ့ပြသည်။ ရသေ့လည်း ပဒုမဝတီအား သိသင့်သိထိုက်ရာများ မှာကြားဆုံးမပြီးနောက် ဗာရာဏသီမင်းနောက်သို့ ထည့်လိုက်လေ၏။

ပြည့်ရှင်မင်းသည် ပဒုမဝတီကို ရသည်နေ့မှစပြီး အခြားမိဖုရားများကို လှည့်မကြည့်တော့ချေ။ သို့အတွက် မိဖုရားငယ် ငါးရာတို့သည် ပဒုမဝတီအား မုန်းတီးကြ၊ ငြူစူကြသည်။ ထိုမျှမက ကုန်းစကားလျှောက်ထားကြပုံမှာ၊

"အရှင်မင်းကြီး၊ ပဒုမဝတီဟာ လူမဟုတ်ဘူးဘုရား။ လူစင်စစ်တွေရဲ့ ခြေထောက်အောက်မှာ ကြာပေါက်တယ်လို့ တစ်ခါမျှ မကြားဖူးဘူး။ နတ်ဘီလူးများသာ ကြာခံလာတယ် ကြားဖူးပါတယ်ဘုရား။ လူသားမဟုတ်၊ နာနာရုပ်နဲ့ ဖန်ဆင်းထားတဲ့ ဘီလူးမနဲ့ အတူမနေဝံ့ဘူးဘုရား။ ဒါကြောင့် အရှင်မင်းကြီးဟာ ကျွန်တော်မတို့ကို ပစ်မလား၊ ပဒုမဝတီကို ပစ်မလား"

စသည်ဖြင့် ဖြစ်ပေသည်။

သို့ရာတွင် ပြည့်ရှင်မင်းသည် ပဒုမဝတီ မိဖုရားကြီးကိုသာ မြတ်နိုးမြဲ မြတ်နိုးတော်မူလျက် ရှိသည်။

ကာလရှည်မြင့်သောအခါ ပဒုမဝတီ မိဖုရားကြီး၏ဝမ်းဝယ် ပဋိသန္ဓေ တည်နေ၏။ ထိုမိဖုရား၏ ပဋိသန္ဓေ ရင့်မာလာကာ မီးရှူးသန့်စင်ရန် အချိန်သည် နီးကပ်လာခဲ့၏။ ထိုအချိန်တွင်မှ တိုင်းစွန်ပြည်ဖျား မငြိမ်မသက်ဖြစ်လာ၏။ ထိုအခါ မင်းတရားကြီး ကိုယ်တော်တိုင်ထွက်၍ ငြိမ်ဝပ်အောင်ပြုရ၏။

မိဖုရားငယ် ငါးရာတို့သည် ပဒုမဝတီအပါးသို့ ချဉ်းကပ်ကာ "သခင်မ၊ အားငယ်တော် မမူနဲ့ဘုရား။ ကျွန်တော်မတို့ အစွမ်းကုန် ပြုစုပါမယ်"ဟု ချိုသာစွာ လျှောက်ထားကြသော်လည်း အခြားတစ်ဖက်တွင်ကား

ပဒုမဝတီ၏ ကျွန်ယုံအား တံစိုးလက်ဆောင် များစွာပေးသည်။ သူတို့ အလို ကျ ဆောင်ရွက်ပေးရန် အနုအကြမ်း လမ်းနှစ်လမ်းဖြင့် သိမ်းသွင်းသည်။

ပဒုမဝတီမိဖုရား မီးရှူးသန့်စင်ပြီးချိန်တွင် ပြည့်ရှင်မင်းသည် ပစ္စန္တရာဇ်မှ ပြန်လည်ချီတက်တော်မူလာ၏။ မြို့တွင်းသို့ မဝင်သေးဘဲ ဉယျာဉ်တော်၌ စံမြန်းနေတော်မူ၏။ ထိုအချိန်တွင် မိဖုရားငယ် ငါးရာတို့ ရောက်လာကြသည်။ နှစ်သက်ဖွယ်စကားများကို ဆိုကြပြီးနောက် ဤသို့ လျှောက်ထားကြ၏။

"အရှင်မင်းကြီး မြတ်နိုးတော်မူတဲ့ ပဒုမဝတီဟာ ဘီလူးပါလို့၊ ကျွန်တော်မျိုးမတို့ တင်စဉ်က အရှင်မင်းကြီး ယုံကြည်တော် မမူဘူး။ အခု ပဒုမဝတီက လူကလေးကို မဖွားဘဲ သစ်တုံးကို ဖွားသတဲ့ဘုရား။ လူ မဟုတ်ကြောင်း ထင်ရှားပြီ မဟုတ်လား"

ပြည့်ရှင်မင်းသည် ယုံကြည်တော် မမူသောကြောင့် နန်းတော်သို့ ချက်ချင်းကြွမြန်းသည်။ ပဒုမဝတီအား ရှေ့တော်သို့ခေါ်တော်မူသည်။ ပဒုမဝတီမှာ ဖွားသော သားကို ပြစရာမရှိ။ မျက်ရည်သာ ရှိသည်။

ကုန်းစကားကို မင်းတရားကြီး လက်ခံတော်မူကာ၊ ပဒုမဝတီအား နန်းမှ နှင်ချလိုက်လေ၏။

ပဒုမဝတီမှာ ဘဝတစ်ပါး၌ ပြုခဲ့ဖူးသော မကောင်းမှုကံ အကျိုး ပေးချိန်နှင့် ကြုံလေပြီ။ မင်းအိမ်မှ ဆင်းသက်သည်မှ အစပြုပြီး ခြေဖဝါး ချတိုင်းချတိုင်း ခံလင့်သော ကြာပဒုမ္မာတို့ ကွယ်လေပြီ။ နတ်သမီး၏ အရောင်အဝါကဲ့သို့ အလွန်ထွန်းလင်းသော ကိုယ်ရောင်လည်း ကွယ်ခဲ့ပြီ။ တင့်တယ်ရုံမျှသာ အရောင်အဝါ ကျန်တော့သည်။

သွေးနုသားနုဖြင့် နန်းတော်မှ ဆင်းလာရသော ပဒုမဝတီမှာ တောတွင်းသူဖြစ်သည်။ အဘယ်မှာ ဆွေမျိုးသားချင်း ရှိပါမည်နည်း။ ဘယ်ကိုသွား၍ ဘယ်သို့ လာရမည်မသိ ဖြစ်နေချိန်ဝယ် သူအိုမကြီး

တစ်ယောက်က မြင်သည်။ ချစ်ခင်မငြီး သမီးကဲ့သို့ ထင်မှတ်သောကြောင့် အိမ်ပေါ်တင်ထားလေ၏။

ကုန်းချော်သော မိဖုရားငယ် ငါးရာတို့သည် ပဒုမဝတီ မရှိလျှင် ပြည့်ရှင်မင်းထံသို့ ချဉ်းကပ်လျှောက်ထားကြ၏။

"အရှင်မင်းဖျား၊ စစ်ထွက်တော်မူတုန်းက အရှင်မင်းကြီး အောင်မြင်စေဖို့ ဂင်္ဂါနတ်တို့ကို မပြတ်ပူဇော် ဆုတောင်းခဲ့ရပါတယ်ဘုရား။ အခု အရှင်မင်းမြတ် စစ်အောင်တော်မူတဲ့အခါ ကျွန်တော်မတို့ နှုတ်ကြွေးမတင်ရအောင် ဂင်္ဂါသဘင် ရှင်တော်မူပါဘုရား"

ဘုရင်လည်း ထိုသူတို့၏စကားကို ယုံကြည်တော်မူရကား၊ ဂင်္ဂါမြစ်သို့ဆင်းမည့် အစီအရင်ကို စီမံတော်မူ၏။ မြစ်အတွင်းသို့ ဘုရင်နှင့် မိဖုရားများ ဆင်းသက်သောအခါ အဆိပ်ရှိသော သတ္တမျာ း၊ အညစ်အကြေးများ၊ ဆူးခက်သစ်တုံး စသည်တို့မှ ကင်းဝေးစေရန် မြစ်ညာ၌ ပိုက်ကွန်များ ချထား၏။ တစ်ဖန် အဆိပ်ရှိသော ရေသတ္တဝါများ ဆန်တက်မလာနိုင်စေရန် အဖိုးတန်ပစ္စည်းများ ကျပျောက်ပြီး မျောပါမသွားစေရန် အောက်ဘက်၌လည်း အလားတူ ပိုက်ကွန်များ ချထားသည်။

အချိန်တန်၍ ဘုရင်မင်းမြတ်နှင့်ခြွေရံသင်းပင်းများ ထွက်ခွာသွားသောအခါ မင်းချင်းတို့သည် ကာသန်းသောပိုက်ကွန်များကို သိမ်းဆည်းကြ၏။ အောက်ဘက်ရှိ ပိုက်ကွန်များတွင် ထူးဆန်းစွာ ကြုတ်ငါးရာ ငြိနေသည်။ မင်းချင်းတို့လည်း ဘုရင်မင်းမြတ်ထံ ကြုတ်များကို အလျင်အမြန် ဆက်သကြ၏။

မင်းတရားကြီးသည် စိတ်ဝင်တစားဖြင့် ကြုတ်ငါးရာကို ဖွင့်ရာ၊ ရွှေအဆင်းရှိသော ကလေးတစ်ယောက်စီကို ရှုစားရ၏။ ကြုတ်တစ်ခုအတွင်း၌၊

"ဘုန်းကံကြီးမား ဤမင်းသားတို့ကား ပဒုမဝတီ မိဖုရား၏ဝမ်းမှ

မွေးဖွားသော ဗာရဏာသီမင်း၏ သားတော်စစ်များပေတည်း”

ဟူသည့်စာတမ်း ပါရှိချေ၏။

အမှန်ပင် ထိုကလေးများသည် ပဒုမဝတီ မိဖုရား၏ သားတော်များဖြစ်၏။ မိဖုရားသည် စင်စစ်အားဖြင့် သားတစ်ယောက်သာ ဖွား၏။ ထိုကလေး၏ ကိုယ်မှစင်လွင့်သော သွေးစက်များမှ သံသေဒဇ (အညှိဥ္စွဲမှီ၍ ပဋိသန္ဓေနေခြင်း) ငြိတွယ်ပြီး သားတော်ငါးရာ ဖြစ်လာကြသည်။

ကျွန်ယုံမိန်းမသည် ကလေးငါးရာကို မိဖုရားငယ်များသို့ပေးပြီး၊ ပဒုမဝတီဘေး၌ သစ်တုံးကို ထားသည်။ ပဒုမဝတီက မေးသောအခါ သစ်တုံးကိုပြသဖြင့် ရှက်စနိုးဖြစ်ကာ အဖျောက်ဖျက်ခိုင်းသည်။

ကလေးတစ်ယောက်စီကို လက်ဝယ်ရထားသော မိဖုရားငါးရာမှာ ကလေးတွေကို ဖျောက်ဖျက်ရခက်နေသည်။ သို့ကြောင့် ကြုတ်ဖြင့် ထည့်ထားလျက် ဂင်္ဂါမြစ်သို့ သွားခွင့်ရအောင် ဘုရင်ထံ လီဆယ်တင်လျှောက်ကြသည်။မြစ်တွင်းသို့ဆင်းမိသောအခါ ဝှက်ယူလာသောကြုတ်တွေကို ရေမျှောလိုက်ကြခြင်း ဖြစ်ပေ၏။

ဗာရာဏာသီမင်းသည် သားတော်များကို ရှုစားရသောအခါ ရိုးတွင်းခြင်ဆီစိမ့်အောင် နှစ်သက်လေးမြတ်သည်။ ကျန်ကလေးများကို အမတ်များသို့အပ်ကာ ကိုယ်တော်တိုင်မူ သားတော်ကြီး မဟာပဒုမမင်းသားကို ပွေ့ချီလျက် နန်းတော်သို့ ကြွမြန်းခဲ့လေ၏။

ထို့နောက် မင်းချင်းတို့အား ပဒုမဝတီ မိဖုရားကို လိုက်လံရှာဖွေရန် စေခိုင်းတော်မူသည်။ မင်းချင်းများလည်း ဆင်တော်၏လည်တွင် အသပြာတစ်ထောင်ထုပ်ကိုဆွဲလျက် မြို့အနှံ့ စည်လည်ကြသည်။

“ပဒုမဝတီ မိဖုရားအား ညွှန်ပြနိုင်သူ မည်သူမဆို ဤအသပြာထောင်ထုပ်ကို ယူစေ”

ပဒုမဝတီရှိသော မြို့ထောင့်သို့ စည်လည်သူများ ရောက်သွားချိန်

ဝယ် ပဒုမဝတီက သူအိုမကြီးအား အသပြာထုပ်ကို ဖြုတ်အယူခိုင်းသည်။ မင်းချင်းများသည် သူအိုမကြီးနောက်မှ ထက်ကြပ်ပါလာကြကာ၊ ပဒုမဝတီ ရှေ့၌ ဒူးတုပ်ခစားကြသည်။ မင်းချင်းတို့တွင် မင်္ဂလာရထား အသင့်ပါလာ သော်ငြား၊ ပဒုမဝတီ မလိုက်။ နန်းတော်မှ သူအိုမကြီးအိမ်အထိ ရတနာ တံတားခင်းပြီး ပန်း၊ ထီး၊ တံခွန် စိုက်ထူကြိုဆိုမှသာ လိုက်သည်။ ထို အချိန်တွင်ကား၊ ပဒုမဝတီ၏ ခြေဖဝါးချရာ နေရာတိုင်း၌ ကြာပွင့်ကြီးတွေ ပြန်လည်ခံလာနေပြီ။

ပြည့်ရှင်မင်းသည် သားတော်ငါးရာတို့ ပျော်ရွှင်ကစားနိုင်ရန် နန်း တော်အတွင်း၌ ဥယျာဉ်ရေကန်တစ်ခု စီစဉ်ပေးသည်။ မင်းသားတို့ အရွယ် ရောက်လာသော နေ့တစ်နေ့တွင် ထူးခြားမှုတစ်ခု ဖြစ်ပွားလာ၏။ ထူးခြား မှုမှာ မင်းသားများသည် အချိန်ကုန်သည်အထိ မပြန်သေးဘဲ ကြာပွင့်ပေါ်၌ ထက်ဝယ်ဖွဲ့ခွေ နေကြခြင်းဖြစ်၏။

မင်းသားတို့သည် ပါရမီရင့်ပြီးသူများ ဖြစ်သည်။ နံနက်တွင် လှပလန်းဆန်းသော ကြာပန်းများ ညချမ်းအချိန်တွင် ညှိုးရော်ကုန်သည်ကို မြင်သဖြင့်၊

"ကြာပင်ကြာပွင့်တည်းဟူသော အနုပါဒိန္နက ရုပ်သည်မျှလည်း ဝယပတ္တ အနိစ္စသဘော ဖြစ်သေး၏။ ဥပါဒိန္နကဖြစ်သော ငါတို့၏ ရုပ်ခန္ဓာ မှာမူ အဘယ်မှာ လွန်နိုင်တော့အံ့နည်း"

ဟု ဝိပဿနာကို ရှုကြရာ ထိုခဏတွင်ပင် ပစ္စေကဗောဓိဉာဏ်ကို ရသွားကြသောကြောင့် ဖြစ်သည်။

အမတ်တို့က ရေကန်မှတက်ရန် လျှောက်ထားကြငြား စကား မပြန်ပေ။ ထို့ကြောင့် တစ်ညလုံး စောင့်ဆိုင်းနေခဲ့ကြကာ၊ နေအရုဏ်တက် လာမှ ထပ်မံလျှောက်ထားကြ၏။

"အရှင့်သားတို့၊ ညအချိန်လွန်ပြီး နောက်တစ်နေ့ရောက်ပြီ။ နန်း

ကို ပြန်ကြပါစို့”

“ငါတို့ကား မင်းသား မဟုတ်၊ ပစ္စေကဗုဒ္ဓါများ ဖြစ်နေပြီ အမတ်တို့”

အမတ်တွေ အထိတ်တလန့်ဖြစ်သွားရာက၊ ပျာပျာသလဲ လျှောက်တင်ကြ၏။

“အရှင်မင်းသားတို့။အလွန်ဝန်လေးတဲ့စကားကို ဘာပြုလို့ ဆိုကြရတာတုန်း။ ပစ္စေကဗုဒ္ဓါဆိုတာဟာ ဆံပင်မရှိဘူး။ သပိတ်သင်္ကန်းနဲ့ ရဟန်းပရိက္ခရာ အပြည့်ပါတယ်နော်”

အမတ်တို့၏ လျှောက်တင်စကားကို ကြားသောအခါတွင် အရှင်မြတ်တို့သည် ထိုအသွင်သို့ တိမ်းညွှတ်သောစိတ်ဖြင့် ဦးခေါင်းတော်ကို လက်ဖြင့် သုံးသပ်ကြသည်။ တစ်ခဏအတွင်း၌ လူ့အသွင်ကွယ်ပျောက်ကာ ပရိက္ခရာရှစ်ပါးနှင့်ရဟန်းအသွင်ရကြကာ ဂန္ဓမာဒနတောင်သို့ ကောင်းကင်ခရီးဖြင့် ကြွသွားတော်မူကြလေ၏။

သားငါးရာ ဖွားပါလျက် အပါးတွင် တစ်ယောက်မျှ မရှိသော ‘နိပ္ပတ္တက’ အဖြစ်၌ စိုးရိမ်ပင်ပန်းခြင်းဖြစ်လျက် ပဒုမဝတီမိဖုရား အနိစ္စရောက်သောအခါ ရာဇဂြိုဟ်ပြည်အနီးရှိ ရွာငယ်တစ်ရွာတွင် လယ်သမားသမီး ဖြစ်လာသည်။ အရွယ်ရောက်၍ အိမ်ထောင်ရက်သား ကျပြီးနောက်တစ်နေ့သ၌ လယ်သူမသည် လယ်ထဲ၌အလုပ်လုပ်နေစဉ် ကောင်းကင်ခရီးဖြင့် ကြွသွားသော ပစ္စေကဗုဒ္ဓါ အရှင်မြတ်များကို ဖူးမြင်ရ၏။

သူသည် ထိုအရှင်မြတ်များကို ဆွမ်းကပ်လိုကြောင်း လင်အားပြောပြနေစဉ် အရှင်မြတ်များသည် ကောင်းကင်မှဆင်းသက်လာပြီး သူတို့ရှေ့တွင် ဆွမ်းရပ်တော်မူကြ၏။ လယ်သမားလင်မယားလည်း ပါလာသမျှခဲဖွယ်ဘောဇဉ်များကို ဝမ်းသာအားရ လောင်းလှူအပြီး၌ နက်ဖြန်အတွက်ပါ ဖိတ်မန်လိုက်ကြသည်။

ယခုကြွလာသော အရှင်မြတ်ရှစ်ပါးမှာ ဘဝဟောင်းက ပဒုမဝတီ မိဖုရား၏ သားတော်ငါးရာမှ အချို့ဖြစ်သည်။ အရှင်မြတ်များသည် ကြွသွားတော်မမူမီ မှာကြားသွားတော်မူကြသေး၏။

"ဒါယိကာမ၊ သင်လုပ်ကျွေးမည့်ဆွမ်းနှင့် ခင်းကျင်းပြင်ဆင်သော နေရာကို ရှစ်ပါးစာသာ စီမံထားလေ။ သို့ရာတွင် ဒါယိကာမ၏ ကုသိုလ်စေတနာ ပြန့်ပွားစေရေးအတွက် ရဟန်းငါးရာ ကြွလာမည်"

လယ်သမား လင်မယားမှာ အရှင်မြတ်ငါးရာ ကြွလာမည်ဆို၍ ဝမ်းသာ၏။ သို့ရာတွင် တဲကလေးမှာ အပါးတစ်ရာပင် မဆန့်သဖြင့် ကြံရာမရ ဖြစ်နေကြ၏။ မည်သို့ဖြစ်စေ ရှစ်ပါးစာသာ စီမံထားဟူသော အမှာစကားကိုသတိရသဖြင့် ရှစ်ပါးစာ လုံလောက်အောင် ပြင်ဆင်ထားနှင့်၏။

နောက်တစ်နေ့ မိုးသောက်ချိန်ဝယ် ပစ္စေကဗုဒ္ဓါ အရှင်မြတ်ငါးရာ ကြွလာတော်မူကြ၏။ အရှင်မြတ်တို့၏ တန်ခိုးတော်ကြောင့် အရှင်ငါးရာ ထိုင်လောက်သည်။ ရှစ်ပါးစာဆွမ်းကို ကပ်သော်ငြား၊ အပါးငါးရာအတွက် လုံလောက်သည်။

ထိုအရှင်မြတ်များကား လယ်သူမအား ဘဝဟောင်းက မယ်တော်ဟု သိမြင်သောကြောင့် တမင်ချီးမြှောက်ရန် ကြွတော်မူလာကြခြင်း ဖြစ်ပေ၏။ လယ်သူမသည် ဆွမ်းကပ်အပြီး၌ ကြာညိုပန်းများကို လှူဒါန်းပြန်သည်။

"တပည့်တော်မ ယခုအားထုတ်လှူဒါန်းရသော ကုသိုလ်စေတနာကြောင့် ဖြစ်လေရာ ဘဝတိုင်း၌ ဤကြာညိုပွင့်ချပ်လို တင့်တယ်တဲ့ အဆင်းရှိရပါလို၏။ အရှင်ဘုရားတို့ ရတော်မူတဲ့ တရားအထူးကို ရ ရပါလို၏ ဘုရား"

ဆွမ်းအနုမောဒနာ တရားနာအပြီး၌ လယ်သူမသည် ဆုတောင်း၏။ သူသည် အသက်အတိုင်း နေခဲ့ပြီး စုတေသောအခါ နတ်ပြည်၌

တစ်ကြိမ်ဖြစ်သည်။ထို့နောက် သာဝတ္ထိပြည်ဝယ် ကုဋေတစ်ရာ့ခြောက်ဆယ် ကြွယ်ဝသော သူဌေး၏သမီး ဖြစ်လာခဲ့ပေသည်။

ကုဋေတစ်ရာ့ခြောက်ဆယ် ကြွယ်ဝသော သာဝတ္ထိသူဌေး၏ ထိုသမီးငယ်သည် ဖွားသစ်စအခါကပင် ကြာညိုတိုက်၏ အတွင်းရောင်နှင့် တူသော ကိုယ်အဆင်းရှိသဖြင့် 'ဥပ္ပလဝဏ္ဏာ'ဟူသော အမည်ကို ပေးကြ၏။ ကိုယ်၏ရနံ့မှာလည်း ကြာညိုနံ့ သင်းပျံ့မွှေးထုံ၏။

ထိုမိန်းမငယ် အရွယ်ရောက်လတ်သော်၊ မြင်မြင်သမျှ ယောကျ်ား မိန်းမတို့ အံ့ဩချီးပရအောင် လှပသည်။ ထိုသတင်းကို အဆင့်ဆင့် ပြောကြားကြသဖြင့် ဥပ္ပလဝဏ်၏ အလှသတင်းသည် ဇမ္ဗူဒိပ်ကျွန်း၌ အလွန် ထင်ရှားသည်။

သို့ဖြစ်သောကြောင့် ၁၀၁ ပါးသော ထီးဆောင်းမင်းတို့သည် သူဌေးထံသို့ လက်ဆောင်ပို့ပြီး သမီး တောင်းကြ၏။ သူဌေးကြီး သူကြွယ်ကြီးများကလည်း အောင်တမန်စေကာ ဥပ္ပလဝဏ်ကို တောင်းခံကြ၏။

ဥပ္ပလဝဏ်၏ဖခင် သူဌေးကြီးမှာ အခက်ကြုံတော့သည်။

"ငါမှာ ရှိတာက သမီးတစ်ယောက်တည်း။ သမီး လာတောင်းတဲ့ လူတွေက အများကြီး။ သူတို့ဆန္ဒကို မဖြည့်စွမ်းနိုင်တဲ့အတွက် ငါ့မှာရော ငါ့သမီးမှာပါ ရန်ကင်းအောင် ကြံစည်မှ ဖြစ်မယ်"

ထို့ကြောင့် သူဌေးသည် ဥပ္ပလဝဏ်အား ခေါ်ပြီးမေး၏။

"ချစ်သမီး၊ လူ့ဘဝနဲ့ ကာမဂုဏ် မရှွင်လန်းဘဲ ရဟန်းပြုနိုင်ပါ မလား"

ဥပ္ပလဝဏ်မှာ နောက်ဆုံးဘဝသို့ ရောက်ရှိနေသူဖြစ်ရာ မူလ ကတည်းက ရဟန်းပြုချင်စိတ် ရှိသူဖြစ်ရကား အားရရွှင်လန်းစွာ တုံ့ပြန်၏။

"အဖေ၊ ကျွန်တော်မ ရဟန်းပြုချင်ပါတယ်။ သာသနာ့ဘောင်ကို အမြန်သွင်းပေးပါ"

အဖသူဌေးကြီးနှင့် အမိသူဌေးကတော်တို့လည်း ဝမ်းမြောက် ဝမ်းသာဖြစ်ကာ သမီးကို ရတနာထမ်းစင်ဖြင့်တင်ပြီး ဘိက္ခုနီကျောင်းသို့ ပို့ဆောင်၍ ရဟန်းပြု ပေးလိုက်ကြလေ၏။

ဥပ္ပလဝဏ်ထေရီမသည် ရဟန်းပြုပြီး၍ မကြာမြင့်မီ 'စတုဒ္ဒသီ' ဥပုသ်နေ့နှင့်ကြုံ၍ ဥပုသ်အိမ်၌ ဆီမီးထွန်းရန် တာဝန်ကျသည်။ သူသည် ဆီမီးထွန်းညှိရင်း၊ တပြောင်ပြောင်တောက်လောင်သော ဆီမီးရောင်ကို အာရုံစောလျက် တေဇောကသိဏ်းကို ရှု၏။ ထိုအခါ ရှစ်ဆင့်သော ရူပ အရူပ စျာန်သို့ရောက်ပြီးသော် ဝသီဘော်ငါးတန်ဖြင့် ထိုစျာန်ကိုဝင်စားပြီးမှ ထိုစျာန်ကို ပါဒကပြုလျက်၊ ရှုအပ်သော ဝိပဿနာဉာဏ်ဖြင့် မဂ်လေးတန် ကို တဏှာမခြားဘဲ ရဟန္တာ ဖြစ်တော်မူလေသည်။

ဥပ္ပလဝဏ် ထေရီအရှင်မသည် အရဟတ္တဖိုလ်သို့ ရောက်သည် နှင့် တစ်ပြိုင်နက်တည်း ဣဒ္ဓိဝိဓ စသော အဘိညာဉ်တို့သည် သူမယှဉ်နိုင် အောင် ဖြစ်လေတော့သည်။ ထို့ကြောင့် မြတ်စွာဘုရားသည် သာဝတ္ထိပြည်၌ ရေမီးအစုံစုံ တန်ခိုးပြာဋိဟာတို့ကို ပြတော်မူကာ တတ္ထိတို့အား နှိမ်နင်းအံ့ သော အခါကာလ၌ မိမိတန်ခိုးဖြင့် တတ္ထိတို့အား ဆုံးမပါရစေဟု ရှင်တော် မြတ်ဘုရားထံ၌ အခွင့်တောင်းခြင်းဖြစ်၏။ ဤသည်ကို အကြောင်းပြု၍ပင် နောက် နှောင်းသောအခါဝယ် မြတ်စွာဘုရားသည် ဥပ္ပလဝဏ်ထေရီအား 'တန်ခိုးကြီးသော အရာ' ၌ တေဒဂ်ပေးပြီး 'အဂ္ဂသာဝိကာ' အရာဖြင့် ချီးမြှောက်တော်မူခြင်း ဖြစ်ပေသည်။

တစ်နေ့သ၌ ထိုဥပ္ပလဝဏ်ထေရီ အရှင်မသည် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်အနီးရှိ အန္ဓဝနတောအုပ်သို့ကြွတော်မူကာ အင်ကြင်း ပင် တစ်ပင်အရင်း၌ နေ့သန့်တော်မူနေစဉ် မာရ်နတ် ရောက်လာသည်။

"တစ်ယောက်တည်းနေသော မိန်းမရဟန်း။ သင်၏ အဆင်းလှပ ခြင်း၌ တူညီသောသူမရှိ။ ဟယ်.... အမိုက်မ။ ကာမရစ်မူး အပျော်ကြူးသော

လူဆိုးတို့ကို သင် မကြောက်ရွံ့သလော"

ဥပ္ပလဝဏ်ထေရီအရှင်မသည် ဤသူကား မည်သူနည်းဟု ဆင်ခြင်ကြည့်လိုက်သောအခါ မာရ်နတ်ဖြစ်ကြောင်း သိတော်မူသည်။

"ကာမရစ်မှူး သေသောက်ကြူးတို့ တစ်ရာသော်လည်းကောင်း လာစေ၊ တစ်ထောင်သော်လည်းကောင်း လာစေ။ ငါသည် တစ်ယောက်တည်း နေစေကာမူ မကြောက်ရွံ့ပေ။ ငါ၏တန်ခိုးဖြင့် ကွယ်ကာ၍ ကိုယ်ပျောက်စေနိုင်၏။ ငါသည် ထိုသူတို့၏ ဝမ်းတွင်းသို့လည်း ဝင်၍ နေနိုင်၏။ ထိုသူတို့၏ မျက်တောင်မွေးအကြား၌ နေသော်ငြားလည်း၊ ငါ့အား ထိုသူတို့ မသိနိုင်ပေ။ ငါသည် တန်ခိုးအရာ၌ လျင်မြန်၍ အလုံးစုံသော နှောင်ဖွဲ့ခြင်း တဏှာဒိဋ္ဌိတို့မှ ကင်းလွတ်၏။ ငါ့ရှင် မာရ်နတ်၊ ထို သေသောက်ကြူးတို့အား ငါ မကြောက်"

'ငါ့အား မာရ်နတ်ဖြစ်ကြောင်း ထိုအရှင်မ သိနေပါတကား'ဟု မာရ်နတ် သဘောပေါက်သွားသည်။ ချက်ချင်းပင် စိတ်နှလုံး မသာမယာဖြင့် ထိုနေရာမှ ကွယ်ပျောက်သွားသည်။

ဥပ္ပလဝဏ်ထေရီ အရှင်မကြီးသည် ပရိနိဗ္ဗာန် စံဝင်တော်မူခါနီးတွင် သူ၏ပရိသတ်အား 'ဂဂ်ၤါတိရိယ' မထေရ်ဇာတ်ကို ဟောတော်မူခြင်းဖြင့် ကာမဂုဏ်၏အပြစ်ကို ဟောတော်မူခဲ့သည်။ ထို့နောက် မြတ်စွာဘုရားနှင့် သံဃာတော်အပေါင်းအား ရှိခိုးတောင်းပန်ခဲ့ကာ ကျောင်းတော်သို့ ပြန်လည်ကြွရောက်လာပြီးနောက် မကြာမြင့်မီ ပရိနိဗ္ဗာန် စံဝင်တော်မူချေ၏။



## ၄။ ဝိနယဓရ ဧတဒဂ်ရ ထေရီ

ဝိနည်းအရာ၌ ဧတဒဂ် ရတော်မူသော ပဋာစာရီထေရီအရှင်မကြီး အလောင်း အလျာသည် ပဒုမုတ္တရ မြတ်စွာဘုရား ပွင့်တော်မူချိန်ဝယ် သူဌေးသမီး ဖြစ်ခဲ့၏။

သူသည် မြတ်စွာဘုရား၏ကျောင်းတော်သို့သွားကာ တရားတော်ကို နာယူလေ့ရှိသည်။ တစ်နေ့သ၌ ပဒုမုတ္တရမြတ်စွာဘုရားသည် တရားသဘင်၌ မိန်းမရဟန်းတော်တစ်ပါးအား ဧတဒဂ်ထားတော်မူ၏။ ဧတဒဂ်ရ အရှင်မမှာ 'ဟာရိနီ' ဖြစ်၍ 'ဝိနည်းပိဋကတ်တော်ကို ကျင့်ဆောင်နိုင်သော အရာ' ၌ ဧတဒဂ်ရခြင်း ဖြစ်၏။

သူဌေးသမီးသည် ထိုအခြင်းအရာကို ဖူးမြင်ရသောကြောင့် သဒ္ဓါ ကြည်ညိုစိတ်တွေ၊ အားကျစိတ်တွေ ဖြစ်ပေါ်လာသည်။ သို့ဖြစ်၍ မြတ်စွာ ဘုရားအမှူးရှိသော သံဃာတော် အရှင်မြတ်တို့အား အိမ်သို့ ပင့်ဖိတ်ပြီး မွန်မြတ်သော ဆွမ်း၊ ခဲဖွယ်ဘောဇဉ်များကို ဆက်ကပ်လှူဒါန်းသည်။

မြတ်စွာဘုရားထံတော်မှ ဆွမ်း အနုမောဒနာတရား နာယူအပြီး၌

သူဌေးသမီးသည် ဤသို့ ပတ္ထနာမှု ပြု၏။

"တပည့်တော်မသည် နောင်ပွင့်တော်မူလတ္တံ့သော မြတ်စွာဘုရားတို့၏ လက်ထက်တော်တွင် ဟာရိနီ ရဟန္တာ အရှင်မကဲ့သို့ 'ဝိနယဓရ' ဧတဒဂ် ရပါလို၏ဘုရား"

ပဒုမုတ္တရ မြတ်စွာဘုရားလည်း သူဌေးသမီး တောင်းသောဆုပြည့်အံ့သည်ကို မြင်သောကြောင့် ဗျာဒိတ်ပေးတော်မူ၏။

"ဒါယိကာမ၊ သင်တောင်းသည့် ဆုအတိုင်း ပြည့်စုံလတ္တံ့"

ဗျာဒိတ်တော်ကို ပန်ဆင်ရသဖြင့် သူဌေးသမီးမှာ အလွန် ဝမ်းမြောက်ဝမ်းသာ ဖြစ်ရ၏။ သူသည် အသက်ရှည်သမျှ ကာလပတ်လုံး ကုသိုလ်ကောင်းမှုတို့ကို ပြုလုပ်သည်။ အသက်အတိုင်း နေပြီး၍ စုတေချိန်ဝယ်၊ ထိုကုသိုလ်ကောင်းမှု အကျိုးကြောင့် လူ့ပြည်နတ်ပြည်၌ အထပ်ထပ် ကျင်လည်ခဲ့သည်မှာ ကမ္ဘာတစ်သိန်း တိုင်သည်။

ဤဘဒ္ဒကမ္ဘာအတွင်း၌ ကဿပမြတ်စွာဘုရား ပွင့်တော်မူလာသည့်အခါဝယ်၊ ထိုသူဌေးသမီးသည် ဗာရာဏသီပြည် ကိကီမင်းကြီး၏ သမီးတော် 'ဘိက္ခုနီ' ဖြစ်လာသည်။ ညီအစ်မ ခုနစ်ဖော်အနက် တတိယ သမီးတော် ဖြစ်ပေသည်။ ထိုအချိန်အခါသည် လူတို့၏ သက်တမ်း နှစ်သောင်းကာလ ဖြစ်ရကား၊ သမီးတော် ဘိက္ခုနီသည် အနှစ်နှစ်သောင်း ပတ်လုံး ကောင်းမှုကုသိုလ်များချည်း ကျင့်ကြံပွားများ အားထုတ်ခဲ့သည်။ သို့ကြောင့်လည်း စုတိမနေ သေလွန်ချိန်ဝယ် နတ်ဘုံ၌ာနှ၌ ဖြစ်ရသည်။

ငါတို့ဆရာ ဂေါတမမြတ်စွာဘုရား ထင်ရှားပွင့်တော်မူချိန်ဝယ်၊ ဘိက္ခုနီ နတ်သမီးသည် သာဝတ္ထိပြည်၌ သူဌေးသမီး ဖြစ်လာသည်။

သူဌေးသမီးသည် သံသရာတွင် ကျင်လည်ခဲ့ရသော ဘဝပေါင်းများစွာ၌ အမှားတစ်ခု ကျူးလွန်ခဲ့မိသောကြောင့် ယခုဘဝတွင် မိမိအိမ်၌ ခိုင်းစေထားသူနှင့် မှားယွင်းတော့သည်။ မိဘများကား သမီးအဖြစ်ကို မသိ

သည့်အလျောက် အမျိုးအနွယ်တူ သူဌေးတစ်ယောက်နှင့် ထိမ်းမြားပေးရန် စီစဉ်ကြသည်။

မိဘတို့၏ ထိုအစီအစဉ်ကို သိလျှင်သိချင်း သူဌေးသမီးသည် မိမိနှစ်သက်မြတ်နိုးနေသော အခိုင်းအစေ ယောကျ်ားကိုခေါ်ပြီး အိမ်မှ ထွက်ပြေးတော့၏။ သူတို့သည် ရွာသိမ်ရွာငယ်ကလေးတစ်ခု၌ ဇာတ်မြုပ် နေထိုင်လိုက်ကြလေ၏။

ကာလရှည်ကြာသောအခါ သူဌေးသမီး၌ သားဦးသန္ဓေရ၏။ ထို ကိုယ်ဝန် ရင့်မာလာသောအခါ သူဌေးသမီးသည် မွေးဖွားရမည့်ကိစ္စကို တွေးတော ပူပန်လာသည်။ သားဦးဖြစ်သောကြောင့် အစစအရာရာ ပြည့်စုံ သော မိဘများထံသို့ ပြန်ပြီး မျက်နှာမြင်လိုသည်။

သို့အတွက် မိဘရပ်ဌာန်သို့ လိုက်လံ ပို့ဆောင်ပေးရန် လင် ယောကျ်ားအား ပူဆာသည်။ လင်ယောကျ်ားကား ယောက္ခမထံ ပြန်ရန် အလွန်ကြောက်ရွံ့နေ၏။ သို့ရာတွင် မပြန်ရဲ မသွားရဲကြောင်း မယားအား မပြော။ လိုက်ပို့ပါမည်ဟု ဝန်ခံ၏။ ဝန်ခံစကား ပြောသော်ငြား အကြောင်း အမျိုးမျိုးပြကာ ရက်ရွှေ့နေသဖြင့် မသွားဖြစ်ပေ။

အကြိမ်ကြိမ် ပျက်ကွက်သောအခါ သူဌေးသမီးသည် လင်၏ သဘောကို နားလည်ပြီ။ သို့အတွက် လင်ယောကျ်ား ပြင်လွင်တစ်ပါးသို့ သွားနေခိုက်ဝယ် သူဌေးသမီးသည် မိဘရပ်ဌာန်သို့ တစ်ကိုယ်တည်း ပြန် လာလေ၏။

သို့ရာတွင် သူဌေးသမီးသည် သူ အလွန် ခိုလှုံချင်သော မိဘ၏ အေးရိပ်အောက်သို့ မရောက်ပါ။ လမ်းခရီးတွင်ပင် သားဦးကို ဖွားမြင်သည်။ အကူအညီမရှိ တစ်ယောက်တည်း ဖြစ်နေစဉ် လင်ယောကျ်ား ရောက်လာ သောအခါ သူဌေးသမီး အားတက်ပုံမှာ ပြောဖွယ်မရှိ။

လင်ယောကျ်ားသည် အိမ်သို့ပြန်အရောက်တွင် မယားကို မတွေ့

သဖြင့် အိမ်နီးချင်းများထံ၌ စုံစမ်းရသည်။ မိဘရပ်ဌာန် ပြန်မည် ပြောသွားကြောင်း သိရလျှင် သိရချင်း အလျင်အမြန် လိုက်လာခြင်း ဖြစ်သည်။

သူဌေးသမီးသည် သားဖွားသည့်ကိစ္စ ပြီးစီးပြီဖြစ်သောကြောင့် မိဘဌာနေသို့ မပြန်တော့ပါ။ မူလနေရင်းစွဲ အိမ်ကလေးမှာပင် ဆက်လက်နေထိုင်ကြသည်။

နေ့ကိုရက်စား ကာလရှည်လျားသော် သူဌေးသမီးတွင် ဒုတိယအကြိမ်မြောက် ကိုယ်ဝန်ရှိလာပြန်သည်။ ဤအကြိမ်တွင်လည်း သူသည် မိဘရပ်ဌာန် ပြန်ပြီး မီးဖွားရန် စိတ်ကူးသည်။ လင်ယောကျ်ားအား လိုက်လံပို့ဆောင်ခိုင်းရာ ရှေးနည်းတူ အချိန်ဆွဲနေသဖြင့် သားငယ်ကိုလက်ဆွဲလျက် ရှေးနည်းအတိုင်းပင် ထွက်လာခဲ့ပြန်လေ၏။

လင်ယောကျ်ားလည်း ပြင်လွင်တစ်ပါးသို့ သွားနေရာမှ ပြန်ရောက်လျှင်ရောက်ချင်း မယားနောက်သို့ အပြေးလိုက်လာသည်။ ဒုတိယသားရတနာကို တောထဲမှာပင် ချောမောစွာ ဖွားမြင်နိုင်ငြား မီးနေပစ္စည်းမရှိ။ သို့စဉ်တွင် မိုးကြီး သည်းထန်စွာ ရွာသွန်းလာသည်။ အမေနှင့် သားကိုထားဦး။ ခြင်းခြင်းနီထွေးလျက် သားတစ်အလားထင်မှားရသော မွေးကင်းစကလေးအတွက် အရိပ်ခိုစရာ လိုသည်။

သို့အတွက် လင်ယောကျ်ားသည် တောင်ပို့တစ်လုံးပေါ်ရှိ သစ်ပင်မှ အခက်များကို သားအမိသုံးယောက်အတွက် မိုးခိုစရာရအောင် လုပ်ပေးရန်အတွက် ပဲခွပ်ဖြင့်ခုတ်သည်။ တောင်ပို့ထဲရှိ အဆိပ်ပြင်းထန်သော မြွေသည် ချက်ချင်းထွက်၍ကိုက်ရာ လင်ယောကျ်ားမှာ ထိုနေရာတွင်ပင် အသက်ကုန်၏။

သူဌေးသမီးမှာ သားနှစ်ယောက်ကို ရင်ဘတ်အောက်တွင် ထားလျက် တစ်ညလုံး မြေတွင်ဝပ်နေရ၏။ မိုးစင်စင်လင်းပြီ။ မိုးလေလည်း ကင်းရှင်းပြီ။ သို့ပါလျက် လင်ယောကျ်ားမှာ ပျောက်ချက်သား ကောင်းနေ

သည်။ သို့အတွက် ကလေးနှစ်ယောက်နှင့်အတူ လိုက်လံရှာဖွေသည်။ သူဌေးသမီးသည် သည်းထန်စွာ ငိုကြွေးလျက် လင့်အလောင်းကို သစ်ခက်များဖြင့် ဖုံးအုပ်ထားခဲ့၏။ မြုပ်နှံသင်္ဂြိုဟ်မှု မပြုနိုင်ရှာ။

အားကိုးစရာပင် မရှိသောအခါ သူဌေးသမီး မည်သို့လုပ်မည်နည်း။ မိဘထံသို့ ပြန်လည်ခိုဝင်ရန်သာ ရှိတော့သည်။ သို့ကြောင့် သားငယ်ကို ပွေ့ပြီး သားကြီးကို လက်ဆွဲလျက် လာခဲ့သည်။ ယမန်ညက ရွာခဲ့သောမိုးကြောင့် ရေစီးအားသန်သည့် ချောင်းတစ်ခုသို့ ရောက်လာသည်။

ချောင်းရေသည် ဒူးပုဆစ်မျှသာ နက်၏။ သို့ရာတွင် သူဌေးသမီးသည် သားကြီးကို ချီပိုးပြီး သားငယ်ကိုပွေ့လျက် ကူးနိုင်သော ခွန်အားမရှိပါ။ သို့အတွက် သားကြီးကို မှာကြားသွန်သင်ပြီး ချောင်း၏ သည်မှာဘက်ကမ်း၌ ထားခဲ့သည်။ သူဌေးသမီးသည် သားငယ်နီတာရဲကို ပွေ့လျက်ချောင်းကို ကူးသည်။ ဟိုမှာဘက်ကမ်းအရောက်၌ သစ်ရွက်တွေ ခင်းပြီးကလေးကို အနီးဖြင့်ထွေးလျက် ချထားခဲ့သည်။

သူဌေးသမီးသည် သားငယ်နီနီထွေးထွေးကလေးကို မကြာခဏလှည့်ကြည့်ရင်း သားကြီးထံသို့ ကူးလာသည်။ ချောင်းလယ်သို့ သူဌေးသမီး ရောက်ချိန်တွင် စွန်ရဲတစ်ကောင်သည် အနီးထွေးထားသော ကလေးငယ်ကို သားတစ်အမှတ်ဖြင့် ထိုးသုတ်သွားလေ၏။ သူဌေးသမီးလည်းချက်ချင်းမြင်သဖြင့် စွန်ရဲကို အော်ဟစ်မောင်းနှင်၏။

စွန်ကို မောင်းနှင်သောအခါ လက်ကိုမြှောက်ပြီး ပစ်ခတ်ဟန်ပြုသည်။ လက်ခုပ်လက်ဝါး တီးသည်။ ဤသည်ကို ဤမှာဘက်ကမ်း၌ ကျန်ခဲ့သော သားကြီးက မြင်သည်။

ထိုအခါ သားကြီးသည် သူ့အမေ လက်ဟန်ခြေဟန်ပြလျက် အော်ဟစ်ခေါ်ငင်သည်ထင်သဖြင့် ချောင်းထဲသို့ ပြေးဆင်းသည်။ နက်လှသော်ငြား အစီးသန်သော ရေလျဉ်သည် သားကြီးကို သယ်ယူသွားလေ

၏။ ရေထဲသို့ သားကြီး မျောပါသွားသည်ကို သူဌေးသမီး မြင်၏။ အော်ဟစ်ပြီး ပြေးလာ၏။ မမီပါ။ "သားရေ... သားရေ" အော်ခေါ်ဆဲမှာပင် ရေထဲသို့ နစ်မြုပ်ပျောက်ကွယ်သွားလေ၏။

သူဌေးသမီးသည် ရင်ကိုထု၍ ငို၏။ ငို၍အားရတော့မှ သာဝတ္ထိပြည်ဘက်သို့ ခရီးဆက်ခဲ့ရာ ခရီးသွားတစ်ယောက်နှင့် မျက်နှာချင်းဆိုင်တွေ့သည်။

"အမောင်၊ ဘယ်အရပ်က လာတာတုန်း"

"သာဝတ္ထိက လာတာပါ အမိ"

မိမိဇာတိ သာဝတ္ထိကို အမည်မျှသာ ကြားရုံဖြင့် သူဌေးသမီးအားတက်သည်။ ထို့ကြောင့် မိဘအမည်ကို ဖော်ပြကာ "နေထိုင်ကောင်းကြရဲ့လား၊ ကျန်းမာကြရဲ့လား"ဟု စနည်းနာ၏။

"အမိ၊ တခြားအကြောင်းကို မေးစမ်းပါဗျာ"

ခရီးသွားယောကျ်ားက စိတ်မကောင်းဟန်ဖြင့် ငြင်းပယ်သော်လည်း သူဌေးသမီးက မေးမြဲ မေးသည်။

"တခြားအကြောင်းကို မသိချင်ပါဘူး။ အဲသည် သူဌေးမိသားစုရဲ့ သတင်းပဲ သိပါရစေ အမောင်"

"ကဲ ဒါလောက်ရိုလှတာ ပြောပြမယ်။ မနေ့ညတုန်းက မိုးကြီးတစ်ညလုံးရွာတယ် မဟုတ်လား"

"ကျုပ်တောင် တစ်ညလုံး မိုးစိုထဲမှာ နေခဲ့ရပါတယ် အမောင်။ ဟုတ်ပါပြီလေ။ အဲဒါထားပြီး သူဌေးကြီးအကြောင်း ဆက်ပါဦး"

"ဟုတ်ပြီ။ မြို့ဘက်ကို မျှော်ကြည့်လိုက်ပါဦး၊ မီးခိုးမြင်ရတယ်"

"ဟုတ်တယ်။ အဲဒါနဲ့ ဘာဆိုင်တုန်း"

"ဆိုင်ပြီလား အမိရယ်။ လွန်လွန်ကဲကဲ သည်းထန်တဲ့မိုးကြောင့် သစ်ပင်တွေလဲ၊ တိုက်တွေပြိုရာမှာ အမိမေးတဲ့ သူဌေးရဲ့တိုက်လည်း ပါ

တယ်။ တိုက်ပြိုရာမှာ သူဌေးကြီးနဲ့ သူဌေးကတော်ရော သူဌေးသားပါ တိုက်ပိပြီးသေကြလို့ အခုမြင်နေရတဲ့ မီးခိုးဟာ သူတို့ကို သင်္ဂြိုဟ်ရာက ထွက်တဲ့မီးခိုးပေါ့"

"ဖြစ်ရလေချင်း အဖေတို့ အမေတို့ရဲ့"

သူဌေးသမီးသည် လက်ကိုမြှောက်၍အော်ဟစ်၏။ သားသေ၊လင်ဆုံးရုံမက မိဘနှင့်မောင်ပါ ပြိုင်တူသေသောကြောင့် 'သောကုမ္မတ္တက' (သောကဖိစီး၍ စိတ်နှလုံး ပူပန်မှုကြောင့် ရူးသွပ်ခြင်း) အဖြစ်သို့ရောက်၏။ ခါးဝတ်ထဘီ ပြေလျောကျကျန်ခဲ့သည်ကို မသိ။ မီးခိုးမြင်ရာသို့ အပြင်းပြေးလာသည်။

ဤသို့ အဝတ်မရှိသောကိုယ်ဖြင့် လှည့်လည်သွားလာနေသည်ကို အကြောင်းပြု၍ ဤအချိန်မှစတင်ပြီး ထိုသူဌေးသမီးအား 'ပဋာစာရီ' ဟူ၍ လူတို့ ခေါ်တွင်ကြလေ၏။

"သားနှစ်ယောက်လည်း သေ၊ လင်လည်း သေ၊ အမိအဖလည်း ဆုံး၊ မောင်လည်း ဆုံး။ အားလုံး ရှို့မြိုက် မီးလောင်တိုက်"

ထိုကဲ့သို့ မြည်တမ်းလျက် အဝတ်ချည်းနီး လှည့်လည်သွားလာနေ [illegible] ပဋာစာရီကို မြင်သူတိုင်းက မောင်းနှင်ပစ်ကြ၏။ မောင်းနှင်၍ ထွက်မ[illegible]းလျှင် ခေါင်းပေါ်သို့ အမှိုက်တွေ သွန်ချသူက သွန်ချသည်။ တုတ်ဖြင့်ရိုက်၊ ခဲဖြင့်ပစ်ကြရာ ပဋာစာရီမှာ ညစ်ထေးပေရေ ပိန်ချုံးလျက် သူဌေး[illegible]မီးအဖြစ် သိမှတ်မိသူ မရှိတော့ချေ။

တစ်နေ့သ၌ သုံးလူ့ထွတ်ထား သဗ္ဗညုမြတ်စွာဘုရားသည် ဇေတဝန်ကျောင်းတော်၌ ပရိသတ်များအား တရားဟောနေတော်မူ၏။ ထိုသို့ တရားဟောနေလျက်က ရှင်တော်မြတ်ဘုရား၏ ဉာဏ်တော်ဝယ် ပဋာစာရီသည် ဝင်ရောက်လာလေ၏။

လူနတ်ပြဟ္မာ သတ္တဝါတို့၏ ဆ[illegible]င်တော်မူသော မြတ်စွာ

ဘုရားသည် ပဋာစာရီ၏ ကျွတ်တန်းဝင်မည့်အချိန်အခါကို သိတော်မူရကား 'ပဋာစာရီ လာစေသတည်း'ဟု မိန့်တော်မူသည်။

ထင်မိထင်ရာ လျှောက်သွားနေသော အရူးမသည် ချက်ချင်းဇေတဝန် ကျောင်းတိုက်အတွင်းသို့ ဝင်လာသည်။ များပြားသော ပရိသတ်ကြီးထံသို့ တည့်တည့်ကြီး လာချေသည်။

"ဟဲ့ အရူးမ၊ သွား.... သွား"

"အရူးမကို မောင်းပစ်ကြစမ်းဟေ့"

တရားနာပရိသတ်ကြီး ရုတ်ရုတ်သဲသဲ ဖြစ်သွားကြစဉ် ရှင်တော်ဘုရား၏ မိန့်တော်သံပေါ်လာ၏။

"မတားမြစ်ကြကုန်လင့်"

ရှင်တော်မြတ်ဘုရားသည် အကြောင်းရှိ၍သာ ထိုသို့ မိန့်တော်မူခြင်း ဖြစ်ပေလိမ့်မည်။ ထို့ကြောင့် သူရူးအား ဆက်လက် မတားဆီးကြတော့။

"သတိရစေလော့"

မြတ်စွာဘုရား ထိုသို့ မိန့်တော်မူသည့် တစ်ခဏာဝယ် ပဋာစာရီမှာ အရူးစိတ် ပျောက်သည်။ မိမိအဖြစ်ကို ရှက်ကြောက်ရမှန်းသိလျက် ပုဆစ်ဒူးတုပ်ကာ မြေမှာဝပ်နေလေ၏။ ထိုအခါ တရားနာယောကျ်ား တစ်ယောက်က အပေါ်ရုံပုဆိုးကို ပစ်ပေးလိုက်သည်။ ပဋာစာရီကောက်ယူ လွှမ်းခြုံသည်။ မြတ်စွာဘုရား ခြေတော်ရင်းသို့ကပ်ကာ ရှိခိုးသည်။

"တပည့်တော်မရဲ့ မှီခိုအားထားရာ ဖြစ်တော်မူပါဘုရား"

ရူးသွပ်နေစဉ်က ကင်းပနေခဲ့သော ပူဆွေးဝမ်းနည်းမှုများသည် ရုတ်တရက် ဝင်ရောက်လာသဖြင့် ငိုကြွေးလျှောက်ထားသည်။

"တပည့်တော်မရဲ့သားငယ်ကို စွန်ချီသွားတုန်းမှာ သားကြီးလည်း ရေထဲမှာ မျောပါသွားပါတယ်ဘုရား။ လင်ယောကျ်ား သေဆုံးလို့ မိဘထံ

အလာ၊ လမ်းခရီးမှာပဲ အမိအဖနှစ်ပါးနဲ့ မောင်ကြီးတို့ ပြိုင်တူသေဆုံးလို့ သင်္ဂြိုဟ်တဲ့ မီးခိုးကို မြင်ရပါတယ်ဘုရား"

"ချစ်သမီး ပဋာစာရီ။ ထွေထွေရာရာ ကြံစည်၍မနေလင့်။ ချစ်သမီး၏ မှီခိုအားထားရာသည် ငါဘုရား ဖြစ်နိုင်၏။ အားထားလောက်သော ငါဘုရားထံသို့ ယခုအခါ ချစ်သမီး ရောက်လာပြီ"

ရှင်တော်မြတ်ဘုရားသည် ထိုသို့ မြွက်ကြားတော်မူပြီးလျှင် ဆက်လက်၍ တရားတော်မြတ်ကို ဟောကြားသည်မှာ၊

"ချစ်သမီးသည် ယခုဘဝ၌ သားနှစ်ယောက်၊ လင်တစ်ယောက်နှင့် အမိအဖမောင်ကြီးတို့ သေဆုံး၍ ငိုကြွေးရသော မျက်ရည်ကဲ့သို့ပင် သံသရာ ဘဝအဆက်ဆက်၌ ချစ်သမီး ငိုကြွေးခဲ့ဖူး၍ ကျရသော မျက်ရည်တို့သည် သမုဒ္ဒရာလေးစင်းရှိ ရေတို့ထက် များပေသေး၏"

စသည်ဖြင့် ဖြစ်ပေ၏။

ကဿပ မြတ်စွာဘုရား၏ ရွှေလက်ထက်တော်ဝယ်၊ ကုမာရီဗြဟ္မစာရီ သီလကို အနှစ်နှစ်သောင်း စောင့်သုံးခဲ့သော ပါရမီရှင် ပဋာစာရီသည် တစ်မုဟုတ်ချင်း သဘောပေါက်သည်။ သဘောပေါက်သည်နှင့်အမျှ သောကလျော့ပါးလာသည်။ အပူလျှော့သည်နှင့်အမျှ စိတ်လည်း ကြည်လင်လာ၏။

"ချစ်သမီး ပဋာစာရီ။ သေမင်းယုတ်သည် နှိပ်စက်သောသူ၏ ကိုးကွယ်အားထားစရာ သားသမီးတို့သည် မရှိကုန်။ ဆွေမျိုးတို့သည် မရှိကုန်။ အဆွေခင်ပွန်းတို့သည်လည်း မရှိကုန်။ ဆွေမျိုးဉာတကာတို့၌ ကိုးကွယ်အားထားစရာလည်း မရှိချေ။ ဤသို့သောသဘောကို သိသော ပညာရှိသည် သီလကိုစောင့်စည်းလျက် နိဗ္ဗာန်ရောက်ကြောင်း မဂ်လမ်းကောင်းကို လျင်စွာသာလျှင် သုတ်သင်ရာ၏။

ဤသို့ အစရှိသဖြင့် ရှင်တော်မြတ် ဟောကြားတော်မူသော တရား

တော်၏အဆုံးတွင် ပဋာစာရီသည် သောတာပန်တည်လေ၏။ ထို့နောက် ပဋာစာရီက ရဟန်းပြုခွင့် တောင်းသဖြင့် မြတ်စွာဘုရားသည် ပဋာစာရီအား ဘိက္ခုနီတို့ထံ ပို့ပေးတော်မူလိုက်၏။

မိန်းမရဟန်း ဖြစ်တော်မူပြီးသော ပဋာစာရီ ထေရီအရှင်မသည် အထက်မဂ်သုံးပါးအလို့ငှာ ကမ္မဋ္ဌာန်းစီးဖြန်းလျက် တစ်ခုသောနေ့တွင် ရေဖြင့် ခြေဆေးတော်မူ၏။

အရှင်မ၏ ခြေပေါ်သို့ လောင်းချလိုက်သော ရေတို့သည် အတန်ဝေးကွာသော နေရာအထိ စီးသွားပြီးနောက် ပျောက်ကွယ်သွားသည်။ ထို့နောက် ခြေထောက်ပေါ်သို့ ရေတစ်ခွက် ထပ်လောင်းပြန်သည်။ ထိုအခါ ရေသည် ပို၍ ဝေးစွာ စီးဆင်းသွားပြီးမှ ပျောက်ကွယ်သွားသည်။ ထပ်မံ၍ နောက်တစ်ခွက် လောင်းသောရေကား ပို၍ဝေးစွာ စီးဆင်းသွားပြီးမှ ပျောက်ကွယ်၏။

သို့ရာတွင် စီးသွားသော ရေအားလုံး ပျောက်ကွယ်သွားကြောင်း အရှင်မ တွေ့ရ၏။ လောင်းလိုက်သောရေသည် ခြေပေါ်မှ စီးဆင်းသွားပြီးနောက် ပျောက်၏။ ရေလောင်းခြင်းနှင့် ပျောက်သွားခြင်းမှာ ခြားနားမှု မရှိချေ။

ခြေဆေးရေတို့ စီးဆင်းရာ၌ အချို့သည် တို၏။ အချို့ ရှည်၏။ အချို့ကား မတိုမရှည် ဖြစ်သည်။

ထို့အတူပင် သတ္တဝါတို့သည်လည်း ဖြစ်ပြီးလျှင် ပျက်ကြ၏။ သို့သော် အချို့သည် အသက်တို၍ အချို့ အသက်ရှည်၏။ အချို့ကား မတိုမရှည်၊ အလယ်အလတ် ဖြစ်၏။ စင်စစ်သော်ကား ဖြစ်ပြီးနောက်၊ ပျောက်ပျက်သည်သာတည်း။

ဂန္ဓကုဋီတိုက်၌ စံနေတော်မူသော မြတ်စွာဘုရားသည် ဘိက္ခုနီကျောင်းရှေ့ ခြေဆေးခုံ၌ တွေ့မြင်ဆင်ခြင်နေသော ပဋာစာရီ ထေရီမ၏

အဖြစ်ကို သိတော်မူသည်။ ရောင်ခြည်တော်လွှတ်လျက် ဟောကြားတော်မူသည်။

"ချစ်သမီး ပဋာစာရီ၊ သင်၏ ဤအကြံသည် အမှန်ပင် ဖြစ်၏။ ခန္ဓာတို့၏အဖြစ်အပျက်ကို မမြင်သောသူ၏ အနှစ်တစ်ရာပတ်လုံး အသက်ရှည်ခြင်းထက် ခန္ဓာတို့၏အဖြစ်အပျက်ကို မြင်သည့်သူ၏ တစ်ရက်တစ်ခဏမျှသာ အသက်ရှည်ခြင်းက ပို၍ မြတ်၏"

ဤတရားတော်ကို အခြေပြုလျက် ပဋာစာရီ အရှင်မသည် မကြာမီ အတွင်းမှာပင် အရဟတ္တဖိုလ်သို့ ဆိုက်ရောက်တော်မူ၏။

ပဋာစာရီ ထေရီမြတ်လှ အရှင်မသည် မြတ်စွာဘုရား၏ တရားတော်များကို သင်ကြားလေ့ကျက်ရာ၌ အထူးသဖြင့် ဝိနည်းပိဋကတ်ကို သင်အံ လေ့လာ၏။ သို့ကြောင့် ဝိနည်းနှင့်ပတ်သက်လာလျှင် အဆုံးအဖြတ်ပေးနိုင်သည်အထိ ကျေညက်တတ်မြောက်သည်။

သို့အတွက် ရှင်တော်မြတ်ဘုရားသည် နောင်သောအခါ၌ ဘိက္ခုနီတို့အား ထိုက်သင့်ရာ တေဒဂ်အရာ ထားတော်မူသောအခါ ပဋာစာရီ ထေရီအရှင်မအား 'ဝိနယဓရ' တေဒဂ် ထားတော်မူခြင်း ဖြစ်ပေ၏။



## ၅။ ဓမ္မကထိက တေဒဂ်ရ ထေရီ

ဓမ္မဒိန္နာ ထေရီမြတ်လှ အရှင်မသည် တရားဟောသော ဘိက္ခုနီတို့တွင် အတော်ဆုံး အထူးအမြတ်ဆုံးအဖြစ် တေဒဂ်ထားခြင်း ခံရတော်မူသည်။

ထိုထေရီ အရှင်မလောင်းလျာသည် လွန်ခဲ့သော ကမ္ဘာတစ်သိန်း ထက်က ဟံသာဝတီပြည်၌ ပွင့်တော်မူသော ပဒုမုတ္တရ မြတ်စွာဘုရား၏ ရွှေလက်ထက်တော်ဝယ် သူကြွယ်တစ်ဦး၏အိမ်၌ အစေအပါး ဖြစ်နေခဲ့ သည်။ သူသည် ထိုအိမ်သို့ဆွမ်းခံကြွသော ‘အဂ္ဂသာဝက သုဇာတ’ မထေရ် မြတ်ကို မပြတ်မလပ် ဆွမ်းကွမ်းဆက်ကပ် လှူဒါန်းလေ့ရှိသည်။

တစ်ရံရောအခါ၌ ထိုဒါယိကာမသည် တရားတော်နာယူရန် မြတ်စွာဘုရား၏ကျောင်းတော်သို့ ရောက်သွားသည်။ ပဒုမုတ္တရ မြတ်စွာ ဘုရားသည် သံဃာတော်တို့၏အလယ်၌ တရားအဟောကောင်းသော ဘိက္ခုနီမတစ်ပါးအား တေဒဂ်ထားစွာ ချီးမြှောက်တော်မူ၏။ ပရိသတ်ထဲမှ တရားနာနေသော အထက်ပါ ဒါယိကာမလည်း ထိုအရှင်မကဲ့သို့ ဖြစ်လို သောဆန္ဒ ပြင်းပြစွာ ပေါ်လာ၏။

သို့အတွက် ထိုဒါယိကာမသည် အရှင်သုဇာတအား အကျိုးအကြောင်းလျှောက်ထားပြီးလျှင် မြတ်စွာဘုရား အမှူးရှိသော သံဃာတော်တို့အား တတ်စွမ်းသမျှသော အလှူကိုပြုကာ ဤသို့ ဆုတောင်း၏။

"တပည့်တော်မသည် ဤကောင်းမှုကုသိုလ် အကျိုးအားကြောင့် နောင်ပွင့်လတ္တံ့သော မြတ်စွာဘုရား၏ သာသနာတော်ဝယ် 'ဓမ္မကထိက' တေဒဂ်ရသော ဘိက္ခုနီအရှင်မ ဖြစ်ရပါလိုသော်"

ဒါယိကာမသည် အသက်အတိုင်းနေပြီးနောက် စုတေသောအခါ လူ့ပြည်နတ်ပြည်တို့၌ စုန်ဆန်တက်သက် ကျင်လည်ခဲ့သည်။ ဖုဿမြတ်စွာဘုရား ပွင့်တော်မူချိန်ဝယ် ထိုဒါယိကာမသည် တရားသူကြီး၏ မယားဖြစ်လာသည်။ တရားသူကြီးမှာ မြတ်စွာဘုရား၏ညီတော် မင်းသားသုံးပါးတို့၏ လက်သုံးတော်ဖြစ်၏။

တရားသူကြီး၏ မယားသည် ဒါနသီလအမှု၌ ဝါသနာထုံ၏။ တစ်စုံတစ်ယောက်က 'တစ်ခုပေးပါ'ဟု တောင်းခံလာလျှင် နှစ်ခုသုံးခု ပေးသည်အထိ အပေးအလှူ ရက်ရောသည်။

တရားသူကြီး၏ အရှင်သခင်မင်းသားသုံးပါးသည် ဖုဿမြတ်စွာဘုရားအား ဆည်းကပ်လုပ်ကျွေးကြ၏။ တစ်ခုသော ဝါတွင်းကာလဝယ် မင်းသားသုံးပါးသည် ဖန်ရည်စွန်းသော အဝတ်ကိုဝတ်လျက် ဆယ်ပါးသီလကို ဆောက်တည်နေကြသည်။ ထိုအခါ ရှင်တော်မြတ် ဘုရားအား ဆွမ်းကွမ်းကပ်လှူသော တာဝန်ကို တရားသူကြီးအား လွှဲအပ်ထားကြ၏။

တရားသူကြီး၏ မယားအတွက် အခွင့်ကောင်းကြီး ဖြစ်လာတော့သည်။ သူသည် ဝါတွင်းသုံးလပတ်လုံး မြတ်စွာဘုရား အမှူးရှိသော သံဃာတော် အရှင်မြတ်တို့အား လိုလေသေးမရှိအောင် လုပ်ကျွေး၏။ သီလဆောက်တည်နေကြသည့် မင်းသားသုံးပါးအားလည်း ကြောင့်ကြမှုမရှိရအောင် ပြုစုလုပ်ကျွေး၏။ ကိုယ်တိုင်လည်း တရားဘာဝနာတို့ကို လွန်စွာ

အားထုတ်၏။

ထိုသို့လျှင် စေတနာသဒ္ဓါတရားအားကြီးသော ဒါယိကာမသည် အသက်အတိုင်းနေပြီးနောက် စုတေသည့်အခါ၌ ထိုကောင်းမှုကံကြောင့် လူပြည်နတ်ရပ်၏ ကောင်းမြတ်သော နေရာများ၌ အထပ်ထပ်ကြ၏။

ကဿပမြတ်စွာဘုရား ထင်ရှားပွင့်တော်မူသော ကာလဝယ်၊ ထို ဒါယိကာမသည် လူဖြစ်လာ၏။ ဗာရာဏသီပြည် ကိကီမင်းကြီး၏ သမီးတော် ခုနစ်ယောက်အနက် 'သုဓမ္မာ'မင်းသမီးဖြစ်လာသည်။ ညီအစ်မ ခုနစ်ဖော်သည် အနှစ်နှစ်သောင်းကာလပတ်လုံး မြတ်သောသီလကို ဆောက်တည်ခဲ့ကြသည်။ မြတ်စွာဘုရားအမှူးရှိသော သံဃာတော် အရှင်မြတ်တို့အား ရေတွင်း၊ ရေကန်၊ ကျောင်းအာရာမ်များ ဆောက်လုပ်လှူဒါန်းခဲ့ကြ၏။

ကိကီမင်းကြီး၏ သမီးတော်သုဓမ္မာသည် ထိုဘဝမှစုတေခဲ့လျှင် တာဝတိံသာနတ်ပြည်၌ သိကြားမိဖုရားကြီးအဖြစ် အကြိမ်ငါးဆယ်၊ ဧကရာဇ်မင်း၊ ပဒေသရာဇ်မင်းနှင့် သူဌေးသူကြွယ်တို့၏ မိဖုရားကြင်ရာအဖြစ်ကား အကြိမ်များစွာ ဖြစ်ရ၏။

ငါတို့ဆရာ ဂေါတမမြတ်စွာဘုရား ပွင့်တော်မူလာချိန်ဝယ် သူသည် ရာဇဂြိုဟ်ပြည်၌ ဥစ္စာကြွယ်ဝသော သူဌေးသမီးဖြစ်လာ၏။ 'ဓမ္မဒိန္နာ' ဟု အမည်တွင်၏။ သူသည် အရွယ်ရောက်ချိန်၌ ဗိမ္ဗိသာရမင်းကြီး၏ ကျောင်းနေဖက် သူငယ်ချင်းဖြစ်သော ဝိသာခနှင့် အကြောင်းဆက်၍ ပေါင်းဖက်မိကြသည်။ ထိုဝိသာခကား၊ မြတ်စွာဘုရား ရာဇဂြိုဟ်ပြည်သို့ ကြွလာတော်မူစကတည်းက တရားတော်ကို ဗိမ္ဗိသာရမင်းနှင့်အတူ နာခဲ့ရသဖြင့် သောတာပန် တည်ခဲ့သူပေတည်း။

ဝိသာခသည် ဓမ္မဒိန္နာနှင့် နေထိုင်စဉ်အတွင်းမှာပင် သကဒါဂါမ် တည်ခဲ့သည်။ ထို့နောက် တရားတော်ကို နာရပြန်သောအခါ အနာဂါမ်

အဖြစ်သို့ ရောက်လာပြန်၏။

အနာဂါမ်တည်ပြီးသော သူကြွယ်ဝိသာခသည် မြတ်စွာဘုရား၏ ကျောင်းတော်မှ ပြန်လာချိန်ဝယ်၊ ရှေးအခါကကဲ့သို့ မဟုတ်တော့ပြီ။ တောင်မြောက်လေးပါးကို မကြည့်။ ပြုံးရွှင်ရယ်မော မပြု။ ပကတိဣန္ဒြေဖြင့်သာ ပြန်လာသည်။

သူကြွယ်မ ဓမ္မဒိန္နာသည် လေသာပြတင်းကိုဖွင့်ပြီး လင်ကိုမျှော်သောအခါ အမူအယာ ထူးခြားသောလင်ကို မြင်၏။ မည်ကဲ့သို့သော အကြောင်းကြောင့်နည်းဟု တွေးတောဆင်ခြင်လျက် လှေကားရင်းမှ ကြိုဆို၏။

လှပသော မယား၏ ချစ်စဖွယ်အပြုံး၊ သာယာသော ခွန်းဆက်သံတို့ကို ဝိသာခ သတိမပြု။ လှေကားအတိုင်း တက်သွားသည်။ ဓမ္မဒိန္နာသည် ပို၍ သိလိုစိတ် ပြင်းပြလာသည်။ အဘယ်ကြောင့် အမူထူးခြားနေသနည်း။

သို့ဖြင့် ထမင်းစားချိန် ရောက်လာပြီ။ ထမင်းစားစဉ် စုံစမ်းမည်ဟူသော ဓမ္မဒိန္နာ၏စိတ်ကူးသည် အထမမြောက်ချေ။ အကြောင်းမူ ဝိသာခသည် တစ်ယောက်မျက်နှာ တစ်ယောက်ကြည့်လျက် ပြုံးရွှင်ရယ်မောသောအကျင့်ကို စွန့်ခဲ့ပြီ ဖြစ်သောကြောင့်တည်း။

ယောဂဝစရ ကမ္မဋ္ဌာန်းကို ဝင်စားနေသော ရဟန်းတော်အလား ငြိမ်သက်စွာ ထမင်းငုံ့စားနေသော ဝိသာခအား ဓမ္မဒိန္နာ အကဲခတ်သည်။ မည်သို့သော အကြောင်းပေနည်းဟု တွေးသည်။ တွေး၍ မရ။

ဤသို့ရှိစဉ်တွင် ဝိသာခသည် အခိုင်းအစေများအား ခေါ်သည်။ အခန်းလွတ်တစ်ခုကို အရှင်းခိုင်းသည်။ အိပ်ရာညောင်စောင်း အပြင်ခိုင်းသည်။ စောင် ခေါင်းအုံးများ ချထားပြီးနောက် တင်းထိမ်ကာရံလိုက်သည်။ မယားနှင့်တစ်အိပ်ရာတည်း မအိပ်စက်တော့ကြောင်း အထင်အရှားပြသလာသဖြင့် ဓမ္မဒိန္နာ မေးရတော့သည်။

"အရှင့်သား၊ ကျွန်တော်မမှာ အပြစ်ရှိလို့ သည်လိုလုပ်တာလား"

"မဟုတ်ပါဘူးကွယ်"

"တစ်ယောက်ယောက်ကများ ကုန်းစကား ပြောရော့သလား အရှင်"

"မဟုတ်ဘူး ဓမ္မဒိန္နာ"

"ဒါမှမဟုတ်ရင် တခြားမိန်းမတစ်ယောက်ကို စိတ်ညွတ်နေလို့လား"

"သာပြီးတော့ လွဲသေးတယ် ဓမ္မဒိန္နာ"

ဝိသာခသည် ဓမ္မဒိန္နာအား အထင်သေးသောကြောင့် ရှင်းလင်းမပြလို။ သို့သော် ရှင်းလင်းမပြဘဲ ထားပြန်လျှင်လည်း ဓမ္မဒိန္နာ နှလုံးသွေးပျက်ပြီး အသက်ပါ အန္တရာယ်ရှိနိုင်သည်။ သို့အတွက် ကြိုးစားပြီး ရှင်းလင်းပြရတော့သည်။

"သည်လို ဓမ္မဒိန္နာရေ၊ သည်လိုကွယ့်။ ငါဟာ မြတ်စွာဘုရားရဲ့ တရားတော်ကို နာကြားရတဲ့အတွက် 'လောကုတ္တရာ တရားအထူး'ကို ရနေပြီ။ အဲသည်လို လောကုတ္တရာ တရားအထူးကို ရတဲ့သူဟာ အရင့်အရင်တုန်းကလို တဏှာသန္ထဝ (တဏှာဖြင့် ပေါင်းသင်းဆက်ဆံခြင်း)နဲ့ ရွှင်ပျမြူးထူးမှု မပြုချင်တော့ဘူးကွယ့်။ ဒါကြောင့် မယ်မင်းဆန္ဒရှိရင် မင်းကပါလာတဲ့ ကုဋေလေးဆယ်၊ ငါ့မှာပါလာတဲ့ ကုဋေလေးဆယ်ကို သိမ်းယူပြီး၊ သည်အိမ်ကို အုပ်ချုပ်ပါ။ ငါရဲ့ အစ်မအဖြစ်နဲ့ပဲ ဖြစ်ဖြစ်၊ နှမအဖြစ်နဲ့ပဲ ဖြစ်ဖြစ်ပေါ့ကွယ်။ ငါကတော့ မင်းကျွေးတဲ့ ထမင်း တစ်လုတ်တစ်ဆုပ်ကို စားပြီး တရား အားထုတ်မယ်"

ဝိသာခသည် ဓမ္မဒိန္နာ မည်သို့ဖြစ်သွားသနည်း၊ အကဲမခတ်မလေ့လာဘဲ နောက်တစ်နည်း ပြောပြန်၏။

"သည်လိုမှ မနေချင်ရင်လည်း ပစ္စည်းတွေအားလုံးယူပြီး မင့်မိဘ

ရဲ့ အိမ်ကို ပြန်ပေတော့။ အိမ်ထောင်သစ် မထူထောင်ချင်ဘူး ဆိုရင်တော့၊ မင်းကို နှမလို သမီးလို ထားပါမယ်"

ဝိသာခ၏ စကားများသည် သာမန်ယောကျ်ားတို့ ပြောနိုင်ရန် ခက်ခဲလှသည်။ သို့ကြောင့် ဓမ္မဒိန္နာသည် ဝိသာခမှာ သူပြောသည့်အတိုင်း တရားထူးရနေသည်ဆိုခြင်းမှာ ဟုတ်လေသလောဟု တွေးတောရင်းက စုံစမ်းမေးမြန်း၏။

"အရှင့်သား၊ အဲသည် လောကုတ္တရာတရားကို အရှင်တို့လို ယောကျ်ားတွေသာ သိမြင်နိုင်သလား။ ကျွန်တော်မတို့လို မိန်းမတွေ မသိမြင်နိုင်ဖူးလား"

"ဟာ မဟုတ်ဘူး ဓမ္မဒိန္နာ။ သည်တရားကို ကျင့်ကြံအားထုတ်ရင် ဘယ်သူမဆို လောကုတ္တရာ တရားဓမ္မကို ခံစားနိုင်ပါတယ်"

"သည်လိုဆိုရင် သူတစ်ပါး ထွေးပစ်တဲ့ တံတွေးပေါက်ကို ကျွန်တော်မ ကောက်မမျိုချင်ပါဘူး။ ကျွန်တော်မကို ရဟန်းပြုခွင့်သာ ပေးတော်မူပါ"

ဝိသာခအတွက် အံ့သြဖွယ်၊ ဝမ်းမြောက်ဖွယ် စကားဖြစ်သည်။

"ကောင်းပြီ ဓမ္မဒိန္နာ၊ ငါခွင့်ပြုတယ်။ မယ်မင်း စိတ်မဝင်စားဘူး ထင်ခဲ့မိလို့ မပြောမိတာပါ။ ဒါပေမယ့် ခဏကလေး ဆိုင်းဦးနော်"

ခဏကလေး ဆိုင်းငံ့ရန် ဝိသာခ မှာကြားခြင်းမှာ ပြည့်ရှင်မင်းထံသို့ သွားလို၍ ဖြစ်သည်။ ဘုရင်ဗိမ္ဗိသာရသည် ညကြီးအချိန်မတော် ရောက်လာသော သူငယ်ချင်းအား ဆီးကြိုကာ အကျိုးအကြောင်း မေးသည်။

"ကျွန်တော့်ခင်ပွန်းမကို ဘိက္ခုနီကျောင်း ပို့မလို့ပါအရှင်မင်းကြီး။ ဒါကြောင့် ရွှေထမ်းစင်တစ်ခု ငှားတော်မူပါဘုရား"

"မင်္ဂလာရှိလိုက်လေ ဝိသာခရယ်၊ အလိုရှိတဲ့ ရွှေထမ်းစင်ကို ရွှေတိုက်တော်က ထုတ်ယူသွားစေ။ ဟဲ့ မင်းချင်းတွေ၊ သူကြွယ်မ သွားမယ့်

လမ်းတစ်လျှောက်မှာ လမ်းကိုသန့်ရှင်းပြုပြင်ကြစေ။ တံခွန်ကုက္ကား ချိတ်ဆွဲတဲ့၊ မီးရှူးတန်ဆောင်ထွန်းညှိတဲ့ တန်ဆာဆင်မှုတွေ အမြန်ဆောင်ရွက်ကြစေ"

ဝိသာခသည် နောက်လိုက်နောက်ပါများအား ရွှေထမ်းစင်ကို အထမ်းခိုင်းပြီး အိမ်သို့ပြန်လာသည်။ ဓမ္မဒိန္နာကို နံ့သာရည်ဖြင့် ရေချိုးပေးသည်။ ကောင်းမွန်စွာ ဖြီးလိမ်းပြီး၊ ဝတ်ကောင်းစားလှ ဆင်ယင်ပေးသည်။ ထို့နောက် ဓမ္မဒိန္နာကို ရွှေထမ်းစင်ပေါ်တင်သည်။

ဘိက္ခုနီကျောင်းသို့လာသော ဓမ္မဒိန္နာကား ခမ်းနားကြီးကျယ်သည်။ ဆွေမျိုးအခြံအရံ၊ အခိုင်းအစေအခြံအရံများဖြင့် စည်ကားလှသည်။ သို့သော် ဘိက္ခုနီအရှင်မကြီးများသည် သူကြွယ်မဟူ၍ ပေါ့ပေါ့တန်တန် လက်မခံပေ။ ပြစ်ချက်တစ်စုံတစ်ရာ၊ အရုပ်အထွေး ရှိ မရှိ ကောင်းမွန်သေချာစွာ စစ်ဆေးကြရာ သဒ္ဓါပဗ္ဗဇိတ (စိတ်ထက်သန် ယုံကြည်စွာဖြင့် ရဟန်းပြုခြင်း)ဟု သိရသဖြင့် လက်ခံလိုက်ကြသည်။

ဝိနည်းခိုရ် ဘိက္ခုနီ အရှင်မတစ်ပါးက 'ဆံပင်၊ အမွေး၊ ခြေသည်းလက်သည်း၊ သွား၊ အရေထူ အရေပါး'စသည့် 'တစပဉ္စက' ကမ္မဋ္ဌာန်းကို သင်ပြညွှန်ကြားလျက် ဆံပင်များကိုရိတ်ဖြတ်ကာ သင်္ကန်းဝတ်၍ 'သာမဏေရီ' ပြုပေးကြ၏။

(သာမဏေရီသည် ရဟန်း မဟုတ်သေးပေ။)

သာမဏေရီ ဓမ္မဒိန္နာမှာ ပြည့်ရှင်မင်းနှင့် အကျွမ်းဝင်သောကြောင့် နန်းတွင်းသူများနှင့်လည်း ရင်းနှီးသည်။ ဆွေမျိုးကလည်း ပေါသည်။ မိတ်ဆွေ အသိအကျွမ်းလည်း များပြားသည်။ ကုဋေရှစ်ဆယ်ကို စွန့်ပယ်ပြီး သာသနာ့ဘောင်သို့ ဝင်ရောက်လာသော ဓမ္မဒိန္နာအား ထိုဖော်ပြပါ ဆွေမျိုးမိတ်သင်္ဂဟများက ချစ်ခင်ကြည်ညိုစွာဖြင့် လှူဒါန်းကြသည်။ သို့ရာတွင် ထိုအရာများမှာ ဓမ္မဒိန္နာအား တရားအားထုတ်၍မရအောင် နှောင့်ယှက်သော

အရာများသာ ဖြစ်နေတော့သည်။

ဓမ္မဒိန္နာ အရှင်မသည် အနှောင့်အယှက်ကင်းစွာ တရားအားထုတ်လိုသည်။ သို့အတွက် တရားပြသောဆရာ၊ သင့်မသင့် ညွှန်ကြားဆုံးမသောဆရာတို့ထံ ချဉ်းကပ်ပြီး အနှောင့်အယှက် ကင်းသောနေရာသို့ သွားရောက်ကာ တရားအားထုတ်လိုကြောင်း ခွင့်တောင်းသည်။

ဆရာများသည် တပည့်အား အလိုလိုက်ကြရသည်။ ကြီးကျယ်ထင်ရှားသောဘဝမှ လာသူမဟုတ်လော။ သို့သော် ဆရာများရော တပည့်ပါ ရောက်လာသောအရပ်မှာ တရားအားထုတ်ရန်သင့်လျော်သော်ငြား အနေအစားဆင်းရဲသည်။ ဓမ္မဒိန္နာ အရှင်မမှာ ဆရာကောင်းကို ဆည်းကပ်မိခြင်း 'အဘိနီဟာရ ဗျာဒိတ်ရ' မိန်းမမြတ်ဖြစ်ခြင်းတို့ကြောင့် လေးငါးရက်မျှဖြင့် အနာဂါမ်ဖိုလ်သို့ ဆိုက်လေ၏။ သည်မျှဖြင့် တန့်မနေဘဲ ဆက်လက်ကာ ဝိပဿနာတရားကို အားထုတ်ရာ ရဟန္တာအဖြစ်သို့ မကြာမြင့်မီ ရောက်ရှိတော်မူလေ၏။

သူတော်ကောင်းတို့ ကိန်းအောင်းမွေ့လျော်ရန် အလွန်ကောင်းသော နေရာဖြစ်ငြား ဓမ္မဒိန္နာ အရှင်မမှာ ကြာရှည်မနေနိုင်ပါ။ အတူပါလာသော ဆရာသမား ထေရီအရှင်မကြီးများနှင့်အခြံအရံထေရီများ အနေအစားဆင်းရဲသည်ကို ငဲ့ညှာရသည်။ ထို့ကြောင့် မကြာမတင်မှာပင် ရာဇဂြိုဟ်မြို့သို့ ပြန်လည် ကြွမြန်းလာရသည်။

ဓမ္မဒိန္နာ အရှင်မ တောအရပ်မှ ပြန်ကြွလာသည့် သတင်းကို သူကြွယ် ဝိသာခ ကြား၏။ အရှင်မ၏အဖြစ်ကို ဂနသေချာစွာ မသိသဖြင့် တစ်မျိုးထင်၏။

"ဓမ္မဒိန္နာဟာ သာသနာ့ဘောင်မှာ မပျော်မွေ့လို့ ပြန်လာရော့သလား"

သို့အတွက် ဝိသာခသူကြွယ်သည် ဘိက္ခုနီကျောင်းသို့ရောက်လာ

သည်။ သင့်ရာနေရာတွင် ထိုင်ပြီး ရှိခိုးသည်။ သာသနာတော်မှာ ပျော်ပါရဲ့လား မေးချင်သော်ငြား မသင့်ဟုထင်သဖြင့် လှီးလွှဲပြီး မေးလျှောက်၏။

"အရှင်မ၊ ဘယ်ဟာကို သက္ကာယလို့ ရှင်တော်မြတ်ဘုရား ဟောကြားတော်မူပါသလဲဘုရား"

"ဒါယကာ၊ သည်ဥပါဒါနက္ခန္ဓာကိုပဲ သက္ကာယလို့ မြတ်စွာဘုရားဟောတော်မူတယ်။ အဲဒါတွေကတော့ ရူပုပါဒါနက္ခန္ဓာ၊ ဝေဒနုပါဒါနက္ခန္ဓာ၊ သညုပါဒါနက္ခန္ဓာ၊ သင်္ခါရုပါဒါနက္ခန္ဓာ၊ ဝိညာနုပါဒါနက္ခန္ဓာတို့ပဲ ဖြစ်ပြီးတော့၊ အဲသည် ဥပါဒါနက္ခန္ဓာ ငါးပါးကိုပဲ သက္ကာယလို့ မြတ်စွာဘုရားဟောတော်မူတယ် ဒါယကာ"

ဝိသာခ ကျေနပ်သွားငြား ထပ်မံမေးလျှောက်၏။

"ကောင်းလှပါပြီအရှင်မ။ ဘယ်တရားကို သက္ကာယသမုဒယလို့ မြတ်စွာဘုရား ဟောကြားတော်မူပါသတုန်း"

"နောင်ဘဝကိုဖြစ်စေတတ်တဲ့ ဟိုဘုံ သည်ဘုံ၊ ဟိုဘဝ သည်ဘဝကို တပ်မက်နှစ်သက်တာဟာ သက္ကာယသမုဒယပဲ ဒါယကာ"

ဝိသာခ ငြင်းရန် အကြောင်းမရှိ။ သို့သော် ဆက်လက်၍ လျှောက်ထား မေးနေမိပြန်၏။

"အရှင်မ၊သက္ကာယနိရောဓလို့ ခေါ်ခေါ်နေကြပါတယ်။ ရှင်တော်မြတ်ဘုရားက ဘယ်တရားကို သက္ကာယနိရောဓလို့ ဟောတော်မူပါသတုန်း"

"ငါ့ရှင် ဝိသာခ၊ တဏှာက လွတ်ကင်းပြီး ဘာမျှ ဖြစ်ပေါ်မလာဘဲ တဏှာအာလယ ကင်းငြိမ်းတဲ့ နိဗ္ဗာန်ကို သက္ကာယနိရောဓလို့ ခေါ်ပေတယ်"

"သက္ကာယနိရောဓဂါမိနီပဋိပဒါဆိုတာ၊ သက္ကာယမဖြစ်တဲ့ နိဗ္ဗာန်ကို ရောက်တဲ့အကျင့်လို့ ဆိုပါတယ်အရှင်မ။ ဒါကြောင့် ဘယ်တရားဟာ သက္ကာယ မဖြစ်တဲ့၊ နိဗ္ဗာန်ရောက်ကြောင်း အကျင့်ပဲလို့ မြတ်စွာဘုရား

ဟောကြားတော်မူပါသတုန်း”

“မဂ္ဂင်ရှစ်ပါးဖြစ်တဲ့ ‘သမ္မာဒိဋ္ဌိ၊ သမ္မာသင်္ကပ္ပ၊ သမ္မာဝါစာ၊ သမ္မာကမ္မန္တ၊ သမ္မာအာဇီဝ၊ သမ္မာဝါယာမ၊ သမ္မာသတိ၊ သမ္မာသမာဓိ’တို့ကို သက္ကာယမဖြစ်တဲ့ နိဗ္ဗာန်ရောက်ကြောင်း အကျင့်ပဲလို့ မြတ်စွာဘုရား ဟောကြားတော်မူတယ် ငါ့ရှင် ဝိသာခ”

“ဥပါဒါန်လို့ ဆိုရာမှာ အဲသည် ဥပါဒါနက္ခန္ဓာ ငါးပါးကိုပဲ ဥပါဒါန်လို့ ဆိုလိုတာလား။ ဒါမှမဟုတ် ဥပါဒါနက္ခန္ဓာအပြင် တခြား ဥပါဒါန်လို့ ဆိုချင်ပါသလား။ အရှင်မ ဘုရား”

“အဲသည် ဥပါဒါနက္ခန္ဓာငါးပါးကို ဥပါဒါန်လို့ မဆိုဘူး ငါ့ ရှင် ဝိသာခ။ သို့ပေမယ့် အဲသည် ဥပါဒါနက္ခန္ဓာ ငါးပါးကို ဖယ်ပြီးတော့လဲ ဥပါဒါန်လို့ မဆိုဘူး။ ဥပါဒါနက္ခန္ဓာ ငါးပါးမှာ တပ်မက်မှု၊ စွဲလန်းမှု၊ တွယ်တာမှု၊ ခင်မင်မှု တဏှာဖြစ်တာကို ဥပါဒါန်လို့ ဆိုပေတယ်”

ဝိသာခသည် အားရကျေနပ်စွာဖြင့် ဆက်လက်လျှောက်ထားပြန်၏။

“အရှင်မဘုရား။ သက္ကာယဒိဋ္ဌိဟာ ဘယ်လိုဖြစ်ပါသတုန်း”

“သည်လောကမှာ အရိယသစ္စာကို မသိမမြင်တဲ့ ပုထုဇဉ်။ ရုပ်ကို ကိုယ်လို့ ယုံကြည်တယ်၊ ရုပ်ရှိတဲ့ကိုယ်၊ ကိုယ်မှာရုပ် ရှိတယ်၊ ရုပ်မှာ ကိုယ်ရှိတယ်လို့ ယုံကြည်ကြတယ်။ ဝေဒနာကို ကိုယ်၊ ဝေဒနာရှိတဲ့ ကိုယ်၊ ကိုယ်မှာ ဝေဒနာရှိတယ်၊ ဝေဒနာမှာ ကိုယ်ရှိတယ်။ .... သညာကို ကိုယ်၊ သညာရှိတဲ့ ကိုယ်၊ ကိုယ်မှာ သညာရှိတယ်၊ သညာမှာ ကိုယ်ရှိတယ်။ ....သင်္ခါရကို ကိုယ်၊ သင်္ခါရရှိတဲ့ ကိုယ်၊ ကိုယ်မှာ သင်္ခါရရှိတယ်၊ သင်္ခါရမှာ ကိုယ်ရှိတယ်။ ....ဝိညာဉ်ကို ကိုယ်၊ ဝိညာဉ်ရှိတဲ့ ကိုယ်၊ ကိုယ်မှာ ဝိညာဉ် ရှိတယ်၊ ဝိညာဉ်မှာ ကိုယ်ရှိတယ်လို့ အယူရှိတယ်။ အဲသည်လို အယူရှိကြတာဟာ သက္ကာယဒိဋ္ဌိပဲ”

"အဲသည်လိုဆိုရင် ဘယ်လိုအခြင်းအရာနဲ့ အယူရှိမှ သက္ကာယ မဖြစ်ပါသလဲ အရှင်မဘုရား"

ထိုအမေးကို ရဟန္တာအရှင်မကြီး ဓမ္မဒိန္နာသည် ကောင်းစွာ ဖြေဆိုတော်မူသောအခါ ဝိသာခသည် ထပ်ဆင့်လျှောက်ထားပြန်၏။

"မဂ္ဂင်ရှစ်ပါးဟာ 'သင်္ခတ' တရားလား၊ 'အ သင်္ခတ' တရားပါလားဘုရား"

"မဂ္ဂင်ရှစ်ပါးဟာ 'သင်္ခတ' တရားဖြစ်တယ်"

"အရှင်မဘုရား၊ အဲသည် မဂ္ဂင်ရှစ်ပါးနဲ့ အစုသုံးပါးကို ပေါင်းသင့်ပါသလား"

ထိုအမေးကို အရှင်မ ဓမ္မဒိန္နာက ကောင်းမွန်ရှင်းလင်းစွာ ဖြေဆိုတော်မူသဖြင့် ဝိသာခသည် 'သမာဓိ၊ သမာဓိနိပါတ်၊ သမာဓိပရိက္ခရာ' ထိုမှ ဆက်လက်ပြီး 'သင်္ခါရ မည်မျှရှိသနည်း' ထိုမှတစ်ဖန် 'ကာယသင်္ခါရ၊ ဝစီသင်္ခါရ၊ စိတ္တသင်္ခါရ'တို့အပြင် နိရောဓသမာပတ်၊ ဝေဒနာ၊ အနုသယ၊ ပဟာတဗ္ဗ၊ ပဋိဘာဂ၊ ဝိမုတ္တိစသည်တို့ကို ဆင့်ကာဆက်ကာ မေးလျှောက်သည်။

"ဝိဇ္ဇာမှာ ဘယ်အရာဟာ ပဋိဘာဂ ဖြစ်ပါသတုန်း ဘုရား"

"ဝိဇ္ဇာမှာ ဝိမုတ္တိဟာ ပဋိဘာဂဖြစ်တယ်"

"ဝိမုတ္တိမှာ ဘယ်အရာဟာ ပဋိဘာဂ ဖြစ်ပါသတုန်း ဘုရား"

"ဝိမုတ္တိမှာ နိဗ္ဗာန်ဟာ ပဋိဘာဂ ဖြစ်ပေတယ်"

"နိဗ္ဗာန်မှာ ဘယ်အရာဟာ ပဋိဘာဂ ဖြစ်ပါသလဲ"

ထိုအမေးကိုကား ဓမ္မဒိန္နာအရှင်မသည် ဖြေဆိုတော် မမူ။ ဤသို့ကား မြွက်ကြားတော်မူ၏။

"ငါ့ရှင် ဝိသာခ၊ သင့်အမေးဟာ လွန်သွားပြီ။ မြတ်စွာဘုရားရဲ့ သာသနာတော်မှာ ဗြဟ္မစရိယအကျင့်ဟာ နိဗ္ဗာန်မှာ ဆုံးတယ်။ ဒါယကာ

အလိုရှိသေးတယ်ဆိုရင် မြတ်စွာဘုရားထံတော်မှာ မေးလျှောက်ပေတော့။ မြတ်စွာဘုရား ဖြေကြားတော်မူတဲ့အတိုင်းသာ မှတ်သားကျင့်ဆောင်ပေတော့"

ဝိသာခသည် သာဓုခေါ်ကာ ဝမ်းမြောက်ဝမ်းသာရှိခိုးလျက် ထွက်လာခဲ့ပြီးနောက် မြတ်စွာဘုရား၏ ခြေတော်ရင်းသို့ ရောက်လာသည်။ ဓမ္မဒိန္နာအရှင်မနှင့် မေးမြန်းဖြေဆိုပုံများကို စုံစေ့စွာလျှောက်ထားသည်။

"ဥပါသကာ ဝိသာခ၊ ဓမ္မဒိန္နာ ဘိက္ခုနီသည် ကြီးသော ပညာရှိ၏။ ငါဘုရားအား ထိုပုစ္ဆာကို သင် မေးလျှောက်အံ့။ ငါ့ဘုရားသည်လည်း ထိုကဲ့သို့သာလျှင် ဖြေဆိုအံ့။ ဓမ္မဒိန္နာဘိက္ခုနီ ဖြေဆိုသည့်အတိုင်းသာလျှင် မှတ်သား ကျင့်ဆောင်လေလော့"

ရှင်တော်မြတ်ဘုရားသည် နောင်သောအခါ၌ ဘိက္ခုနီအရှင်မများအား ထိုက်သင့်ရာ ဧတဒဂ်ဖြင့် ချီးမြှောက်တော်မူသောအခါ ဓမ္မဒိန္နာ ရဟန္တာအရှင်မကြီးအား 'တရားအဟောကောင်းသော ဘိက္ခုနီအပေါင်းတို့တွင် အသာလွန်ဆုံး' ဟူ၍ 'ဓမ္မကထိက ဧတဒဂ်'အရာ၌ ထားတော်မူ၏။



## ၆။ ဈာယိနီတေဒဂ်ရ အရှင်မ

သုန္ဒရီ၊ ရူပနန္ဒာ၊ ဇနပဒကလျာဏီ သုံးမည်ရသော ထေရီအရှင်မကား ဈာန် ဝင်စားသော အရာ၌ာနၶ တေဒဂ်ဂုဏ်ထူး ရရှိတော်မူပေသည်။

ထိုရူပနန္ဒာ ထေရီမြတ်လှ အရှင်မ၏ အတိတ်ဇာတ်ကြောင်းမှာ ဤသို့ ဖြစ်၏။

ဤကမ္ဘာမှ ပြန်၍ရေတွက်လျှင် တစ်သိန်းကျသော ကမ္ဘာထက်၌ ပဒုမုတ္တရမြတ်စွာဘုရား ပွင့်တော်မူ၏။ ထိုမြတ်စွာဘုရား ကိုယ်ကော်မြတ် ကြီးသည် တိတ္ထိတို့အား ပဋ္ဌသီလတည်အောင် ဟောချွတ်တော်မူ၏။ သို့ဖြစ်၍ ပဒုမုတ္တရ မြတ်စွာဘုရား၏ သာသနာတော်အတွင်း၌ တိတ္ထိဟူသည့် သာသနာ့ ရန်ဆူး ရန်ညှောင့်များ မရှိချေ။

ထိုပဒုမုတ္တရ မြတ်စွာဘုရား ပွင့်တော်မူချိန်ဝယ် ရူပနန္ဒာ လောင်း လျာသည် ဟံသာဝတီပြည်ဝယ် မဟာသုခ သူဌေးကြီး၏သမီး ဖြစ်လာ၏။ ထိုသူဌေးသမီးသည် ရတနာသုံးပါး၌ လွန်စွာ ကြည်ညိုသော ဥပါသိကာ မကလေးဖြစ်ပေသည်။

တစ်နေ့သောအခါ ပဒုမုတ္တရမြတ်စွာဘုရားသည် တရားသဘင်ရှိ

ပရိသတ်တို့၏အလယ်၌ ဘိက္ခုနီတစ်ပါးအား တေဒဂ်ထားတော်မူ၏။ ထိုအရှင်မသည် ဈာန်ဝင်စားခြင်း၌ လွန်စွာမွေ့လျော်သောကြောင့် ထို တေဒဂ်ကို ရခြင်းဖြစ်၏။

ထိုအခြင်းအရာကို ဖူးမြင်ရသော သူဌေးသမီးသည် လွန်စွာ ကြည်ညို၍ နှစ်သက်အားကျ၏။ ထို့ကြောင့် ကောင်းမှုတစ်ခုပြုပြီးတိုင်း "ဈာနဘိရတ တေဒဂ်ရသော အရှင်မကဲ့သို့ နောင်မြတ်စွာဘုရားတို့၏ သာသနာဝယ် ဖြစ်ရပါလို၏" ဟု ဆုတောင်းလေ့ရှိသည်။

တစ်နေ့တွင် သူဌေးသမီးသည် မြတ်စွာဘုရား အမှူးရှိသော သံဃာတော် အရှင်မြတ်တို့အား ကျောင်းအာရာမ် ဆောက်လုပ်လှူဒါန်းပြီး နောက် ဆွမ်း၊ ခဲဖွယ်ဘောဇဉ်များ ဆက်ကပ်လှူဒါန်းသည်။ အနုမောဒနာ တရားနာကြားအပြီးတွင်လည်း အထက်ပါဆုကို ထပ်မံဆုတောင်းပြန်သည်။

ထိုအခါ ပဒုမုတ္တရ မြတ်စွာဘုရားသည် ဗျာဒိတ်ပေးတော်မူ၏။

"ဥပါသိကာမ၊ သင်သည် ယခုပြုရသော ကောင်းမှုအထူးကြောင့် ဘဝများစွာ သံသရာဝယ် ချမ်းသာသော အမျိုး၌သာ ဖြစ်ရလတ္တံ့။ သာရကမ္ဘာ၏နောက် တစ်သိန်းမြောက်အကျ၌ ဘဒ္ဒကမ္ဘာ ဖြစ်သောအခါ၊ ဥက္ကာကရာဇ် နွယ်မြစ်တော်ရင်း မင်းတို့ဇာတိမှ ဂေါတမအမည်တော်ရှိသော ဂေါတမမြတ်စွာဘုရား ပွင့်တော်မူလိမ့်မည်။ ထိုအခါဝယ် သင်သည် မြတ်စွာဘုရား၏နှမတော် ဇနပဒကလျာဏီအမည်ရှိသော ဘိက္ခုနီဖြစ်ပြီး ဈာနဘိရတ တေဒဂ်ကို ရလတ္တံ့"

သူဌေးသမီးသည် လွန်စွာဝမ်းမြောက်လျက် ကောင်းမှုကုသိုလ် များကို ဆက်ကပ်ထမ်းပိုး တိုး၍ကျင့်ဆောင်သည်။ သူသည် အသက်အဆုံး နေ၍ စုတေသောအခါ တာဝတိံသာနတ်ပြည်၌ သိကြားမင်း၏ မိဖုရားကြီး အဖြစ် ဘဝပေါင်းတစ်ထောင် ဖြစ်၏။ ထိုမှုမက တုသိတာ နတ်ပြည်၌

လည်း နတ်မင်းကြီး၏ မိဖုရားအဖြစ်ကို အကြိမ်များစွာ ရရှိပြန်၏။ ထိုမှ ဆက်လက်ပြီး နိမ္မာနရတိ၊ ပရနိမ္မိတ၊ ဝသဝတ္တီဘုံတို့၌လည်း နတ်တို့၏ စည်းစိမ်ကို ဘဝများစွာ စံစားရ၏။

သူဌေးသမီးနတ်သမီးသည် လူ့ဘဝကိုရရှိပြန်လျှင်လည်း ကျွန်းရံ နှစ်ထောင်နှင့်တကွ လေးကျွန်းလုံးကို အစိုးရသော စကြဝတေးမင်း၏ မိဖုရားကြီးအဖြစ် အကြိမ်တစ်ထောင် ရရှိပြန်၏။ ဧကရာဇ်မင်း ပဒေသရာဇ် မင်းတို့၏ မိဖုရားကြီး အဖြစ်များကား များပြားလှချေ၏။

ဤသို့လျှင် လူ့ပြည်နတ်ရပ် အထပ်ထပ် ကျင်လည်ခဲ့ပြီးနောက် သူသည် ကောဏာဂုံမြတ်စွာဘုရား၏ ရွှေလက်ထက်တော်ဝယ် ဗာရာဏသီ ပြည့်ရှင်မင်း၏ မိဖုရားကြီး ဖြစ်လာ၏။ မိဖုရားကြီးသည် မြတ်စွာဘုရား အမှူးပြုသော သံဃာတော်အရှင်မြတ်တို့ သီတင်းသုံးတော်မူကြရန် ကျောင်း၊ ကန်၊ ဇရပ်၊ ပြသာဒ်၊ ဥမင်တို့ကို ဆောက်လုပ် ပြုပြင်ပြီး လှူဒါန်း၏။

မိဖုရားကြီးသည် ထိုအဖြစ်မှ စုတေသောအခါ လူ့ဌာန်နတ်ပြည် အလီလီ ကျင်လည်ခဲ့ပြီးမှ ကပိလဝတ်ပြည် သုဒ္ဓေါဒနမင်း၏ မိဖုရားဖြစ်သော မဟာပဇာပတိ ဂေါတမီ၏ သမီးတော် ဖြစ်လာ၏။ သာကီဝင်မင်းမျိုးတို့၏ နှစ်လိုစုံမက်ဖွယ် တင့်တယ်လှပသော အဆင်းအရောင်ရှိသဖြင့် 'ရူပနန္ဒာ'ဟု အမည်ပေးကြ၏။ သိဒ္ဓတ္ထမင်းသားထက် အသက်သုံးနှစ်ကြီးသော ထိုမင်းသမီးသည် အရွယ်ရောက်လာချိန်၌ ယသော်ဓရာဒေဝီမှ တစ်ပါး တုယှဉ်နိုင်သော မိန်းမ မရှိ။ လွန်ကဲသော အဆင်းအသရေဖြင့် ပြည့်စုံသည့်အတွက် 'ဇနပဒကလျာဏီ'ဟူ၍ အမည် တွင်လာခဲ့ပြန်တော့သည်။

သုဒ္ဓေါဒနမင်းကြီးသည် သားတော် သိဒ္ဓတ္ထမင်းသားအား များစွာ အားကိုးသော်ငြား၊ မင်းသားသည် ရွှေနန်းစည်းစိမ်နှင့် မယား၊ သားကိုပါ စွန့်ခွာလျက် တောထွက်သွားသည်။ ခြောက်နှစ်ကျော်သောအခါ လောက

သုံးပါး၌ ဂေါတမမြတ်စွာဘုရား ထင်ရှား ပွင့်တော်မူလာပြီ။ ထိုမြတ်စွာဘုရားသည် ရာဇဂြိုဟ်ပြည်၌ သီတင်းသုံးနေတော်မူသည်ဟု သုဒ္ဓေါဒနမင်းကြီး ကြားတော်မူသည်။

သုဒ္ဓေါဒနမင်းကြီးသည် အမတ်တို့အား အထောက်အလှမ်း စေလွှတ်သောအခါ သူ့သားတော်ဖြစ်နေကြောင်း သိရသဖြင့် ကပိလဝတ်ပြည်သို့ မြတ်စွာဘုရား ကြွတော်မူရန် အမတ်များအား တစ်ယောက်ပြီး တစ်ယောက် စေလွှတ်ကာ အပင့်အလျှောက်ခိုင်းသည်။ သွားလေသမျှ အမတ်တွေ တစ်ယောက်မျှ ပြန်မလာ၊ မြတ်စွာဘုရားလည်း ကြွတော်မူမလာ။ နောက်ဆုံးတွင် ဖွားဖက်တော် ကာဠုဒါယီ အမတ်ကို စေလွှတ်မှသာ မြတ်စွာဘုရား ကြွတော်မူလာသည်။

ကပိလဝတ်ပြည်သို့ မြတ်စွာဘုရား ကြွရောက်တော်မူလာချိန်သည် သားတော်နန္ဒမင်းသားနှင့် ရူပနန္ဒာတို့အား စုလျားရစ်ပတ် လက်ထပ်ပေးချိန်နှင့် တိုက်ဆိုင်နေသည်။ သို့ရာတွင် လက်ထပ်ပြီးသည့်နေ့မှာပင် နန္ဒမင်းသားသည် သာသနာ့ဝန်ထမ်း ရှင်ရဟန်းပြုသွားလေ၏။

ထို့နောက် မကြာမီ ရူပနန္ဒာ၏တူတော် ရာဟုလာမင်းသားလည်း သာသနာ့ဘောင်သို့ ရောက်ရှိသွားပြန်သည်။ မကြာမီ ခမည်းတော် သုဒ္ဓေါဒနမင်းကြီး နတ်ရွာစံတော်မူပြီးနောက် မယ်တော် မဟာပဇာပတိ ဂေါတမီမိဖုရားကြီးပါ ရဟန်းပြုသွားတော့သည်။

ရူပနန္ဒာမင်းသမီးသည် ရွှေနန်းထက်တွင် စံစားရသည်ကို မပျော်ပိုက်သဖြင့် မယ်တော်ထေရီ အရှင်မကြီးအား ဖူးမြော်ရန်အတွက် ရာဇဂြိုဟ်ပြည်သို့ အခြံအရံများစွာဖြင့် လိုက်ပါလာသည်။

"သမီးတော်။ သမီးတော်ဟာ သမီးတော်ရဲ့မောင်ဘုရား သိဒ္ဓတ္ထမင်းသားလိုပဲ အဆင်းရူပကာ အလွန်လှပပေတယ်။ သို့ပေမယ့် ရုပ်အဆင်းလှပတာဟာ အနာရောဂါ မကျရောက်ခင်အထိပဲ တည်တံ့တယ်။ သမီး

တော်ရဲ့ ကြင်ဖော်ကြင်ဖက် မင်းနန္ဒကိုလည်း မျှော်လင့်နေလို့ မဖြစ်တော့တဲ့ ဘဝမှာ ဘာပြုလို့ အခုလိုနေဦးမှာလဲ”

ထေရီမကြီး၏စကားကြောင့် ရူပနန္ဒာမှာ အဖြေရခက်နေ၏။

“သမီးတော် စဉ်းစားကြည့်စမ်း။ အရွယ်ကောင်းခြင်းနဲ့ လှပခြင်း ဆိုတာဟာ အိုမင်းရင့်ရော်ခြင်းမှာ ပြီးဆုံး ပျောက်ကွယ်ရတယ်။ တင့်တယ် လှပတဲ့ အဆင်းပြင်လျာ ဆိုတာကလည်း အနာရောဂါကျရောက်ချိန်မှာ ဆုံးရှုံးပျောက်ကွယ်ရတာပဲ။ သွားလာ၊ စားသောက်၊ နေထိုင်ဆိုတဲ့ အသက် ရှင်ခြင်းဟာလည်း သေခြင်းတရား ရောက်မလာခင်အထိသာ တည်တံ့နိုင် တာပါ”

မမြဲခြင်းတရားကို အမှတ်မဲ့ သဘောထားခဲ့သော မင်းသမီးသည် တွေးတောရပြီ။ ဆင်ခြင်ရပြီ။

“သမီးတော်ထက် အဆများစွာ ပိုမိုလှပတဲ့ သိဒ္ဓတ္ထမင်းသားဟာ ပြောမဆုံးနိုင်တဲ့ ကာမဂုဏ်ချမ်းသာတွေကို ပိုင်ဆိုင်ခဲ့တဲ့အပြင် လေးကျွန်း လုံးကို အစိုးရတဲ့ စကြဝတေးမင်းဖြစ်ဖို့ ရက်ပိုင်းပဲလိုတော့တယ်။ ဒါပေမယ့် သူဟာ အဲဒါလောက်ကြီးကျယ်တဲ့ စည်းစိမ်ချမ်းသာတွေကို စွန့်ပစ်ပြီး ရဟန်းပြုခဲ့တယ် မဟုတ်လား။ သူနဲ့နှိုင်းယှဉ်ရင် သူ့လက်အောက်ခံ အနေ အထားမှာပဲရှိတဲ့ သမီးတော်က ဘာကြောင့် ရဟန်း မပြုနိုင်ရမှာတုန်း။ အညစ်အကြေးတွေ စုဝေးနေတဲ့ သည်ကိုယ်ကာယကြီးကို နံ့သာလိမ်းကျန် ပန်းပန်ပြီး အဝတ်လှလှကလေးတွေ ဝတ်ပေးနေတော့ ဘာများအကျိုးရှိမှာ တုန်းသမီးတော်။ အိုရတဲ့ ဆင်းရဲ၊ နာမကျန်းဖြစ်ရတဲ့ ဆင်းရဲ၊ သေရတဲ့ ဆင်းရဲဆိုတဲ့ဘေးတွေနဲ့ မုချတွေ့ကြုံခံစားရမှာပဲ။ အဲဒါတွေရဲ့ လွတ်ကင်းရာ နေရာကတော့ နိဗ္ဗာန်ချမ်းသာပဲဖြစ်တယ် သမီးတော်။ သည်ချမ်းသာကို လိုချင်တယ်ဆိုရင်တော့ မယ်တော့်လိုပဲ ရဟန်းပြုရလိမ့်မယ်”

ရူပနန္ဒာ စဉ်းစားသည်။ စဉ်းစားလေလေ မယ်တော်ထေရီမကြီး

၏ မိန့်ကြားစကားများ မှန်ကန်လေလေ ဖြစ်နေသည်ကို တွေ့ရ၏။

သို့ကြောင့် ရူပနန္ဒာသည် ဂေါတမီထေရီမကြီးထံတွင် ရဟန်းပြု လိုက်တော့၏။

ဇနပဒကလျာဏီ (ခေါ်) ရူပနန္ဒာထေရီသည် လောကီအာရုံ ကာမ ဂုဏ်တို့၏ အကြောင်းကြောင့် သံသရာဝတ်ဆင်းရဲဝယ် ထပ်ပြန်တလဲလဲ အိုရ၊ နာရ၊ သေရမည့်ဆင်းရဲကို မြင်သဖြင့် ရဟန်းပြုခဲ့၏။ သို့ရာတွင် ဝတ်ကြောင်စွန့်ခြင်း မည်ကာမတ္တ ရှိသေးသဖြင့် မြတ်စွာဘုရားထံတော် ပါးသို့ မဆည်းကပ်ပေ။

"မြတ်စွာဘုရားဟာ အဆင်းရူပကာ လုပတာကို အပြစ်ပြောတော် မူတယ်လို့ ငါကြားရတယ်။ ဒါကြောင့် ငါ့ကိုလည်း အပြစ်တင်မှာ ကဲ့ရဲ့မှာ မုချပဲ"

ရူပနန္ဒာထေရီ မြတ်စွာဘုရားထံတော်သို့ မချဉ်းကပ်ခြင်းမှာ ဤ အကြောင်းကြောင့် ဖြစ်သည်။ ဘိက္ခုနီ ကျောင်းများအနီးအပါးသို့ မြတ်စွာ ဘုရား ကြွလာတော်မူသည်ကြားလျှင် ရူပနန္ဒာ ပုန်းအောင်းနေသည်။

ဘိက္ခုနီတို့သည် မြတ်စွာဘုရား၏ ရှေ့တော်သို့ဝင်ကာ ဆုံးမ သြဝါဒကို အလှည့်ကျ ခံယူကြရသည်။ သို့သော် ရူပနန္ဒာထေရီသည် ကိုယ်တိုင်မသွားပါ။ မောင်းမဟောင်း ရံရွေတော်ဟောင်း ဘိက္ခုနီများကိုသာ လူစားလွှတ်ခဲ့သည်။

ဤအတိုင်းသာ တစ်သက်လုံး ကျင့်ဆောင်သွားလျှင် ရူပနန္ဒာ၏ ရဟန်းပြုခြင်းမှာ အဓိပ္ပာယ်မဲ့တော့မည်ကို မြတ်စွာဘုရား သိမြင်တော်မူ သည်။ ထို့ကြောင့် ပညတ်ချက်တစ်ရပ် ထုတ်ပြန်တော်မူ၏။ ယင်းမှာ "ဘိက္ခုနီသံဃာတို့သည် သြဝါဒခံယူရန် အလှည့်ကျသောနေ့၌ သူတစ်ပါး အား မစေလွှတ်ရ။ ကိုယ်တိုင်လာပြီး သြဝါဒ ခံယူရမည်။ ကိုယ်တိုင်မလာ သော် 'ပါစိတ်အာပတ်' သင့်စေရမည်"ဟူ၍ ဖြစ်ပေသည်။

ထိုအခါ ရူပနန္ဒာထေရီ မနေသာပြီ။ဩဝါဒခံယူအလှည့်ကျသော အခြားဘိက္ခုနီများနှင့်အတူ မြတ်စွာဘုရားရှေ့တော်သို့ ဝင်ရောက်ခစားရပြီ။ သို့တစေ အဆင်းရုပ်ဝါ လှပသူများအား မြတ်စွာဘုရား ရှုတ်ချတော်မူသည် ဟူသည့်အစွဲရှိနေရကား ဘိက္ခုနီများ၏နောက်ကွယ်တွင် ပုန်းလျှိုးကွယ်လျှိုး နေသည်။

ထိုသို့နေရာက ရူပနန္ဒာထေရီသည် မြတ်စွာဘုရား ရှေ့တော်သို့ မရဲတရဲလှမ်းကြည့်ရာ အလွန်အမင်း အံ့ဩရလေ၏။ အကြောင်းသော်ကား အလွန်လှပသော မိန်းမတစ်ယောက်သည် မြတ်စွာဘုရားအား ယပ်လေ ခပ်လျက် ခစားနေသောကြောင့်ပေတည်း။

ရှေ့တော်၌ ယပ်လေခပ်နေသော ထိုမိန်းမသည် လူ့ပြည်လူ့ရွာ၌ ယှဉ်ပြိုင်နိုင်သူ မရှိအောင် လှပသည်။ ကိုယ်နေဟန်ထား တင့်တယ်ပြေပြစ် သည်။ အရွယ်ကလေးကလည်း နုနယ်ပျိုမျစ် ပါဘိသနှင့်။ လှပတင့်တယ် ခင်မင်ဖွယ်ကောင်းသော ထိုမိန်းမ၏ အလှနှင့် မိမိ၏အလှကို ယှဉ်ကြည့်မိ သောအခါ ရူပနန္ဒာထေရီ ရှက်အားငယ်ရပြီ။

"ကြည့်စမ်း။ သည်လောကမှာ ငါ့ထက်ပိုပြီး လှပတဲ့သူ မရှိတော့ ဘူးလို့ ငါထင်ခဲ့တာ မှားနေပါပေါ့လား။ သည်မိန်းမရဲ့အလှနဲ့ ငါ့အလှကို ယှဉ်လိုက်တော့မှ ငါ့အလှဟာ ခြင်္သေ့မင်းရဲ့ ဘေးမှာရောက်နေတဲ့ မြေခွေးအို ဖြစ်ပြီး၊ သိမ်ငယ်သွားပါပြီကော။ မောင်တော်မြတ်စွာဘုရားဟာ ဒါလောက် လှပတဲ့ မိန်းမတစ်ယောက်ရဲ့ ခစားပူဇော်မှုကိုလည်း ခံယူတာပါပဲကလား။ သည်လိုဆိုရင် မြတ်စွာဘုရားကို အထင်လွဲပြီး ငါပုန်းရှောင်နေခဲ့တာဟာ မှားတာပေါ့"

ထိုသို့ ရူပနန္ဒာထေရီ တွေးတောနေဆဲဝယ်၊ မိန်းမချောသည် ယပ်ကို ချထားခဲ့ပြီး နောက်သို့ ဆုတ်လာသည်။

"ချစ်ဆွေညီမ၊ လာ.... လာ.... သည်ကိုလာ။ သည်မှာ ထိုင်"

ရူပနန္ဒာထေရီက လှိုက်လှဲပျူငှာ ဆီးကြိုသည်။

"ယပ်လေခပ်ပြီးပူဇော်ခဲ့ရလို့ ညောင်းညာပင်ပန်းနေရင် မမရင်ခွင်ထဲမှာအိပ်ပါလား။ ဩော်.... ဒါထက် ညီမနာမည်ကို ဘယ်လိုခေါ်သတုန်း"

မိန်းမလှကလေးသည် ရူပနန္ဒာထေရီ၏ ရင်ခွင်ထဲသို့ ဝင်ရောက်လှဲချလိုက်ရာ တစ်ခဏအတွင်း အိပ်ပျော်သွားလေ၏။ ရူပနန္ဒာထေရီသည် မိမိ၏အမေးကို မဖြေဘဲ အိပ်ပျော်သွားသော မိန်းမလှအား ခင်မင်တွယ်တာကြင်နာစွာဖြင့် ငုံ့ကြည့်နေမိသည်။

ချမ်းမြေ့ကြည်နူးစွာဖြင့် ရူပနန္ဒာထေရီ ငုံ့ကြည့်နေဆဲ၌ မိန်းမချော၏ မွတ်ညက်ကြည်လင်သော ပါးပြင်ပေါ်တွင် ဝက်ခြံကြီးတစ်လုံး ပေါက်လာ၏။ ထိုဝက်ခြံသည် ချက်ချင်း ကြီးမားရောင်ကိုင်းလျက် ညိုမည်းပုပ်ပွလာလေ၏။

ရူပနန္ဒာထေရီမှာ အံ့လည်းအံ့ဩ၊ ထိတ်လည်း ထိတ်လန့်သည်။

သို့သော် သူ့ရင်ခွင်ထဲရှိ မိန်းမချော၏ ဝက်ခြံပုပ်ကြီးမှာ မတန့်ရပ်သေးချေ။ တစ်မျက်နှာလုံးမှ တစ်ကိုယ်လုံးသို့ အနာတွေကူးစက်ကာ သွေးပုပ်ပြည်ပုပ်တွေ စီးကျလာ၏။ သွေးပုပ်ပြည်ပုပ်နံ့တွေ ဆိုးရွားစွာ နံစော်လာ၏။

"နာလိုက်တာ ကိုက်လိုက်တာ အရှင်မရယ်၊ ကျွန်မကိုကယ်ပါဦး။ အမယ်လေး အခံရခက်လှချည်ရဲ့"

ရူပနန္ဒာထေရီ၏ ရင်ခွင်ထဲမှ မိန်းမချောမှာ လူးလိမ့်ညည်းတွားရင်း ငိုကြွေး၏။ အလှအပများလည်း သစ်ရွက်ကြွေသကဲ့သို့ ဖြုတ်ခနဲပျောက်ကွယ်သွားပြီ။

"အံ့ဩစရာပါကလား ညီမရယ်။ လှပတင့်တယ် မြင့်သွယ်တဲ့ နှာခေါင်းကလေးဟာ ဘယ်လိုဖြစ်သွားတာတုန်း။ နီမြန်းတဲ့ ကျီးအာသီးမှည့်လို နှစ်သက်စရာ ကောင်းလှတဲ့နှုတ်ခမ်းကလေးကကော ဘယ့်နှယ်ဖြစ်

သွားပါလိမ့်။ ရွှေအေးယာဉ်လို တင့်တယ်လှပတဲ့ နားရွက်ကလေးတွေလည်း မလှမပ ဖြစ်သွားပါပြီကော"

ရူပနန္ဒာထေရီ တုန်လှုပ်စွာ မြည်တမ်းသည်။

"ပန်းငုံကလေး နှစ်ခု၊ သီးနုကလေး တစ်စုံနဲ့တူတဲ့ ရင်သီးရင်လုံးဟာ လိမ္မော်သီး၊ တည်သီးလို၊ ခုံညင်းလို သိပ်လှတာပဲ။ အခုတော့ ပိပြားရှုံ့တွ တွဲလျားကျပြီး ပျက်ကုန်ပါပြီကော။ ရွှေပွတ်လုံးရဲ့ အလယ်ပိုင်းနဲ့တူတဲ့ ခါး၊ ပန်းစည်းလိုလှပပြီး ချစ်စဖွယ်ရှိတဲ့ ခါးဟာလည်း ခွေးစားခေါင်းသစ်သားလို ခွက်ပြားပြီး တောင့်တောင့်ကြမ်းကြမ်းမာမာကြီးဖြစ်ပြီး အညစ်အကြေးတွေ ပေလူးလို့။ အနံ့တွေကလည်း ဆိုးရွားလိုက်တာ၊ အသေကောင်ပုပ်ကြီးလို ရွံစရာကြီးပါကလား။ အင်း သိပ်ပြီးလှပယဉ်ကျေး မြင်သူငေးရတဲ့ အချောအလှဆိုတာဟာ မမြဲပါကလား"

ရူပနန္ဒာထေရီသည် မိမိထက် အဆပေါင်းများစွာပိုလွန်လှပသော ထိုမိန်းမ၏တစ်ကိုယ်လုံးတွင် ပြည်ပုပ်သွေးပုပ် လိမ်းကျံလျက် ပုပ်ပွညှီဟောင် မကောင်းသောရနံ့တို့ဖြင့် နှာခေါင်းမခံနိုင်အောင် ညှီပုပ်ပျက်ပြားသည်ကို မျက်ဝါးထင်ထင်မြင်ရ၏။ ထိုအခါ မိမိကိုယ်ကိုလည်း ထိုမိန်းမချော အတူပင် ထင်လာမြင်လာ၏။

"ဘာဘာညာညာ ခြယ်လှယ်ကြ၊ မွမ်းမံကြ၊ လှတယ်လို့ ထင်နေကြ၊ စွဲမက်စရာကောင်းတယ် မှတ်နေကြတဲ့ သည်ကိုယ်ကောင်ပုပ်ကြီးဟာ ပုပ်ဟောင်တာပဲ။ အသေကောင်တွေထားတဲ့ သင်းချိုင်းမြေလို ကြောက်စရာကြီးပါကလား။ ဒါနဲ့များတောင် ငါဟာ သည်ပျက်စီး ဖောက်ပြန်မယ့်ကိုယ်ပေါ်က အဆင်းကလေး ခဏတစ်ဖြုတ် လှပတာနဲ့ မာနမောက်ကြွားခဲ့တယ်။ ငါတယ်ဟုတ်ပါကလား ဆိုပြီး ပျော်ရွှင်မြူးထူးနေခဲ့မိပါကလား"

"နမတော်နန္ဒာ။သင်၏စိတ်ကို တစ်ခုတည်းသောအာရုံ၌တည်နေအောင်၊ ကောင်းစွာတည်ကြည်အောင် အသုဘအာရုံ၌ ပွားစေ ဖြစ်စေလော့"

ရူပနန္ဒာထေရီ အမှားကိုမြင်ကာ အမှန်ဘက်သို့ ဝင်လာချိန်၌ မြတ်စွာဘုရားက စတင် ဟောကြားတော်မူခြင်း ဖြစ်၏။

"နာကျင်တတ်သော၊ သူသေကောင်ပုပ်အနံ့ရှိသော အရိုးအကြော တို့ဖြင့် ဖွဲ့ဆက်တည်ထောင် ဤကိုယ်ကောင်ကြီးကို အပုပ်အစုအဖြစ် မြင်အောင်ရှုလော့။ အနာရောဂါဖြင့် ပုပ်ညှို၍နေသော ဤကိုယ်ကြီးကဲ့သို့ အနာရောဂါ မရှိသေးသော ထိုကိုယ်ကြီးသည်လည်း အနာရောဂါတို့ဖြင့် ပျက်ပြား ပုပ်ညှီသော သဘောရှိ၏"

ရူပနန္ဒာထေရီအတွက် မြတ်စွာဘုရား၏အသံတော်သည် အလင်း ရောင် တန်းကြီးသဖွယ် ဖြစ်နေပေသည်။

"ထို အနာရောဂါ မရှိသေးသော ကိုယ်ကဲ့သို့ပင်၊ အနာရောဂါဖြင့် ပျက်ပြားပုပ်ညှီနေသော ကိုယ်သည်လည်း ထို့အတူပင်လျှင် မကောင်းသော အနံ့ရှိ၍ ပုပ်ညှီနံ့တို့လှိုင်ပေ၏။ အလှခင်မင် အမြဲထင်၍ တပြင်ပြင်တသသ တကြွကြွပျော်မြူးသော အမိုက်မတို့သည် ထိုကိုယ်ကြီးကို အလွန်နှစ်သက် နေကြ၏"

သဗ္ဗညုမြတ်စွာဘုရားသည် ဆက်လက်၍ တရားတော်ကို ဟော ကြားတော်မူရာ ရူပနန္ဒထေရီမှာ အားသစ်သော ဝိပဿနာဇော၏ နောက်၌ အရဟတ္တဖိုလ်သို့ရောက်တော်မူလေ၏။အဖော်ဘိက္ခုနီများလည်း အသီးသီး အကျွတ်တရား ရတော်မူကြပေ၏။

ထိုရူပနန္ဒာ ထေရီအရှင်မသည် မြတ်စွာဘုရား၏ ရှေ့တော်တွင် ရဟန္တာအဖြစ်ကို ရရှိတော်မူပြီးနောက် မြတ်စွာဘုရား ဆုံးမတော်မူသော ဩဝါဒကို ခံယူလျက် ရူပဈာန် အရူပဈာန်တို့၌သာ လွန်စွာ အားထုတ်တော် မူသည်။ ထို့ကြောင့် ဈာနလာဘီပုဂ္ဂိုလ်တို့ထက် သာလွန်ထူးမြတ်စွာ ဖြစ် တော်မူသည်။ နောင်သောအခါဝယ် သုံးလောကထွတ်ထား သဗ္ဗညုမြတ်စွာ ဘုရားသည် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌ ဘိက္ခုနီတို့အား ထိုက်

သက်ရာ ဇာတဒဂ် အသီးသီး ချီးမြှောက်တော်မူသောအခါ ရူပနန္ဒာ ထေရီ မြတ်လှ အရှင်မအား **'ဈာယိနီဇာတဒဂ်'** ထားတော်မူလေ၏။



## ၇။ အာရဒ္ဓဝီရိယ ဧတဒဂ်ရ အရှင်မ

ရဟန်းတရားကို လုံ့လဝီရိယထက်သန်စွာ အားထုတ်သောကြောင့် ရှင်တော်မြတ်ဘုရားက "လုံ့လဝီရိယ ထက်သန်ကုန်သော ငါ၏ သာဝိကာ ဘိက္ခုနီတို့တွင် အမြတ်ဆုံးဖြစ်၏" ဟူ၍ အာရဒ္ဓဧတဒဂ် ရတော်မူသော အရှင်မကား သောဏာထေရီ ဖြစ်ပေသည်။

လွန်ခဲ့သော ကမ္ဘာတစ်သိန်းထက်၌ ဟံသာဝတီပြည်ကြီးဝယ် ပဒုမုတ္တရ မြတ်စွာဘုရား ပွင့်တော်မူခဲ့၏။ သောဏာထေရီ အလောင်းလျာသည် ထိုစဉ်အခါ သူဌေးသမီး ဖြစ်ခဲ့၏။ သူသည် မြတ်စွာဘုရား၏ ကျောင်းတော်သို့သွားကာ၊ တရားတော်ကို နာယူလေ့ရှိ၏။

တစ်နေ့သောအခါတွင် ပဒုမုတ္တရ မြတ်စွာဘုရားသည် တရားသဘင်၌ ဘိက္ခုနီတစ်ပါးအား 'အာရဒ္ဓဝီရိယ' ဧတဒဂ်ထားတော်မူ၏။ ဤသည်ကို ဖူးမြင်ရသော သူဌေးသမီးသည် လွန်စွာကြည်ညို အားကျလှ

သောကြောင့် မြတ်စွာဘုရားအား လှူဒါန်းပူဇော်ခြင်း အဓိကာရကုသိုလ် ပြုပြီး အာရဒ္ဓဝီရိယ ဧတဒဂ်ဆုကို တောင်းလေ၏။

ပဒုမုတ္တရ မြတ်စွာဘုရားသည် အနုမောဒနာ ပြုပြီးလျှင် ဤသို့ ဗျာဒိတ်စကား မြွက်ကြားတော်မူသည်။

ဤကမ္ဘာမှ ကမ္ဘာတစ်သိန်းသို့ ရောက်သောအခါ ဂေါတမ မြတ်စွာဘုရား ပွင့်တော်မူလိမ့်မည်။ ထိုမြတ်စွာဘုရား၏ လက်ထက်တော်၌ 'သောဏ'ဟူသော အမည်ဖြင့် မိန်းမရဟန်းဖြစ်၍ ချစ်သမီးတောင်းသော ဆုသည် ပြည့်လတ္တံ့"

ပဒုမုတ္တရမြတ်စွာဘုရားထံမှ ဗျာဒိတ်စကားကို ပန်ဆင်ရသော သူဌေးသမီးမှာ တောင်းသည့်ဆု မကြာမီပြည့်တော့မည့်အလား ဝမ်းမြောက် ဝမ်းသာဖြစ်လျက် မြတ်စွာဘုရားအမှူးပြုသော သံဃာတော်အရှင်မြတ် များအား ပစ္စည်းလေးပါးဖြင့် တစ်သက်ပန်လုံး လုပ်ကျွေးလေသည်။

သူဌေးသမီးသည် ထိုဘဝမှ စုတေခဲ့လျှင် တာဝတိံသာနတ်ပြည်၌ အကြိမ်များစွာ ဖြစ်သည်။

ယခုနောက်ဆုံးဘဝတွင်ကား ထိုသူဌေးသမီးသည် သာဝတ္ထိပြည် ၌ သူဌေးသမီးပင် ဖြစ်လာခဲ့ပြန်၏။ အဆင်းလှ၏။ သောဏာဟု အမည် တွင်၏။ သူသည် အရွယ်ရောက်သောအခါ အိမ်ထောင်ရက်သားကျပြီး လင့်အိမ်သို့ ရောက်ရ၏။

သောဏာသည် သားဆယ်ယောက် ဖွား၏။ သားများသည် အလွန်အဆင်းလှသဖြင့် အမိသည် အလွန်ချစ်၏။

သို့သော် တစ်နေ့သ၌ သောဏာ၏လင်သည် သောဏာသဘော မတူပါဘဲလျက် သားအားလုံးကိုခေါ်ကာ သာသနာ့ဘောင်၌ ရဟန်းပြုသွား တော့သည်။ ထိုအခါ သောဏာလည်း လိုက်၍ ရဟန်းပြုသည်။

အသက်ကြီးခါမှ မိန်းမရဟန်းပြုခဲ့သော သောဏာထေရီသည်

မကြာခဏ ဒဏ်အထားခံရသည်။ သောဏာထေရီ ဒဏ်ထမ်းသည်ကို မြင်သူများကလည်း 'ဤထေရီသည် ယခုထက်ထိ ကျင့်ဝတ်သိက္ခာကို နား မလည်' ဟု အပြစ်ပြောကြ၏။

ထိုအခါ သောဏာထေရီသည် ဤသို့ အကြံဖြစ်၏။

"ငါသည် မိမိ၏ လားရာဂတိကို သုတ်သင်သင့်၏"

သို့ဖြစ်၍ သောဏာထေရီသည် လျှောင်း၊ ထိုင်၊ ရပ်၊ သွား လေးပါးသောဣရိယာပထတိုင်းတွင် ၃၂ကောဋ္ဌာသကို ရွတ်အံ၏။ ထိုကဲ့သို့ လုံ့လဝီရိယ အားကြီးသည်ကို မြင်သူတိုင်းက သူ့အား'အာရဒ္ဓဝီရိယ သောဏာထေရီ'ဟု ပထမရှိရင်းစွဲ 'ဗဟုပုတ္တိကာ'တွင် ထပ်မံ၍ အမည်သစ် ပေးကြပြန်သည်။

တစ်နေ့သ၌ သောဏာထေရီ သီတင်းသုံးသော ကျောင်းတိုက်နေ အရှင်မများသည် မြတ်စွာဘုရားထံတော်သို့ ဩဝါဒခံယူရန် သွားကြသည်။ ကျောင်းတိုက်တွင် သောဏာထေရီ တစ်ပါးတည်းသာ ကျန်ခဲ့သဖြင့် သူ့ အား ရေနွေးကျိုရန် တာဝန် ပေးထားခဲ့ကြ၏။

သောဏာထေရီ အရှင်မသည် ရေနွေးအိုးထဲသို့ ရေကိုလောင်း ထည့်ကာ ဖိုခုံလောက်ပေါ်၌ တင်ထားပြီး ၃၂ ကောဋ္ဌာသကိုသရဇ္ဈာယ်လျက် ဝိပဿနာ ဘာဝနာကို ပွားများနေတော်မူ၏။ ထိုအရှင်မအား မြတ်စွာဘုရား သည် စံတော်မူရာ ဂန္ဓကုဋီတိုက်တော်မှ လှမ်း၍မြင်တော်မူ၏။ ဂန္ဓကုဋီ တိုက်တော်မှပင် လှမ်းလင့်ကာ ဩဝါဒပေးတော်မူ၏။

"သောဏာ၊ တရားကို မဆင်ခြင်၊ မမြင်သူ၏ အသက်တစ်ရာနေ ရခြင်းထက် တရားတော်ကို သိမြင်သူ၏ တစ်ခဏမျှ အသက်ရှည်ခြင်းက ပို၍ မြင့်မြတ်ပေသည်"

ထိုတရားတော်အဆုံးတွင် သောဏာထေရီသည် အရဟတ္တဖိုလ် သို့ ဆိုက်ရောက်တော်မူ၏။ ထို့နောက် ရဟန္တာအရှင်မကြီး သောဏာထေရီ

သည် ရေနွေးအိုးကို မီးမထိုးဘဲထား၏။ အကြောင်းသော်ကား ငယ်ရွယ်သော ဘိက္ခုနီတို့သည် ရှေးနည်းအတိုင်း ဆက်လက်ပြီးမထိမ့်မြင် ပြုနေကြပါက အပြစ်ဖြစ်မည် စိုးရိမ်သောကြောင့်ပေတည်း။

မကြာမီ ဘိက္ခုနီ အရှင်မများ ပြန်ရောက်လာကြသည်။

"သောဏာထေရီသည် ဘိက္ခုနီသံဃာအတွက် ရေနွေးကျိုရန် တာဝန်ကျပါလျက် မီးဖိုတွင် ယခုထက်တိုင် မီးမရှိသေးပါတကား"

ရဟန္တာအရှင်မကြီး သောဏာထေရီသည် "အရှင်မတို့ ရေနွေးဖြင့် ရေချိုးလိုပါက အိုးထဲမှရေကိုယူ၍ ချိုးတော်မူကြပါကုန်"ဟု လှမ်းပြောပြီး တေဓောကသိဏ်းကို ဝင်စားတော်မူ၏။

မီးမရှိသော ဖိုခုံလောက်ပေါ်ရှိ အိုးမှရေကို ရေနွေးလိုသူများ ခပ်ယူကြပါပြောခြင်းကား အကြောင်းရှိတန်ရာ၏ဟု သတိရှိသော အရှင်မ တစ်ပါးက ဆင်ခြင်မိသည်။ ထို့ကြောင့် အိုးထဲသို့ လက်နှိုက်ကြည့်သည်။ မီးမရှိသော ဖိုပေါ်မှ ရေသည် ကျိုက်ကျိုက်ဆူနေပါတကား။

ထိုရေကို ဘိက္ခုနီ အရှင်မများသည် ခပ်ယူပြီး သုံးစွဲကြငြား၊ အိုးထဲမှရေသည် မယုတ်လျော့။ အပူသည်လည်း လျော့မသွားချေ။ ထိုအခါ သိက္ခာကြီးသော ဘိက္ခုနီများက တောင်းပန်ကြ၏။

"သည်းခံတော်မူပါ အရှင်မ"

ဘိက္ခုနီငယ်တို့ကား သောဏာထေရီ အရှင်မ၏ ခြေရင်းတွင် ဝပ်စင်းပြီး တောင်းပန်ကြ၏။

"ကျွန်တော်မတို့သည် အရှင်မအား မစူးစမ်းမဆင်ခြင်ဘဲ ပြောဆိုခြင်းဖြင့် ညှဉ်းဆဲမိသည့်အဖြစ်တို့ကို ခွင့်လွှတ်တော်မူပါဘုရား"

သောဏာထေရီအရှင်မ ဂုဏ်သတင်းသည် ပိုပြီးထင်ရှားလာ၏။

အိုမင်းသောအခါကျမှ ရဟန်းပြုသော်ငြား အားကြီးသော ဝီရိယရှိသဖြင့် မကြာမြင့်မီ ရဟန္တာဖြစ်၏။

ဤအကြောင်းကြောင့် သောဏာထေရီ အရှင်မကြီး၏ ဂုဏ်သတင်းသည် ကျော်စောထင်ရှားသွားရခြင်း ဖြစ်ပေသည်။

ရှင်တော်မြတ်ဘုရားသည် နောင်သောအခါ၌ သောဏာထေရီ အရှင်မအား အရိယာ သံဃာများ၏အလယ်၌ **'အာရဒ္ဓဝီရိယ'**အရာ၌ ဧတဒဂ် ထားတော်မူလေသည်။



## ၈။ ဒိဗ္ဗစက္ခုအဘိညာဉ် တေဒဂ်ရ အရှင်မ

“ဒိဗ္ဗစက္ခု အဘိညာဉ် ရရှိကြကုန်သော ငါ၏သာဝိကာတို့တွင် အမြတ်ဆုံး ဖြစ်၏”ဟူ၍ မြတ်စွာဘုရားထံတော်မှ ဒိဗ္ဗစက္ခုအဘိညာဉ် အရာ၌ တေဒဂ် ရတော်မူသော အရှင်မကား ‘ဗာကုလာ’ထေရီ ဖြစ်ပေသည်။

ဒိဗ္ဗစက္ခု အဘိညာဉ်ဟူသည် တောက်ပ၍ အမြင်သန်သော နတ်မျက်စိကဲ့သို့ ကွယ်ရာထောင့်ရာ ဝေးကွာရာအရပ်ကို လှမ်း၍မြင်နိုင်သော အဘိညာဉ် ဖြစ်သည်။ နတ်တို့၏မျက်စိသည် လွန်စွာ အမြင်သန်သည်၊ တောက်ပသည်။ ပကတိ လူတို့မမြင်နိုင်သည့် အရာတို့ကို ထိုးထွင်းသိမြင်၏။ ဝေးကွာသောအရပ်ရှိ အရာဝတ္ထု၊ အဖြစ်အပျက်တို့ကို ဖောက်ထွင်း သိမြင်၏။

ဤကမ္ဘာမှ ပြန်လည်ရေတွက်သည်ရှိသော် လွန်ခဲ့သော ကမ္ဘာ တစ်သိန်းထက်၌ ပဒုမုတ္တရမြတ်စွာဘုရား ပွင့်တော်မူခဲ့သည်။ ဗာကုလာ

ထေရီ လောင်းလျာသည် ပဒုမုတ္တရ မြတ်စွာဘုရား၏ ဖအေတူ မအေကွဲ နှမတော် 'နန္ဒာ' မင်းသမီး ဖြစ်ခဲ့သည်။

ခမည်းတော် အာနန္ဒာမင်းကြီးနှင့်တကွ နန္ဒာမင်းသမီးပါဝင်သော နန်းတွင်းသူ နန်းတွင်းသားများသည် မြတ်စွာဘုရားထံတော်ပါး၌ မပြတ် ခစားကြသည်။ တစ်နေ့တွင် ပဒုမုတ္တရ မြတ်စွာဘုရားသည် ဘိက္ခုနီ အရှင်မ တစ်ပါးအား ချီးမွမ်းတော်မူပြီးလျှင် 'ဒိဗ္ဗစက္ခုအဘိညာဉ်' အရာ၌ တေဒဂ် ထားတော်မူသည်။

ဤသည်ကို ဖူးမြင်ရသော နန္ဒာ မင်းသမီးသည် အလွန်နှစ်သက် အားရ အားကျမိ၏။ သို့ဖြစ်သောကြောင့် မြတ်စွာဘုရားအား ဆီမီးဖြင့် ပူဇော်ကာ ဒိဗ္ဗစက္ခုအဘိညာဉ်အရာ၌ တေဒဂ်ရသောဆုကို ဆုတောင်း၏။

"နှမတော် နန္ဒာ။ ဆီမီးပူဇော်ခြင်းအကျိုးကို တောင့်တ၍ ပူဇော် သော ကုသိုလ်ပါရမီကြောင့် သင် တောင်းသောဆုသည် ပြည့်စုံလိမ့်မည်။ ဤကမ္ဘာမှ နောက်ကမ္ဘာတစ်သိန်းထက်၌ ဩက္ကာက မင်းမျိုးဖြစ်သော ဂေါတမအမည်ရှိသည့် မြတ်စွာဘုရားသည် ထင်ရှား ပွင့်တော်မူလတ္တံ့။ ထိုအခါတွင် သင်သည် 'ဗာကုလာ' ဟူသော အမည်ဖြင့် ရဟန်းမိန်းမ ဖြစ်၍ ဒိဗ္ဗစက္ခု အဘိညာဉ်အရာ၌ တေဒဂ် ရလတ္တံ့"

ပဒုမုတ္တရ မြတ်စွာဘုရားသည် အနာဂတံသ ရွှေဉာဏ်တော်ဖြင့် ရှုမြော်ပြီးလျှင် ဗျာဒိတ်စကား မြွက်ကြားတော်မူ၏။

နန္ဒာမင်းသမီးသည် လွန်စွာအားရရွှင်လန်းလှသဖြင့် ဘုရား အမှူး ရှိသော သံဃာတော်များအား ပင့်ဖိတ်ကာ ကြီးကျယ်ခမ်းနားသော အလှူ တော်ကြီး ပေးပြန်၏။ ထိုမင်းသမီးသည် ဤဘဝမှစုတေခဲ့ကာ ကောင်း သော ဘဝများ၌ ကျင်လည်ခဲ့သည်။ ထိုဘဝများ၌လည်း ကောင်းမှုကုသိုလ် များကိုသာ စဉ်ဆက်မပြတ် ပြုခဲ့သည်။ သို့အတွက် ကဿပ မြတ်စွာဘုရား ပွင့်တော်မူလာချိန်ဝယ် နန္ဒာမင်းသမီးသည် ရတနာသုံးပါးကိုသိသော

ပုဏ္ဏေးမကလေး ဖြစ်လာလေ၏။

ပုဏ္ဏေးမကလေးသည် အရွယ်ရောက်လာသောအခါ အိမ်ရာထောင်သော လူ့ဘောင်လောက၌ မပျော်ပိုက်သောကြောင့် ရဟန်းပြုသည်။ ရဟန်းပြုသော်ငြား ပရိဗိုဇ်တို့ထံ၌ ရဟန်းပြုမိလျက်သား ဖြစ်နေသည်။ သို့အတွက် တစ်ပါးတည်းသာ သွားလာနေထိုင်တော့သည်။

အခါတစ်ပါး၌ ကဿပမြတ်စွာဘုရား ပရိနိဗ္ဗာန်စံဝင်တော်မူသည်။ တပည့်သာဝကများနှင့် ဒါယကာ ဒါယိကာမများသည် မြတ်စွာဘုရား၏ ဓာတ်တော်မွေတော်များကို ဌာပနာလျက် စေတီတော်ကြီး တည်ထား ကိုးကွယ်ကြလေ၏။

အထက်ပါ ပရိဗိုဇ်မသည် ရတနာသုံးပါး၌ သဒ္ဓါတရား ရှိသူဖြစ်ရကား စေတီတော်ကြီးအား ဆီမီးများဖြင့် ညလုံးပေါက် ပူဇော်တော့၏။ ပရိဗိုဇ်မ ကွယ်လွန်သောအခါ ထိုကောင်းမှုကြောင့် တာဝတိံသာ နတ်ရွာ၌ ဖြစ်ရုံမက စင်ကြယ်သော မျက်စိရှိသူဖြစ်၏။ တစ်ဘဝပြီး တစ်ဘဝ နတ်ရွာ၌သာ ကျင်လည်၏။

ဤသို့ ကောင်းမြတ်သော ဘုံဘဝများ၌ ကျင်လည်နေသော နတ်သမီးသည် ဂေါတမမြတ်စွာဘုရား ပွင့်တော်မူချိန်ဝယ် သာဝတ္ထိရွှေမြို့တော်၌ ပုဏ္ဏေးမပင် ဖြစ်လာ၏။ မိဘတို့သည် သူ့အား 'ဗာကုလာ'ဟု အမည်ပေးကြ၏။

ဗာကုလာ အရွယ်သို့ရောက်ချိန်တွင် မိဘများက မျိုးတူရိုးတူ ပုဏ္ဏားလုလင်တစ်ယောက်နှင့် ထိမ်းမြားပေးကြ၏။ သားတစ်ယောက်နှင့် သမီးတစ်ယောက် ဖွားမြောက်လာချိန်ဝယ် ဗာကုလာ၏ဘဝ ပြောင်းလွဲစရာအကြောင်း ပေါ်ပေါက်လာသည်။ ဤသည်မှာ သာဝတ္ထိသို့ မြတ်စွာဘုရား ကြွရောက်တော်မူလာခြင်း ဖြစ်သည်။

သုံးလောကထွတ်ထား သဗ္ဗညုမြတ်စွာဘုရားသည် အနာထပိဏ်

သူဌေး ဆောက်လုပ်လှူဒါန်းသော ဇေတဝန်ရွှေကျောင်းတော်ကြီးကို အလှူခံရန် သံဃာတော်အပေါင်း ခြံရံလျက် ကြွရောက်တော်မူလာခြင်းဖြစ်သည်။ သာဝတ္ထိ မြို့သူမြို့သားများမှာ ဤအခါကျမှသာ ဘုရားစစ် ဘုရားမှန် သံဃာစစ် သံဃာမှန်ကို ဖူးမြော်ခွင့်ရကြသည်။

အမျိုးကောင်းသမီး ဗာကုလာသည် ထိုကျောင်းအလှူပွဲကြီး၌ မြတ်စွာဘုရား၏ ဘုန်းတော်ကံတော် ကြီးမားပုံကို ဖူးမြော်ကြည်ညိုရ၏။ ဘဝါဘဝက ဖြည့်ဆည်းခဲ့သောပါရမီသည် နှိုးဆော်ရကား ရတနာသုံးပါး၌ မမိုတ်မသုန်ယုံကြည်ကာ မပြတ် လေးမြတ် ဆည်းကပ်ကြည်ညိုသော ဥပါသိကာအဖြစ်သို့ ရောက်ရှိလာလေ၏။

သို့ရာတွင် ဗာကုလာဆည်းပူးခဲ့သော ပုညသမ္ဘာရသည် ဤမျှဖြင့် တန့်နားမနေပေ။ သူသည် တစ်ရံရောအခါ၌ ရဟန္တာအရှင်မြတ်ကြီး တစ်ပါးထံမှ နိဗ္ဗာန်ရောက်ကြောင်း တရားကောင်းများကို နာကြားရသည်။ ပါရမီအခံရှိသူဖြစ်သည့်အလျှောက် တရားတော်အဆုံး၌ သောတာပန်ဖြစ်လေ၏။

ငါ့လင်၊ ငါ့သားဟု တစ်သက်လုံး အမှောင်ကျခဲ့သော ဗာကုလာသည် သံသရာအမိုက်တိုက်မှ လွတ်ရာလွတ်ကြောင်း အလင်းရောင်ကို မြင်ရပြီ။ ထိုအလင်းရောင်နောက်သို့ လိုက်ရန်မှာ ရဟန်းပြုရန် ဖြစ်သည်။ သို့အတွက် ကာမပိုင် လင်ယောကျ်ားထံ ခွင့်ပန်သည်။

ပုဏ္ဏားမှာလည်း ရတနာသုံးပါး၌ သဒ္ဓါကြည်ညိုသူ ဖြစ်ရကား၊ ချစ်ဇနီး ဗာကုလာအား ရှောရှောရှုရှု ခွင့်ပြုလိုက်လေသည်။ သို့သော် ဗာကုလာမှာ အသက်မပြည့်သေးသဖြင့် ရဟန်းမပြုရသေးပေ။ 'သိက္ခမာန်' အဖြစ်ဖြင့် နေထိုင်ကာ တရားအားထုတ်ရသည်။

ထိုအကြောင်းကို ဗာကုလာထေရီ ကိုယ်တော်တိုင် မြွက်ကြားတော်မူသော ဗာကုလာထေရီ အပဒါန်၌ ဤသို့ပါရှိပေ၏။

"ငါသည် အိမ်ရာထောင်သော လူတို့ဘောင်၌ နေထိုင်စဉ် ရဟန်း

တော်တစ်ပါးထံမှ တရားတော်ကို နာကြားရသောကြောင့် ကိလေသာ မြူကင်းသော၊ မသေခြင်း၏ အကြောင်းဖြစ်သော၊ စုတေရွေ့လျောမှု မရှိသော နိဗ္ဗာန်ကို မြင်တွေ့ရပေပြီ။

"ထိုငါသည် သားကိုလည်းကောင်း၊ သမီးကိုလည်းကောင်း၊ ဥစ္စာစပါးတို့ကိုလည်းကောင်း၊ စွန့်ပယ်ခဲ့ပြီးလျှင် ဆံပင်တို့ကို ရိတ်ဖြတ်ပြီး အိမ်ရာ မထောင်သော ရဟန်းဘောင်၌ ရဟန်းပြုခဲ့ပါသည်။

"ငါသည် 'သိက္ခမာန်' သာ ဖြစ်သေးလျက် မဇ္ဈိမပဋိပဒါ ခရီးဖြစ်သော အထက်မဂ်ကို ဖြစ်စေသည်ရှိသော် ရာဂဒေါသကိုလည်းကောင်း၊ ထိုရာဂဒေါသနှင့်တူသော၊ တည်ရာရှိသော အာသဝေါတရားတို့ကိုလည်းကောင်း ပယ်စွန့်နိုင်ခဲ့ပြီ။

"ငါသည် အသက်ပြည့်လတ်သော် ပဉ္စင်းပြု၍ ဘိက္ခုနီ ဖြစ်လာသည်။ ထိုအခါ ရှေးဘဝကို အောက်မေ့နိုင်ခဲ့ပြီ။ ကောင်းစွာ ပွားများအပ်သော 'ဒိဗ္ဗစက္ခုအဘိညာဉ်' ကို အညစ်အကြေး ကင်းစင်အောင် သုတ်သင်အပ်ပြီ။

"အကြောင်းပစ္စည်းကြောင့် ဖြစ်ကုန်သော ပျက်စီးတတ်သည့် သဘောရှိကုန်သော တေဘူမက သင်္ခါရတရားတို့ကို သူစိမ်းပြင်ပြင်အားဖြင့် ရှုမြင်၍ အာသဝေါတရား အားလုံးတို့ကို ပယ်ခဲ့ပြီ။ ကိလေသာမီး ချုပ်ငြိမ်းခဲ့ပြီးဖြစ်၍ ငြိမ်းအေးခြင်းသို့ရောက်ခဲ့ပြီ"

ရဟန္တာ အရှင်မကြီး ဗာကုလာထေရီသည် ရှေးရှေးဘဝများစွာက ဆည်းပူးခဲ့သော ပါရမီသမ္ဘာရ ကုသိုလ်များအရ ဒိဗ္ဗစက္ခု အဘိညာဉ်ကို ကြိမ်ဖန်များစွာ ဝင်စားတော်မူသည်။ ထိုအခါ အရှင်မ၏ဒိဗ္ဗစက္ခုအဘိညာဉ် ဉာဏ်အမြင်သည် လွန်စွာကြည်လင်လှပေသည်။

သို့ဖြစ်သောကြောင့် ရှင်တော်မြတ်ဘုရားသည် ဘိက္ခုနီတို့အား

ဧတဒဂ် ဂုဏ်ထူးများ ချီးမြှင့်တော်မူသောအခါ ဗာကုလာထေရီအား ဒိဗ္ဗစက္ခု အဘိညာဉ် ရရှိသော အရာ၌ဌာနန္တ ဧတဒဂ်ထားတော်မူခြင်း ဖြစ်ပေသည်။



## ၉။ ခိပ္ပာဘိညာ တေဒဂ်ရ ထေရီအရှင်မ

“ရဟန်းတို့၊ ရှေး၌နေဖူးသော ခန္ဓာအစဉ်ကို အောက်မေ့နိုင်ကုန်သော ငါ၏ သာဝိကာ ဘိက္ခုနီတို့တွင် ဘဒ္ဒါမည်သော ကုဏ္ဍလကေသာ ထေရီသည် အမြတ်ဆုံးဖြစ်၏”ဟူ၍ ရှင်တော်မြတ်ဘုရားထံမှ ခိပ္ပာဘိညာတေဒဂ်ရသော “ဘဒ္ဒါကုဏ္ဍလကေသာ” ထေရီ၏အကြောင်းမှာ ဤသို့ ဖြစ်၏။

လွန်ခဲ့သော ကမ္ဘာတစ်သိန်းထက်၌ ပဒုမုတ္တရ မြတ်စွာဘုရား ထင်ရှားပွင့်တော်မူစဉ် ဘဒ္ဒါကုဏ္ဍလကေသာ အလောင်းအလျာသည် ဟံသာဝတီပြည်၌ သူဌေးသမီး ဖြစ်ခဲ့၏။ သူသည် မြတ်စွာဘုရား၏ ကျောင်းတော်သို့ သွားရောက်ကာ တရားတော်ကို နာယူလေ့ရှိသည်။

တစ်နေ့သောအခါတွင် ပဒုမုတ္တရ မြတ်စွာဘုရားသည် တရားသဘင် ပရိသတ်အလယ်၌ မိန်းမရဟန်းတစ်ပါးအား တေဒဂ်ထားတော်မူ၏။ ထိုအရှင်မ ခံယူရရှိသော တေဒဂ်မှာ ‘တရားတော်ကို လျင်မြန်စွာ

ထိုးထွင်း၍ သိမြင်နိုင်သော’ အရာဌာန၌ ‘ခိပ္ပာဘိညတေဒဂ်’ ဖြစ်သည်။

သူဌေးသမီးသည် ထိုအရှင်မကဲ့သို့ ဖြစ်လိုသောဆန္ဒ ပြင်းပြသည်။ သို့ကြောင့် မြတ်စွာဘုရား အမှူးရှိသော သံဃာတော် အရှင်မြတ်များအား အလှူကြီးပေးပြီး ‘ခိပ္ပာဘိည တေဒဂ်’ ဆုကို တောင်းခဲ့သည်။

ထိုသူဌေးသမီးသည် ကောင်းရာသုဂတိ ဘုံဘဝများ၌ ကျင်လည်ခဲ့ပြီးနောက် ကဿပမြတ်စွာဘုရား၏ ရွှေလက်ထက်တော်တွင် ကိကီမင်းကြီး၏သမီးတော်ဖြစ်လာသည်။ မင်းကြီးသမီးတော် ခုနစ်ပါးအနက် “ဘိက္ခုဒါယိကာ” မင်းသမီးမှ ထိုသူဌေးသမီး ဖြစ်သည်။

သမီးတော် ၇ ပါးသည် ရတနာသုံးပါး၌ သက်ဝင်ယုံကြည်၏။ သာသနာတော်၌ သဒ္ဓါတရားထက်သန်သောကြောင့် ရဟန်းပြုလိုကြငြား ခမည်းတော် မယ်တော်တို့က ခွင့်မပေး။ သို့ကြောင့် သမီးတော် ၇ ပါးမှာ အနှစ်နှစ်သောင်းကာလပတ်လုံး အပျိုကြီးဘဝဖြင့်နေကာ ကုသိုလ်ကောင်းမှုများကို ဖြည့်ဆည်းခဲ့ကြရ၏။

ဂေါတမမြတ်စွာဘုရား ပွင့်တော်မူချိန်ဝယ် ဘိက္ခု ဒါယိကာ မင်းသမီးသည် ရာဇဂြိုဟ်ပြည်ဝယ် တစ်ယောက်သော သူဌေးသမီး ဖြစ်လာသည်။ အမည်မှာ ‘ဘဒ္ဒါ’ ဖြစ်သည်။ ဘဒ္ဒါအရွယ်ရောက်ချိန်တွင် မိဘများက ကြီးကျယ်ခမ်းနားသော ပြဿဒ်ထက်တွင် အခြွေအရံများစွာဖြင့်ထားသည်။

တစ်နေ့တွင် ဘဒ္ဒါသည် လေသာပြတင်းတွင်ရပ်လျက် လမ်းသွားလမ်းလာများကို ကြည့်နေသည်။ လမ်းပေါ်တွင် မြင်းလှည်း၊ နွားလှည်း၊ နွားဝန်တင်များ၊ ကုလားအုတ်များ၊ ပခုံးထမ်းခေါင်းရွက်များ သွားလာနေကြသည်။

သို့စဉ်တွင် မြင်ရိုးမြင်စဉ် မဟုတ်သော အရာတစ်ခုကို ဘဒ္ဒါ လှမ်းမြင်လိုက်ရ၏။ ရာဇဝတ်သားတစ်ယောက်အား ပါးကွက်များက ဆွဲခေါ်လာကြသော မြင်ကွင်းဖြစ်၏။ ပါးကွက်သားများသည် လမ်းဆုံ

လမ်းခွသို့ရောက်တိုင်း ရာဇဝတ်သားကို ကြိမ်ဖြင့် ရိုက်သည်။ ထို့နောက် ဆွဲခေါ်သွားကြ၏။

ရာဇဝတ်သားကား ‘သတ္တုက’ အမည်ရှိ သူခိုးဖြစ်၏။ ခိုးထုပ်ခိုးထည်ဖြင့် လက်ပူးလက်ကြပ် မိသောကြောင့် မင်းမိန့်ဖြင့် အဆုံးစီရင်ရန် သုသာန်သို့ ထုတ်လာကြခြင်း ဖြစ်၏။

လူ့လောက၏ အနှောင့်အယှက်ဖြစ်သော ထိုသူခိုးအား လူအများသည် စက်ဆုပ်စွာကြည့်ကြ၏။ အချို့က တံတွေးဖြင့်ထွေးကြ၏။သို့ရာတွင် လေသာပြတင်းမှ စီးလျက်ကြည့်နေသော ဘဒ္ဒါမှာမူ ရွံရှာမုန်းတီးမှု မဖြစ်။ သတ္တုက၏ကိုယ်မှ စီးယိုကျနေသော သွေးစက်တွေကို တယုတယ သုတ်ပေးချင်သည်။ အပြေးသွားကာ ပွေ့ပိုက် ယုယချင်သည်။

ဘဒ္ဒါ၏ရင်ထဲ၌ လှိုက်ဖိုတုန်ယင်နေဆဲတွင် သူခိုးနှင့် ပါးကွက်သားများက မြင်ကွင်းထဲမှ ပျောက်ကွယ်သွားကြပြီ။ ဘဒ္ဒါလည်း စက်ခန်းဆောင်တွင်းသို့ဝင်ပြီး ညှိုးလျော်စွာ ခွေမှိန်းနေလေ၏။

ထိုအချိန်တွင် မိခင်သူဌေးမကြီး ရောက်လာ၏။ ညှိုးနွမ်းနေသော သမီးကို မြင်သောအခါ အကျိုးအကြောင်း မေးမြန်းသည်တွင် “သူ့ကိုမှမရရင် သမီး သေရပါတော့မယ်”ဟူသည့် အဖြေကို ကြားရလေ၏။

များစွာသော သူဌေး သူကြွယ်နှင့် ကုန်သည်တို့၏သားများကို ငြင်းပယ်ခဲ့သောသမီးသည် သူခိုးကိုမှကြိုက်ရသလောဟု ကရုဏာဒေါသောဖြင့် မာန်မဲဆူပူသည်။ သို့ရာတွင် တစ်ဦးတည်းသော သမီးဖြစ်သဖြင့် ကြာရှည် မမောင်းမဲနိုင်။ အကျိုးသင့်အကြောင်းသင့် ရှင်းပြကာ ချော့မော့သည်။

ဘဒ္ဒါ နားမဝင်ပါ။

ထမင်းစားချိန်သို့ ရောက်လာပြီ။ ဘဒ္ဒါ ထမင်းမစားပါ။

ဘဒ္ဒါ၏မိခင် ခြေမကိုင်မိ လက်မကိုင်မိဖြစ်ပြီ။ သူဌေးကြီးထံသို့ ငိုကြီးချက်မဖြင့် ပြေးသည်။သမီးအဖြစ်ကို မျက်ရည်လည်ရွဲတိုင်တန်းသည်။

သူဌေးကြီးမှာ ဒေါသလည်း ထွက်၊ ရှက်လည်း ရှက်သည်။ သေစမ်းပါစေဟု ဒေါသအလျောက်ပြောငြား ဇနီး၏ဖျောင်းဖျစကားအောက်တွင် ငြိမ်သက်နေရသည်။

"ကဲ၊ သူဌေးကြီး။ တောင်စွယ် နေမကွယ်ခင် အဲသည်သူခိုးကို ရအောင် ရွေးချေပေတော့။ နောင်ခါလာ နောင်ခါစျေးပဲ။ လောလောဆယ်မှာတော့ သမီးကလေး အသေမခံနိုင်ဘူး"

သူဌေးကြီးသည် ရှက်လည်းရှက် ဒေါသလည်းဖြစ်ငြား အသပြာ ထောင်ထုပ်ကို ပိုက်ပြီး သုသာန်သို့လိုက်ရသည်။ မှောင်တရီတွင် သတ္တုကကို လျှို့ဝှက်ခေါ်ယူလာပြီး သမီးလက်ထဲသို့ အပ်လိုက်ရလေ၏။

ဘဒ္ဒါသည် သတ္တုကအား သူခိုးဟု မမြင်။ မိုးကျနတ်သားဟု ထင်သည်။ ချစ်သူနှင့် ပေါင်းသင်းရသောကြောင့် လောကတွင် အပျော်ဆုံး မိန်းမဖြစ်နေသည်။ သို့တစေ သတ္တုကမှာ သူဌေးစည်းစိမ်နှင့် မထိုက်တန်။ သူဌေးသမီးသည်လည်း သူ၏အရာ မဟုတ်။

သို့ဖြစ်သောကြောင့် မပျော်ရွှင်ပါ။ ဘဒ္ဒါကိုလည်း မချစ်ပါ။ အသက်သခင် ကျေးဇူးရှင်ဟူ၍လည်း မမြင်ပါ။ ခွေးမြီးကောက်၌ စွပ်ထားသော ကျည်တောက်ကို မည်ကဲ့သို့ဖြုတ်ရပါမည်နည်းဟုကြံဆနေသည်။

သို့ဖြင့် တစ်နေ့တွင် ဘဒ္ဒါအား ပြော၏။

"ရှင်မ၊ ငါ့မှာ အကြွေးတင်နေတယ်။ အဲသည်အကြွေးကတော့ ငါအသတ်ခံရအဲ့ဆဲဆဲမှာ 'အသက်ချမ်းသာရာရအောင် မစတော်မူကြရင် ပူဇော်ကန်တော့ပါမယ်'လို့ တိုင်တည်ခဲ့တဲ့ အကြွေးပဲ။ အဲဒါကြောင့် တောင်စောင့်နတ်ကို သွားပြီး ကန်တော့ချင်တယ်"

အချစ်စိတ်ဖြင့် မွှန်နေသော ဘဒ္ဒါသည် တောင်စောင့်နတ် ပူဇော်ရန် ချက်ချင်းစီစဉ်သည်။ အခြွေအရံများစွာဖြင့် သတ္တုကညွှန်ပြသော တောင်ရှိရာသို့ လာခဲ့ကြ၏။ တောင်ခြေရင်းအရောက်တွင် အခြွေအရံများကို

ထားပစ်ခဲ့၏။ နတ်ပသရန် ပစ္စည်းများကို လင်မယားနှစ်ယောက် သယ်ဆောင်လျက် တက်လာကြ၏။

တောင်၏အစွန် တောင်ကမ်းပါးပြတ်သို့ရောက်မှ ခွေးမြီးကောက်၏အမြီးမှ ကျည်တောက်ကြီး ပြုတ်ကျသွားလေ၏။

"ဘဒ္ဒါ၊ မယ်မင်းကိုယ်က လက်ဝတ်တန်ဆာတွေ ချွတ်ပေတော့။ ဘယ်တောင်စောင့်နတ်ကိုမျှ ကန်တော့ဖို့မရှိဘူး။ မယ်မင်းရဲ့ ဝတ်စားတန်ဆာတွေကိုယူပြီး မယ်မင်းကို သတ်ချင်လို့ ခေါ်လာတာ"

သည်မျှ ညံ့ဖျင်း ယုတ်မာသူအား လင်လုပ်မိလေခြင်း ဟူသောအသိနှင့်အတူ ဘဒ္ဒါ ထိတ်လန့်တုန်လှုပ်သည်။ သို့ရာတွင် ရိုင်းစိုင်းရက်စက်သောစိတ် မရှိသောကြောင့် ရှင်းပြသည်။

"ကျွန်တော်မကိုတောင် ပိုင်နေမှတော့ သည်ပစ္စည်းတွေဟာ အရှင့်ပစ္စည်းတွေ ဖြစ်နေပြီလေ။ လူကိုသတ်ဖို့ မလိုပါဘူး"

"မယ်မင်း အသက်ရှင်နေရင် တစ်နေ့မဟုတ်တစ်နေ့ လူကြားသူကြားထဲမှာ သူခိုးပါလို့ စွပ်စွဲမယ့်လူ ရှိနေမှာပေါ့"

"မစွပ်စွဲပါဘူး အရှင်။ ပစ္စည်းတွေကိုယူသွားပါ။ အသက်ကိုတော့ ချမ်းသာပေးတော်မူပါ"

"မဖြစ်ဘူး။ ပေးတာယူရင် သိမ်ငယ်တယ်"

"တောင်းပန်မရရင်လည်း သတ်ပါအရှင်။ မသတ်ခင်မှာ အရှင့်ကို နောက်ဆုံး ကန်တော့ပါရစေ။ ဖက်ယမ်း နမ်းရှုံ့ပါရစေ"

ဘဒ္ဒါ ချွတ်ပုံထားသော ရတနာပစ္စည်းများကို အသာငမ်းငမ်း သတ္တုကကြည့်နေစဉ် ဘဒ္ဒါသည် ကျောဘက်သို့ ရောက်သွားသည်။ တစ်သက်တွင် တစ်ကြိမ်မျှ မပြုဖူးသော အားခွန်ဗလများကို စုစည်းလျက် သူခိုးသတ္တုကကို တအားဆောင့်ကန်လိုက်သည်။ အားကြီးသောယောကျ်ားဖြစ်စေကာမူ သတ္တုကမှာ အမှတ်မဲ့မို့ ချောက်ကမ်းပါးပြတ်ထဲသို့ ထိုးကျ

သွားလေ၏။

ဘဒ္ဒါသည် ရှက်လည်းရှက်၊ ဝမ်းလည်းနည်း၏။

ရှက်ခြင်းမှာ သူယုတ်မာအား ငွေပေးဝယ်ကာ ချစ်ခဲ့ရသောကြောင့် ဖြစ်သည်။ ဝမ်းနည်းခြင်းမှာ ထိုချစ်သူကို တောင်ပေါ်မှတွန်းချကာ အဆုံးစီရင်လိုက်ရသောကြောင့် ဖြစ်ပေသည်။

သတ္တုကနှင့် ချစ်ခင်ပျော်မြူးခဲ့ရသောကာလနှင့် ယခုအချိန်သည် လုံးဝခြားနားသည်။ ဆန့်ကျင်သည်။

ဘဒ္ဒါသည် အခြံအရံများကို ရှောင်ကွင်းကာ တောင်အောက်သို့ ဆင်းခဲ့ငြား စံရာပြာသာဒ်သို့ မပြန်တော့ပါ။ စိတ်ဆင်းရဲမှုမှ ပြေပျောက်လို ပြေပျောက်ငြား လျှောက်သွားစဉ် သူတော်ကောင်းတို့၏ ကျောင်းသခ်မ်းသို့ ရောက်လာသည်။

လူမှုကိစ္စများနှင့် ကင်းပြတ်သော နေရာဖြစ်သည်။ အေးငြိမ်းသာယာသည်။ သို့သော် နိဂဏ္ဌပရိဗိုဇ်တို့၏ နေရာဖြစ်သည်။

ဘဒ္ဒါကား ပြာသာဒ်ပေါ်တွင် နေလာသူဖြစ်ရာ အမှားအမှန်ကို မသိပေ။ အေးချမ်းမှုရနိုင်သောနေရာ ထင်ကာ ဝင်ရောက်လာသည်။ရဟန်းပြုပေးပါရန် တောင်းပန်သည်။ နိဂဏ္ဌပရိဗိုဇ်များက ဘဒ္ဒါ၏ဆံပင်များကို ထန်းစေ့မှုတ်ဖြင့်ညှပ်လျက် တစ်ချောင်းချင်း ဆွဲနှုတ်ပစ်ပြီးမှ ရဟန်းပြုပေးကြသည်။ ပရိဗိုဇ်မဘဒ္ဒါ၏ဦးခေါင်းတွင် ကာလအတန်ကြာလျှင် ဆံပင်များ ပေါက်လာပြန်သည်။ သို့ရာတွင် ထန်းစေ့မှုတ်ဖြင့် ဆွဲနှုတ်ခံထားရသည့် ဒဏ်ကြောင့် ကောင်းမွန်ဖြောင့်တန်းစွာ မပေါက်။ တွန့်တွန့်ခွေခွေ ပေါက်လာရာ 'ဖက်လိပ်နားတောင်း'သဖွယ် ဖြစ်နေသည်။ ဤသည်ကို အစွဲပြုလျက် 'ကုဏ္ဍလကေသာ' အမည်တွင်လာသည်။

နိဂဏ္ဌပရိဗိုဇ်မ ဘဒ္ဒါကုဏ္ဍလကေသာသည် နိဂဏ္ဌတို့၏ အယူဝါဒများကို သင်ကြားတတ်မြောက်၏။ ထိုမှတစ်ဖန် စကားစစ်ထိုးနည်းများ

ကိုလည်း ပိုင်နိုင်အောင် သင်ယူသည်။ ဤသို့ဖြင့် ဘဒ္ဒါကုဏ္ဍလ ကေသာသည် နိဂဏ္ဍတို့၏အတတ်ပညာကို အကြွင်းမဲ့ တတ်မြောက်သူအဖြစ်ဖြင့် အနယ်နယ်အရပ်ရပ်သို့ လှည့်လည်လေ၏။

ထိုပရိဗိုဇ်မသည် အကြင်အရပ်၌ ပညာရှိတစ်ယောက် ရှိသည် ကြားလျှင် အရောက်သွားကာ အယူဝါဒ ပြိုင်သည်။ စကားစစ်ထိုးသည်။ ပြိုင်ဆိုင်သည့်အခါတိုင်း ဘဒ္ဒါကချည်း အနိုင်ရသည်။

သို့ဖြင့် ဘဒ္ဒါကုဏ္ဍလကေသာသည် တစ်ရွာပြီး တစ်ရွာ၊ တစ်မြို့ပြီး တစ်မြို့၊ တစ်နယ်ပြီး တစ်နယ် လှည့်လည်လျက် ဗိုလ်တောင်းနေသည်။ တစ်နေ့သောအခါ သာဝတ္ထိမြို့တံခါးသို့ ဘဒ္ဒါရောက်လာသည်။ မြို့အဝင် သဲပုံပေါ်တွင် သပြေခက်ကို စိုက်သည်။

"ငါနဲ့ ဝါဒပြိုင်ရဲရင် သည်သပြေခက်ကို နှုတ်ပစ်ကြ"

အနီးအနားတွင် ကစားနေသော ကလေးသူငယ်များအားလည်း မှာကြားခဲ့သည်။ ထို့နောက် မြို့ထဲသို့ ဝင်ခဲ့သည်။ မြို့ထဲ၊ ရွာထဲမှ ထွက်လာချိန်တွင် သပြေခက်မှာ အရာမယွင်းဘဲ နေလေ့ရှိသည်။သို့ဖြင့် ဤအရပ်၌ သူ့အား တုဖက်ယှဉ်ပြိုင်ရဲသူ မပေါ်ပေါက်ကြောင်း အဖြေထွက်သည်။

ယနေ့သော်ကား နိပဏ္ဍပရိဗိုဇ်မ ဘဒ္ဒါကုဏ္ဍလကေသာ စိုက်ထားခဲ့သော သပြေခက်တွေမှာ ကျိုးကြေမွလျက် တစ်စုံတစ်ယောက်၏ နင်းချေခြင်း ခံရပြီး ဖြစ်သည်ကို မြင်ရ၏။ ပရိဗိုဇ်မ စိတ်မဆိုးပါ။ မည်သူ ဖျက်ဆီးသွားသနည်းဟု ကလေးသူငယ်များထံ၌ ဝမ်းသာအားရ စုံစမ်း၏။

"အရှင်သာရိပုတ္တရာ ကိုယ်တော်ကြီးရဲ့ အမိန့်နဲ့ ကျွန်တော်တို့ နင်းချေပစ်ကြတာပါ အရှင်မ"

ပရိဗိုဇ်မသည် အရှင်မဟာ သာရိပုတ္တရာထံ ချက်ချင်း မသွားသေးပေ။

"လာကြလော့၊ လာကြ။ သကျူနွယ်ဖွား ရဟန်းတစ်ပါးနဲ့ ငါနဲ့

ဝါဒပြိုင်တာ ကြည့်ရအောင် လိုက်ခဲ့ကြ”

သာဝတ္ထိမြို့တွင်းရှိ နိဂဏ္ဌဂိုဏ်းသားများကို လိုက်လံခေါ်ငင်ပြီးမှ ဘဒ္ဒါကုဏ္ဍလကေသာသည် အရှင်မြတ်၏ နောက်တော်သို့ လိုက်လာသည်။ အရှင်မဟာ သာရိပုတ္တရာသည် မြို့အပြင်ရှိ အရိပ်ကောင်းသော သစ်ပင် တစ်ပင်အောက်၌ နေ့သန့်တော်မူလျက် ရှိသည်။

ဘဒ္ဒါ ကုဏ္ဍလကေသာသည် အပွဲပွဲနွဲကာ အနိုင်ရလာသူပီပီ၊ အရှင်မြတ်ကြီး မလှုပ်နိုင်အောင် ခက်ရာခက်ဆစ်တွေမေးမြန်းခြင်းဖြင့် ဝါဒ ပြိုင်သည်။ အရှင်သာရိပုတ္တရာက အလွယ်တကူ ဖြေကြားသောအခါ အခက်အခဲဆုံး ပြဿနာများဖြင့် အနိုင်ကိုက်ပြန်သည်။ သို့ရာတွင် ပရိဗိုဇ်မ ဘဒ္ဒါ မနိုင်ပါ။ မေးစရာလည်း ကုန်ခန်းချေပြီ။

“ကိုင်း၊ အရှင်ဘုရားရဲ့ အလှည့်ပါဘုရား”

“ဒါယိကာမ၊ တစ်ခုဟူသည် အဘယ်နည်း”

ပရိဗိုဇ်မသည် ‘ဧကနာမကိံ’၏ အစကိုလည်း မသိပါ။ အဆုံးကို လည်း မသိပါ။ မှောင်ကြီးထဲသို့ ရောက်နေသူပမာ ဖြစ်သဖြင့် ညှိုးငယ်စွာ ဝန်ခံ၏။

“တပည့်တော်မ မသိပါဘုရား”

“ဒါယိကာမ၊ သင်သည် ဤ ‘တစ်ခု’ကိုသော်မျှ မသိခဲ့လျှင် အခြားသော အရာများကို အဘယ်မှာလျှင် သိနိုင်ပါအံ့နည်း”

အရှင်မဟာ သာရိပုတ္တရာ မထေရ်မြတ်သည် ထိုသို့မိန့်တော်မူပြီး လျှင် ပရိဗိုဇ်နှင့် သင့်လျော်မည့်တရားကို ဟောကြားတော်မူသည်။ ပါရမီ ရှိသူ ဖြစ်သည့်အလျောက် အရှင်မြတ်၏ ခြေတော်ရင်း၌ ဝပ်စင်းသည်။

“တပည့်တော်မဟာ အရှင်ဘုရားကို ကိုးကွယ်ဆည်းကပ်ပါတယ် ဘုရား”

“ဒါယိကာမ၊ နတ်နှင့်တကွသော လောကသုံးပါး၌ အမြတ်ဆုံး

ဖြစ်တော်မူသော မြတ်စွာဘုရားအားသာလျှင် ဆည်းကပ်ကိုးကွယ်လော့”

ပရိဗိုဇ်မသည် အရှင်မြတ်ထံမှ လမ်းပြမှုခံယူရရှိပြီးနောက်၊ ညချမ်းအခါတွင် ဇေတဝန်ကျောင်းတော်သို့ ရောက်ရှိသွားသည်။ ပရိသတ်တို့အား တရားဟောနေတော်မူသော မြတ်စွာဘုရားအနီးတွင် ရပ်လျက် တည်ခြင်းငါးပါးဖြင့် ရှိခိုးနေလေသည်။

ရှင်တော်မြတ်ဘုရားသည် ပရိဗိုဇ်မ၏ ပါရမီဉာဏ် ရင့်သန်ပြီးသည်ကို သိတော်မူသောကြောင့် သတ္တဝါ၏ အနုအရင့်နှင့် လိုက်လျောသော တရားကို ဟောကြားတော်မူ၏။ ဘဒ္ဒါကုဏ္ဍလကေသာ ပရိဗိုဇ်မသည် မြတ်စွာဘုရား၏ ထံတော်ပါး၌ ရပ်လျက်သာပင် ပဋိသမ္ဘိဒါလေးပါးနှင့်တကွ အရဟတ္တဖိုလ်သို့ ဆိုက်ရောက်တော်မူသည်။ ထို့နောက် မြတ်စွာဘုရား၏ သာသနာတော်အတွင်း၌ရှိသော ဘိက္ခုနီ အရှင်မများထံတွင် ရဟန်းပြုတော်မူသည်။

ဘဒ္ဒါကုဏ္ဍလကေသသာ ထေရီမြတ်လှ အရှင်မသည် တရားတော်ကို လျင်မြန်စွာ သိမြင်သူအဖြစ်ဖြင့် ‘ခိပ္ပာဘိညာ ဧတဒဂ်’ ရရှိတော်မူပေသည်။



## ၁၀။ ပုဗ္ဗေနိဝါသအဘိညာဉ် ဧတဒဂ်ရ အရှင်မ

ရှေး၌နေခဲ့ဖူးသောအကြောင်းအရာတို့ကို အောက်မေ့ဆင်ခြင်နိုင်သော ပုဗ္ဗေနိဝါသာနုဿတိ အဘိညာဉ်အရာ၌ ဧတဒဂ်ရသော ထေရီအရှင်မမှာ ‘ဘဒ္ဒကာပိလနီ’ ထေရီမြတ်လှ အရှင်မပေတည်း။

လွန်ခဲ့သော ၉၁ ကမ္ဘာထက်၌ ဝိပဿီမြတ်စွာဘုရား ထင်ရှား ပွင့်တော်မူခဲ့၏။ ထိုစဉ်အခါဝယ် ဗန္ဓုမတီပြည်၌ ပုဏ္ဏားလင်မယားရှိကြ၏။ အလွန်ပင် သိမ်ငယ်ဆင်းရဲကြရှာ၏။

ထိုလင်မယား ဆင်းရဲပုံမှာ နှစ်ယောက်ပေါင်းမှ အပေါ်ရုံ ‘စုလျား’ တစ်ထည်တည်းသာရှိသည်။ သို့ကြောင့် အိမ်ပြင်သို့ ကိစ္စဝိစ္စရှိ၍ လင်ထွက်လျှင် မယားမှာ အိမ်ပြင်သို့ မထွက်ရဲချေ။ အိမ်ပြင်ပသို့ မယားသွားလျှင် လင်မှာ အိမ်တွင်းအောင်းကာသာ နေခဲ့ရ၏။ ထို့ကြောင့် ‘ဧကသာဋက’ဟု ခေါ်ကြ၏။ သူတို့၏ အသက်မွေးဝမ်းကျောင်း အလုပ်မှာ ဟင်းရွက်ခူး

ထင်းခွေကာ ရောင်းချခြင်းပေတည်း။

တစ်နေ့သောအခါ နိဗ္ဗာန်ဆော်များသည် မြတ်စွာဘုရား၏ တရားပွဲရှိသည့်အကြောင်း လှည့်လည်ကြွေးကြော် ကြ၏။ အသက် တစ်သောင်းတမ်းတွင် ပွင့်တော်မူသော သက်တော်ရှည် မြတ်စွာဘုရားများ သည် ၇ နှစ်ကြာမှ တစ်ကြိမ်သာ တရားဟောတော်မူလေ့ရှိကြ၏။ ဝိပဿီ မြတ်စွာဘုရားမှလည်း သက်တော်ရှည်တစ်ပါး ဖြစ်သောကြောင့် ၇ နှစ် တစ်ကြိမ်သာ တရားဟောတော်မူ၏။ သို့ကြောင့် ဥပါသကာများက လိုက်လံ နှိုးဆော်ရခြင်း ဖြစ်ပေသည်။

တရားပွဲရှိကြောင်း နှိုးဆော်သံကို 'ကေသာဌက' လင်မယားတို့ ကြားသည်။ တရားပွဲသို့ သူသွားမည် ငါသွားမည် ငြင်းခုံကြသည်။ နောက် ဆုံးတွင် ပုဏ္ဏားအနိုင်ရကာ တရားပွဲသို့ ထွက်လာသည်။ ပုဏ္ဏေးမမှာ အိမ်တွင် နေခဲ့ရသည်။

လူနတ်ပြဟ္မာ သတ္တဝါတို့၏ ဆရာဖြစ်တော်မူသော ဝိပဿီ မြတ်စွာဘုရားသည် မင်းနှင့်တကွသော ပရိသတ်လေးပါးအား တရားဟော တော်မူ၏။

ဒါနကထာ၊ သီလကထာ၊ မဂ္ဂကထာ ဟူသော တရားစကား အစဉ်ဖြင့် ကောင်းကင်မြစ်ကြီး စီးဘိသည့်အလား၊ အင်္ဂါရှစ်ပါးရှိသော အသံတော်ဖြင့် စိတ်ဖန်စွာ ဟောကြားတော်မူ၏။

ပရိသတ်အစွန်မှသာ တရားနာခွင့်ရသော ကေသာဌက ပုဏ္ဏား မှာ အဆအရာအတောင် ဝမ်းသာနှစ်မြို့လျက် ပီတိငါးပါး ဖြစ်ပွားနေသည်။ တစ်ပြိုင်နက်တည်းမှပင် ခြုံရုံထားသော စုလျားပုဆိုးကို ချွတ်လိုက် ခြုံလိုက် ဖြစ်နေသည်။

စုလျားပုဆိုးကိုချွတ်ခြင်းမှာ လှူဒါန်းလိုသော သဒ္ဓါတရားကြောင့် ဖြစ်၏။

ပြန်ပြီး ရုံခြင်းမှာ သည်တစ်ထည်သာ ရှိသည်။ ပဋ္ဌောားမ အပြင်ထွက်သောအခါ မည်သို့လုပ်မည်နည်းဟူသည့် မဆွေရစိတ်ကြောင့် ဖြစ်သည်။

ဝန်တိုစိတ်နှင့် လှူဒါန်းလိုစိတ်တို့ လွန်ဆွဲနေရာ ညဥ့်ဦးယံ ကုန်ဆုံးသွားသည်။ ထို့နောက် မဇ္ဈိမယာမ် ကုန်ဆုံးသည်အထိ သဒ္ဓါနှင့် မဆွေရတို့၏ တိုက်ပွဲကြီး မပြီးသေးချေ။

ပစ္ဆိမယာမ်အရောက်အတွင် ပုဏ္ဏားသည် မိမိကိုယ်ကို ပြန်၍တရားချ၏။

"ကေသာဠကက အပေါ်ရုံစုလျားပုဆိုးကလေး တစ်ထည်ကိုတောင် မလှူရက်သလို၊ ရှေးရှေးဘဝတွေတုန်းက တွန့်တိုမှုနောက်ကိုလိုက်ပြီး ဒါနကောင်းမှု မပြုခဲ့လို့ အခုဘဝမှာ ဒါလောက် ဆင်းရဲနေတာ မဟုတ်လား။ နောက်ဘဝတွေမှာလည်း အခုလိုပဲ ဆက်ပြီး မွဲချင်သလား၊ မမွဲချင်ရင် အခုလှူ"

ကေသာဠကက ဆုတ်ဆိုင်းမနေ။ အပေါ်ရုံ စုလျားပုဆိုးကို ဆွဲဖြုတ်ပြီး မြတ်စွာဘုရား၏ ရှေ့တော်သို့ပြေးကာ ပုံထားလိုက်သည်။ တစ်ညလုံး အထမမြောက်သော အလှူကြီး ယခုမှ အထမြောက် အောင်မြင်သည်။ ကေသာဠကက ဝမ်းသာလွန်းသဖြင့် ပရိသတ်အပြင်ဘက်၌ လက်ခမောင်း (လက်ပမ်းပေါက်) ခတ်သည်။

"အောင်ပြီကွ။ ဟေး.... အောင်ပြီကွ"

ထိုအော်သံကို ဗန္ဓုမတီမင်းတရား ကြားတော်မူသည်။ မင်းချင်းတစ်ယောက်လွှတ်ပြီး စုံစမ်းတော်မူသည်။ ကေသာဠကက၏ ကြီးမားသော စွန့်စားမှုကို သိရသောအခါ သဒ္ဓါတရားကို ပူဇော်သောအားဖြင့် မင်းချင်းမှ တစ်ဆင့် စုလျားပုဆိုးတစ်ထည် ပေးပို့လိုက်သည်။

စုလျားပုဆိုးဟု အမည်ချင်းတူသော်ငြား အသွင်ကား ကွဲလွန်း

သည်။ ဘုရင်သနားတော်မူသော ပုဆိုးမို့ ကောင်းလှသည်။ ကေသာဋ္ဌက ပုဏ္ဏားသည် အိပ်မက်ထဲမှာပင် မမြင်ဖူးသောပုဆိုးသည် မြတ်စွာဘုရား၏ ဘုန်းတော်ကြောင့် ရသောပုဆိုးအဖြစ် သဘောထားကာ ထပ်မံလှူဒါန်း ပစ်သည်။

ထိုအခါ ခုနက မင်းချင်းပင် ရောက်လာပြန်ကာ စုလျားပုဆိုး နှစ်ထည် ပေးသွားသည်။ ကေသာဋ္ဌကသည် လှူဒါန်းခြင်း၌ သွေးပူနေပြီ ဖြစ်ရာ ထိုပုဆိုးကိုလည်း မြတ်စွာဘုရားခြေတော်ရင်း၌ စုပုံခြင်းဖြင့် လှူဒါန်းလိုက်သည်။

ရောက်လာပြန်ပြီ မင်းချင်းတစ်ယောက်။ ရင်ခွင်ထဲ၌ စုလျားပုဆိုး လေးစုံ။ အရှင်ကြီးရှင်၊ အရဲကြီးရဲသော ကေသာဋ္ဌက လှူပစ်ပြန်သည်။ ဤသို့လျှင် သူက လှူပစ်လိုက်၊ ပြည့်ရှင်မင်းက 'သဒ္ဓါပြန်' နှစ်ဆတိုးပြီး ပေးလိုက်ဖြစ်နေကြရာ၊ ၁၆ စုံအရတွင်ကား ပုဏ္ဏား စဉ်းစားရပြီ။

"ရမှန်းသိလို့ လှူနေတာလို့ လူတွေ ကဲ့ရဲ့ရင် မကောင်းဘူး"

သို့ကြောင့် ကေသာဋ္ဌက ပုဏ္ဏားသည် နှစ်စုံကို သူတို့ လင်မယား အတွက် ချန်ထားပြီး ၁၄ စုံကို မြတ်စွာဘုရားသို့ လှူဒါန်းပစ်လိုက်ပြန်လေ၏။ကေသာဋ္ဌကမှာ ထိုအချိန်မှစတင်ပြီး မြတ်စွာဘုရားနှင့်အကျွမ်းဝင်သော ဥပါသကာ တစ်ယောက် ဖြစ်လာလေ၏။

ကေသာဋ္ဌကပုဏ္ဏားသည် ထိုအချိန်မှ စတင်ပြီး မြတ်စွာဘုရား၏ ကျောင်းတော်သို့ဝင်ထွက်ကာ ဝတ်ကြီးဝတ်ငယ်များ ပြုရမှန်း သိလာသည်။ တစ်နေ့တွင် ပြည့်ရှင်မင်းသည် မြတ်စွာဘုရားအား ဖူးမြော်ရန် ရောက်လာ သည်။ မွဲတေနေပါလျက် အလှူရဲသော ပုဏ္ဏားအဖြစ် ကေသာဋ္ဌကအား မြင်လျှင်မြင်ချင်း မှတ်မိသည်။ ပဋ္ဌမွရာဇ်တိုင်းဖြစ် ကမ္ဗလာနှစ်ထည်ကို ပေးသနားရင်း မိန့်ကြားတော်မူသည်။

"မောင်မင်း တရားနာတဲ့အခါတိုင်း သည်တစ်သိမ်းတန် ကမ္ဗလာ

တွေ့ဝတ်ပါ”

ပြည့်ရှင်မင်း ထွက်ခွာသွားသောအခါ ကေသာဋ္ဌက စဉ်းစားသည်။

“သည် အဖိုးထိုက် အဖိုးတန် အထည်တွေနဲ့ သည်အကောင်ပုပ်ကြီးကို အလှဆင်လို့ ဘာအကျိုးရှိမှာတုန်း”

အကျိုးမရှိသောအဖြစ်ကို ဆင်ခြင်မိသောအခါ အကျိုးရှိမည့် နည်းလမ်းသည် ပေါ်ပေါက်လာ၏။ ဤသည်ကား ကမ္ဗလာများကို မြတ်စွာဘုရားရှေ့တွင် ခင်း၍လည်းကောင်း၊ မျက်နှာကြက် ကြက်၍လည်းကောင်း လှူခြင်းပေတည်း။

နောက်ရက်အနည်းငယ် အကြာတွင် ပြည့်ရှင်မင်းသည် မြတ်စွာဘုရားထံတော်သို့ အဖူးအမြော် ရောက်လာပြန်သည်။ လှပဆန်းပြားသော အခင်းသစ်နှင့် မျက်နှာကြက်အသစ်ကို ဘုရင်မင်းမြတ် မြင်ရသည်။

ဘုရင်မင်းမြတ်သည် ကောင်းမှုရှင်ကို အံ့ဩဝမ်းသာစွာဖြင့် စုံစမ်းသည်။ ငမွဲ ငတေ ကေသာဋ္ဌကဟု သိရသည်တွင် ပို၍ အံ့ဩမိသည်။ သို့ကြောင့် ရွှေနန်းတော်သို့ ပြန်ရောက်လျှင် ရောက်ချင်း ကေသာဋ္ဌကအား ဆင့်ခေါ်သည်။

“မောင်မင်း ကနေ့ကစပြီး လယ်ထွန်၊ နွားကျောင်းဆိုတဲ့ တစ်ခြားအလုပ်တွေ လုပ်မနေနဲ့တော့။ မြတ်စွာဘုရားနဲ့ သံဃာတော်တွေရဲ့ ဝေယျာဝစ္စကို ဆောင်ရွက်ပြီး အလုပ်အကျွေးပြု”

အသက်မွေးဝမ်းကျောင်းမှုအတွက် မလုပ်ကိုင်ဘဲ ကေသာဋ္ဌက နေနိုင်စေရန် ဘုရင်မင်းမြတ် ပေးသနားသော အရာများမှာ အခွန်တစ်သိန်းထွက်သော ရွာကြီးရှစ်ရွာ၊ ရထားစီးကညာ ရှစ်ယောက်၊ ဆင်ပေါက်ရှစ်စီးနှင့်၊ ကျွန်သီး ရှစ်အိမ်ထောင်၊ တိုက်ပြသာဒ် ရှစ်ဆောင်တို့အပြင် များစွာသော ကျွဲနွားများပေတည်း။

ကောသဋ္ဌကအတွက် မြတ်စွာဘုရားနှင့် သံဃာတော်များအား စိတ်ရှိလက်ရှိ လုပ်ကျွေးနိုင်သော အခြေအနေသို့ ချက်ချင်းရောက်သွားပေပြီ။

ထိုပုဏ္ဏားလင်မယားသည် ကောင်းမှုကုသိုလ်များကို အသက်ထက်ဆုံး ပြုသွားကြသည်။ ကွယ်လွန်ပြီးနောက် ကောင်းမြတ်သော ဘုံဘဝများ၌ ကျင်လည်ခဲ့ရာက ဤဘဒ္ဒကမ္ဘာဝယ် ဗာရာဏသီပြည်၌ သူကြွယ်လင်မယား ဖြစ်လာသည်။

အချိန်အခါမှာ ကောဏာဂုံ မြတ်စွာဘုရား ပရိနိဗ္ဗာန် စံဝင်တော်မူပြီး ကဿပ မြတ်စွာဘုရား ပွင့်တော်မမူသေးမီ၊ အကြားကာလဖြစ်သည်။

သူကြွယ်လင်မယားနှင့် အတူနေသူမှာ သူကြွယ်၏ နှမဖြစ်၏။ သူကြွယ်အပြင်သို့ သွားနေသော နေ့တစ်နေ့တွင် သမီးယောက်မ စကားများကြ၏။ ထိုအချိန်တွင် ရှင်ပစ္စေက ဗုဒ္ဓါတစ်ပါး ဆွမ်းရပ်တော်မူသည်။ သူကြွယ့်နှမသည် ဆွမ်းလောင်းအပြီး၌ ဒေါသရှံသောဆုကို တောင်း၏။

"ဖြစ်လေရာဘဝမှာ သည်မိန်းမလို မိုက်မဲသူများကို ယူဇနာတစ်ရာက ရှောင်ရှားနိုင်တဲ့ကိုယ် ဖြစ်ရပါလို၏ဘုရား"

သူကြွယ်မ ထောင်းခနဲ ဒေါသထွက်သည်။ အရှင်မြတ်၏ လက်တော်မှ သပိတ်ကို ပြေးယူသည်။ ဆွမ်းတွေ သွန်ပစ်သည်။ ရွှံ့တွေ ထည့်ပေးလိုက်သည်။ မြေကြီးကဲ့သို့ သည်းခံတော်မူသော အရှင်မြတ်ကား သပိတ်ပိုက်လျက် ကြွတော်မူသည်။

အရှင်မြတ် သည်းခံတော်ငြား ယောက်မမှာ သည်းမခံနိုင်။

"နင် ငါ့ကို ဆဲချင် ဆဲပါတော့လား။ နှစ်သင်္ချေပတ်လုံး ပါရမီဖြည့်ကျင့်ရတဲ့ အရှင်သခင်ကို ဘာကြောင့် ပြစ်မှားရတာတုန်း"

သမီးယောက်မ ရန်ဖြစ်ခြင်းနှင့် အရှင်ပစ္စေကဗုဒ္ဓါသည် မည်သို့မျှ မပတ်သက်။ သို့ပါလျက်နှင့် သူကြွယ်မ ရမ်းကားသည်။ ရမ်းကားသော်ငြား

ယောက်မ၏စကားကို ကြားသောအခါ မှားယွင်းပါတကားဟု ထိတ်လန့် တုန်လှုပ်စွာ သိသည်။ သို့ကြောင့် အရှင့်မြတ်ထံသို့ ပြေးပြီး လိုက်သည်။ သပိတ်ကိုယူပြီး ရွှံ့တွေကိုသွန်သည်။ အမွှေးနံ့သာရည်ဖြင့် ရွှံ့နံ့ ပျောက်အောင် ဆေးကြောသည်။ မြိန်မြတ်သော စတုမဓုများကို သပိတ်အပြည့် ထည့်ပြီး ပြန်လည်ကပ်လှူသည်။

“ဤကောင်းမှုကြောင့် တပည့်တော်မဟာ ဖြစ်လေရာ ဘဝတိုင်းမှာ ကြည့်လို့မရောင့်ရဲအောင်လှတဲ့ ရုပ်အဆင်းနဲ့ ပြည့်စုံရပါလို၏ဘုရား”

အရှင်ကောင်း အရှင်မြတ်သည် အနုမောဒနာပြုပြီးလျှင် ကောင်းကင် ခရီးဖြင့် ကြွသွားတော်မူလေ၏။

သူကြွယ့်ဇနီးသည် ထိုဘဝမှ စုတေသော် ကောင်းရာသုဂတိဘုံများ၌ ကျင်လည်ခဲ့ပြီးနောက် ဗာရာဏသီပြည်၌ သူကြွယ်ကြီးသမီး ဖြစ်လာ၏။ ကုဋေရှစ်ဆယ် ကြွယ်ဝသူ၏ သမီးလည်းဖြစ်၊ ရုပ်ရည်ကလည်း ချောမောလှပသောကြောင့် လက်ဆက်လိုသူ ပေါများလှ၏။

သို့ကြောင့် သူကြွယ်ကြီးသည် သမီးလှအား သူကြွယ့်သားတစ်ယောက်နှင့် ပေးစားလိုက်၏။ သို့ရာတွင် သတို့သမီးသည် ဖခင်ထံသို့ ညတွင်းချင်း ပြန်ရောက်လာရှာ၏။ အဘယ်ကြောင့်နည်း၊ သူကြွယ့်သမီး ကိုယ်မှ အဖုံးအကာကင်းသော မစင်တင်ပုပ်တွင်းထဲက အနံ့မျိုး ပုပ်ဟောင်နံစော်သောကြောင့်တည်း။

သို့တစေ သူကြွယ်သမီးသည် အလှဂုဏ်၊ ပစ္စည်းဂုဏ်များကြောင့် နောက်တစ်ယောက်နှင့် လက်ထပ်ဖြစ်ပြန်သည်။ ထိုအခါတွင်လည်း မင်္ဂလာဦးခန်းသဏ္ဍာတွင် သတို့သမီး ကိုယ်မှ ပြင်းထန်သော အပုပ်နံ့ကြီး ထွက်လာသည့်အတွက် သတို့သမီးခမျာ ရှက်မျက်ရည်ဖြာလှိုင်လျက် အဖေ့အိမ်သို့ ညတွင်းချင်း ပြန်ရောက်လာ၏။

အရှင်ပစ္စေကဗုဒ္ဓါ အရှင်မြတ်၏ သပိတ်ထဲသို့ ရွှံ့ပုပ်တွေ ထည့်ခဲ့

မိသော မကောင်းမှုက် အကျိုးဆက်ကား နှစ်ကြိမ် အရှုက်ကွဲရုံဖြင့် မပြီးသေးပါ။ ခုနစ်ကြိမ် အရှက်ကွဲရသည်။ သတို့သား ခုနစ်ယောက်၏ ညတွင်းချင်း ပြန်အပို့ခံရပြီးချိန်တွင်ကား သူကြွယ်၏သမီးမှာ အိမ်ထောင်ပြုရန် စိတ်မကူးရဲတော့ပါ။ ကုသိုလ်ကောင်းမှုတွေကိုသာ အဆက်မပြတ်ပြုလုပ်ပွားများ နေရလေတော့၏။

ကဿပမြတ်စွာဘုရား ပရိနိဗ္ဗာန် ပြုတော်မူသွားပြီ။ သရီရဓာတ်တော်များ တစ်ခဲနက် ကျန်ခဲ့သည်။

ရဟန်းရှင်လူအများသည် ထိုဓာတ်တော်များကို ဓာတုစေတီအဖြစ် တည်ထားကြ၏။ အသက်တစ်သောင်းတန်းတွင် နေထိုင်သောလူများ တည်ထားသည့် စေတီတော်ကြီးမှာ တစ်ယူဇနာ (၁၂.၇မိုင်) မြင့်၏။

သူကြွယ့်သမီးသည် ဝတ်စားတန်ဆာများကို ရောင်းချပြီး၊ ရရှိသော အသပြာဖြင့် ရွှေအုပ်များဝယ်သည်။ ဆေးဒန်းမြင်းသီလာကို သရွတ်ပြုရန်အတွက် နံ့သာရေဖြင့် သွေးကာ လင်ပန်းထဲ၌ ရွှေအုပ်များနှင့်အတူထည့်သည်။သူကြွယ့်သမီးသည် လင်ပန်းကိုရွက်လျက် စေတီတော်သို့လာသည်။ အထက် ထီးချက်ခံရာနေရာ၌ ရွှေအုတ်များကို ကိုယ်တိုင်စီခြင်းဖြင့် ကပ်လှူပူဇော်၏။

ခုနစ်ကြိမ်တိုင် လင်ပစ်ခံရသော သူကြွယ့်သမီးသည် စေတီတော်မြတ်ကြီးအား ကြည်ညိုစွာရှိခိုးလျက် “အခုပြုရတဲ့ ကောင်းမှုက် စေတနာကြောင့် တပည့်တော်မရဲ့ ကိုယ်က စန္ဒကူးနံ့၊ အာခံတွင်းက ကြာဝတ်နံ့သင်းကြိုင်ရပါလို၏ဘုရား”ဟု အားပါးတရ ဆုတောင်းမိ၏။

စိတ်လက်ပေါ့ပါး ရွှင်လန်းအားရစွာ အိမ်ပြန်လာသော သူကြွယ့်သမီးသည် သူ့အား စောင့်နေသော ဧည့်သည်များကို အိမ်တွင် တွေ့ရ၏။ သူနှင့်လက်ထပ်ပြီး ညတွင်းချင်းပြန်ပို့သော ပထမလင်ထံမှ အောင်သွယ်တော်များ ဖြစ်၏။

"အမိကို ပြန်ပို့မိတာ မှားတဲ့အကြောင်း ဝန်ချတောင်းပန်ချင်တဲ့ အတွက် အခေါ်ခိုင်းလို့ လာတာပါ"

"ဝတ်စားတန်ဆာတွေ ရောင်းပြီး စေတီတော်ကြီးမှာ အခုပဲ လှူခဲ့ပြီးပြီ။ ဝတ်စားတန်ဆာ တင့်တောင့်တင့်တယ် မရှိဘဲ ဘယ်လိုလုပ်ပြီး လိုက်မှာတုန်း"

သို့ကြောင့် အောင်သွယ်များ ပြန်သွားကြသည်။ မကြာမီပင် လိုအပ်သော ဝတ်စားတန်ဆာ အပြည့်အစုံဖြင့် ပြန်ရောက်လာကြသဖြင့် ရထားပေါ်တက်ကာ လိုက်ပါလာခဲ့သည်။ ထိုအချိန်ကား မကောင်းမှုကံများ ညှိုးမှိန်ခဲ့ပြီး ကောင်းသောကံများ ခေါင်းထောင်လာချိန်ပေတည်း။

သို့ကြောင့် အိမ်ဝမှဆီးကြိုနေသော သူကြွယ်က ဝမ်းသာအားရ ပြော၏။

"မယ်မင်းကိုယ်ဟာ အရင်တုန်းက အလွန်ပျို့အန်ချင်စရာ အနံ့ဆိုးရှိပေမယ့် အခုတော့လည်း စန္ဒကူးနံ့ကြိုင်လှိုင်နေပါကလား နှမရယ်"

"မြတ်စွာဘုရားရဲ့ ဓာတုစေတီကို ပူဇော်တဲ့ကောင်းမှုကြောင့် အခုလို ဖြစ်လာရတာပါအရှင်"

ထိုစကားသံနှင့်အတူ ဝန်းကျင်တစ်ခုလုံး ကြာဝတ်နံ့ ထုံပျံ့သွားလေ၏။ သူကြွယ်ကလေးမှာ အံ့သြဝမ်းသာစွာ မြည်တမ်းမိ၏။

"ဩော်.... မြတ်စွာဘုရားရဲ့ သာသနာတော်ဆိုတာဟာ သတ္တဝါတွေရဲ့ ကိုးကွယ်ရာ မှီခိုရာကြီးပါကလား။ အယုတ်အညံ့ကိုလည်း အမြတ်ဖြစ်လာအောင် အကျိုးပေးနိုင်ပါကလား"

ထို့ကြောင့် အသံကြားဖြင့် သဒ္ဓါပသန္န ဖြစ်နေသော သူကြွယ်သည် ဓာတုစေတီတော်ကြီးကို ကမ္ဗလာနီရောင် အုတ်တံတိုင်းခတ်လျက် တံတိုင်းတွင် ကြာသွတ်အိုးနှင့် မုခ်ထွတ်များ တုရင်များ ဆင်ယင်လျက် ကြာတံကြာလက်များ စိုက်ထူပူဇော်လေသည်။

သူကြွယ်လင်မယားသည် အသက်အတိုင်းနေပြီးနောက် စုတေသောအခါ ကောင်းမွန်မြင့်မြတ်သော ဘုံဘဝများ၌ ကျင်လည်ခဲ့ကြသည်။ ထို့နောက် လူ့ပြည်သို့ရောက်လာချိန်ဝယ် သူကြွယ်မမှာ ဗာရာဏသီပြည့်ရှင်မင်း၏သမီးတော် 'ဘဒ္ဒကာ'၊ သူကြွယ်မှာ အမတ်ကြီး၏သား 'နန္ဒိယ'ဟူ၍ အသီးသီး ဖြစ်လာကြလေ၏။

တစ်ရံသောအခါတွင် ပြည့်ရှင်မင်း နတ်ရွာလားတော်မူ၏။ သမီးတော် တစ်ပါးသာ ကျန်ခဲ့သည်။ သားတော် မရှိ။ သို့ဖြင့် အမတ်များသည် မင်းလောင်းရှာဖွေရန် ဖုဿရထား လွှတ်ကြသည်။

ထိုအချိန်ဝယ် နန္ဒိယမှာ အဝတ်ကောင်းမရသဖြင့် စိတ်ညစ်ပြီး အိမ်မှထွက်လာကာ ကျောက်ဖျာတစ်ချပ်ပေါ်တွင် ခေါင်းမြီးခြုံလျက် အိပ်ပျော်နေ၏။ ဖုဿရထားသည် နန္ဒိယ၏ခြေရင်းတွင် လာရောက် ရပ်တန့်၏။ ဤသို့ဖြင့် နန္ဒိယသည် ဘဒ္ဒကာမင်းသမီးနှင့် ထိမ်းမြားမင်္ဂလာပြုပြီး ဘိသိက်သုံးပါး သွန်းလောင်း၏။ မင်းဆွေစိုးမျိုးတို့သည် ရာဇဘိသေကမင်္ဂလာပွဲသို့ စုံညီစွာတက်ရောက်ကာ၊ တစ်သိန်းတန်ပုဆိုးများဖြင့် ဘုရင်မင်းမြတ်အား ကန်တော့လက်ဆောင် ဆက်ကြ၏။

နန္ဒိယမင်းသည် ဆက်သသော အထည်တွေကို ကိုင်ကြည့်၏။

"မောင်မင်းတို့။ ပုဆိုးတွေက ကြမ်းထော်လှပါကလား"

"အရှင်မင်းမြတ်၊ ကျွန်တော်မျိုးတို့ရဲ့ ဗာရာဏသီပြည်ကြီးမှာ သည်ပုဆိုးတွေဟာ အကောင်းဆုံး အနုးညံ့ဆုံးပါ ဘုရား"

အမတ်များ၏ လျှောက်တင်စကားကြောင့် ဘုရင်မင်းမြတ် အံ့ဩစွာ မေးတော်မူပြန်၏။

"အနို့၊ သင်တို့သခင် နတ်ရွာစံ ဘုရင်မင်းမြတ်လည်း ဒါမျိုးပဲ ဝတ်သလား"

"မှန်လှကြောင်းပါ အရှင်မင်းကြီး"

"ငါကိုယ်တော်ရှင်မြတ် မဝတ်နိုင်ဘူး"

နန္ဒိယဘုရင်သည် ရွှေလက်တော်တွင်းရှိ ဝတ်လဲပုဆိုးများကို ချထားလိုက်ပြီး ရွှေကရားကို ယူသည်။ ကရားထဲမှရေဖြင့် ခံတွင်းဆေး မျက်နှာသစ်သည်။ ရွှေကရားကို ညာလက်တော်ဖြင့်ကိုင်လျက် အရှေ့အရပ်သို့ မျက်နှာပြုကာ သွန်းဖျန်းသည်။

"ငါဟာ သုံးဖော်သော လောကမှ ဝေနေယျ သတ္တဝါအပေါင်းကို ကောင်းကျိုးချမ်းသာပြုဖို့အတွက် ဒါနကုသိုလ်တွေ ပြုခဲ့တယ် မဟုတ်လား။ သည် ကောင်းမှုအကျိုးဆက်ဟာ အခုချက်ချင်း ငါ့မျက်မှောက်ကို ရောက်လာပါစေသား"

ရေသွန်းဖျန်းကာ သစ္စာဆိုလိုက်ချိန်တွင် ဝတ်လဲပုဆိုးများ သီးနေသော ပဒေသာပင် ရှစ်ပင်သည် မြေပြင်ကိုခွဲလျက် ပေါ်ထွက်လာလေ၏။ နန္ဒိယမင်းသည် ကျန်ရှိသော အရပ်မျက်နှာများသို့လည်း မျက်နှာမူကာ အလားတူ မိန့်တော်မူလျက် ရေသွန်းဖျန်းပြန်သည်။ အဖိုးတန် နတ်ဝတ်ပုဆိုး ပဒေသာပင်များသည် အရပ်လေးမျက်နှာ၌ ဝန်းရံနေလေ၏။

"မည်သူမဆို နန္ဒိယမင်း၏ ဘုန်းကံအလျောက် ပေါ်ပေါက်လာသော ပဒေသာပင်များမှ ဝတ်လဲပုဆိုးများကို အလိုရှိသမျှ ဆွတ်ယူသုံးစွဲကြစေ"

ဘုရင်မင်းမြတ်သည် ကိုယ်တော်တိုင် သုံးဆောင်ရုံသာမက အထက်ပါအမိန့်ဖြင့် တိုင်းသူပြည်သားများကိုပါ ဆွတ်ယူသုံးစွဲခွင့်ပေးထား၏။ စည်ကားသာယာသော နိုင်ငံတော်ကြီးမှာ ရက်ကန်းခတ်သံဆိတ်ခဲ့သည်။

နန္ဒိယမင်းသည် မင်းမိန်းမပေါင်း တစ်သောင်းခြောက်ထောင် အခြံအရံဖြင့် နှစ်ပေါင်းတစ်သောင်းကျော်ကြာအောင် သိကြားမင်း၏ စည်းစိမ်ဖြင့် စံစားနေရာက တစ်နေ့သော် မိဖုရားခေါင်ကြီး ဘဒ္ဒကာအား

ဤသို့ မိန့်တော်မူ၏။

"မိဖုရားကြီး၊ ငါတို့ဟာ ရှေးရှေးဘဝတွေတုန်းက ကုသိုလ်ကောင်းမှုတွေ ဆည်းပူးခဲ့တဲ့အတွက် အခုလို ထူးမြတ်တဲ့ စည်းစိမ်ကို စံစားရတာဖြစ်တယ်။ ဒါကြောင့် နောက်ဘဝတွေမှာလည်း အခုလိုပဲ စံစားရအောင် သီလရှိတဲ့ အလှူခံတွေကို စုံစမ်းရှာဖွေပြီး လှူဒါန်းပူဇော်ပါ"

မိဖုရားခေါင်ကြီး ဘဒ္ဒကာသည် သီလရှိသော ပုဂ္ဂိုလ်ရှာဖွေရန် မင်းချင်းများအား အရပ်ရှစ်မျက်နှာသို့ စေလွှတ်ငြား မရရှိပေ။ သို့အတွက် မင်းနှင့် မိဖုရားသည် အလှူဝတ္ထုများ စီစဉ်ထားခဲ့ကာ ပြာသာဒ်ထက်သို့ တက်ပြီး ရှစ်ပါးသီလ ဆောက်တည်သည်။ ထို့နောက် အရှေ့အရပ်သို့ မျက်နှာမူလျက် ရှိခိုး အဓိဋ္ဌာန်ပြုကြ၏။

"ဤအရပ်မျက်နှာဝယ် အကယ်၍ ရဟန္တာအရှင်မြတ်များ ရှိတော်မူအံ့။ တပည့်တော်တို့၏ အလှူကို ကြွရောက် အလှူခံတော်မူကြပါ ဘုရား"

မည်သည့်ပုဂ္ဂိုလ်မျှ ကြွရောက်မလာသဖြင့် အလှူဝတ္ထုများကို ဖုန်းတောင်းယာစကာများနှင့် ခရီးသွားများအား စွန့်ကြဲလိုက်ရသည်။

သုံးရက်လုံးလုံး အဟောသိကံဖြစ်ငြား စတုတ္ထနေ့တွင်မူ မြောက်အရပ်မှ ပစ္စေကဗုဒ္ဓါ အပါးငါးရာ ကြွရောက်တော်မူလာကြသည်။ မင်းနှင့် မိဖုရားသည် ဝမ်းမြောက်ဝမ်းသာစွာဖြင့် ယာဂုအဖျော်တို့ကို ဆက်ကပ်လှူဒါန်းသည်။ ထို့နောက် တရားတော် နာယူအပြီးတွင် ဘုရင်မင်းမြတ်က လျှောက်ထား၏။

"အရှင်မြတ်တို့ကို ပစ္စည်းလေးပါး ဒါယကာ ခံချင်တဲ့အတွက် တပည့်တော်ရဲ့ ဥယျာဉ်မှာ သီတင်းသုံးတော်မူကြပါဘုရား"

ဟိမဝန္တာအရပ်မှ ကြွလာတော်မူသော ပဒုမဝတီ မိဖုရား၏ သားတော်များဖြစ်သော အရှင်မြတ်တို့ ဝန်ခံတော်မူကြသဖြင့် ကျောင်းငါးရာ ဆောက်လုပ်လှူဒါန်း ပူဇော်သည်။ ဆွမ်းသင်္ကန်း ပရိက္ခရာ ဆေးဝါး

မပြတ်အောင် လှူဒါန်းသည်။

တစ်ရံရောအခါဝယ် ပစ္စန္တရာဇ်သို့ ဘုရင်မင်းမြတ် စစ်ချီတော်မူစဉ်၊ အရှင်ကောင်းအရှင်မြတ် ငါးရာတို့ ပရိနိဗ္ဗာန် ပြုတော်မူကြ၏။ မိဖုရားခေါင်ကြီးသည် အရှင်မြတ်များအား ကောင်းစွာဖုတ်ကြည်း သင်္ဂြိုဟ်ပြီးသော် ဓာတ်တော်များကို စေတီတည်ထား၍ ကိုးကွယ်၏။ ဘုရင်မင်းမြတ် ပြန်လည် ကြွချီတော်မူသောအခါ ဓာတုစေတီတော်များကို ဖူးမြော်ရင်း သံဝေဂစကား ဆိုတော်မူ၏။

“ကောင်းကင်ပျံ၊ မြေလျှိုးနိုင်တဲ့ အရှင်မြတ်များသော်မှ သေမင်းနိုင်ငံကို လိုက်ကြရသေးရင် ငါတို့အဖို့ ဘာပြောဖို့ ရှိမတုန်း”

သို့ကြောင့် မင်းမိဖုရားနှစ်ပါးသည် သားတော်ကြီးအား ထီးနန်းလွှဲပေးခဲ့ကာ ဥယျာဉ်တော်၌ ရဟန်းပြုပြီး နေထိုင်တော်မူကြ၏။ သူတို့သည် ဈာန်ဝိပဿနာကို ပွားစေလျက် အသက်အတိုင်းနေ၍ စုတေသောအခါ ဗြဟ္မာ့ပြည်သို့ လားကြလေ၏။

နန္ဒိယဗြဟ္မာနှင့် ဘဒ္ဒကာဗြဟ္မာတို့သည် ဂေါတမမြတ်စွာဘုရား ပွင့်တော်မူခါနီးချိန်ဝယ် စုတေကြသည်။ နန္ဒိယဗြဟ္မာသည် မဂဓရာဇ်တိုင်း မဟာတိတ္ထ ပုဏ္ဏားရွာတွင် ကဿပအနွယ် မင်းဆရာ ကပိလပုဏ္ဏား၏သား ‘ပိပ္ပလိ’ ဖြစ်လာ၏။ ဘဒ္ဒကာဗြဟ္မာသော်ကား၊ မဒ္ဒရာဇ်တိုင်း သာဂလမြို့နေ မင်းဆရာ ကောသိယပုဏ္ဏား၏သမီး ‘ဘဒ္ဒကာပိလာနီ’ ဖြစ်လာခဲ့လေသည်။

နှစ်ဦးလုံးသည် ဗြဟ္မာ့ဘုံမှ လာခဲ့သူများ ဖြစ်သည်နှင့်အညီ အိမ်ရာထောင်မှုကို စိတ်မဝင်စားကြချေ။ သို့တစေ မိဘနှစ်ဘက်က သဘောတူသည်။ ကြားလူတွေကလည်း လှော်လှယ်သည်။ ဤသို့ဖြင့် သူတို့ ထိမ်းမြား လက်ထပ်ဖြစ်ကြငြား မောင်နှမကဲ့သို့သာ နေထိုင်ကြသည်။

နှစ်ဖက်မိဘများနှင့် အခြွေအရံများက သူတို့အား လင်မယားဟု ထင်ကြသည်။ သူတို့ကလည်း ဟန်ဆောင်ကောင်းကြသည်။ စီးပွားဥစ္စာ

ရှာဖွေခန့်ခွဲမှုကို ကျေပွန်စွာဆောင်ရွက်ကြသည်။ နှစ်ဘက်မိဘများ ကွယ်လွန်ချိန်တွင် ပိပ္ပလိနှင့် ဘဒ္ဒကပီလာနီတို့ ပိုင်ဆိုင်သော ပစ္စည်းများမှာ ရွှေငွေအသပြာ ၈၇ ကုဋေနှင့် ရေအောင်သော တစ်ဖက်ဆည်ကန်ကြီး ၆၀၊ ၁၂ယူဇနာ (၁၄၄ မိုင်) ကျယ်ဝန်းသည့် ရွာများဖြင့်ပြည့်နေသော အခိုင်းအစေများ၊သီဟိုဠ်ကျွန်း အနုရာဓမြို့တမျှ ကြီးမားကျယ်ဝန်းသော ဆင်ထိန်းရွာ ၁၄ ရွာ၊ မြင်းထိန်း ၁၄ ရွာတို့ ဖြစ်ပေသည်။

တစ်နေ့တွင် ပိပ္ပလိသည် သူရင်းငှားများခြံရံလျက် လယ်ထဲသို့ဆင်းလာသည်။ ချုံရှင်းသူက ရှင်း၊ မြက်ခုတ်သူက ခုတ်၊ ထွန်သူက ထွန်ယက်ကြသည်။ ထွန်ကြောင်းထဲမှ ပိုးကောင်များကို ကျီးများ၊ စွန်များက ထိုးဆိတ်သတ်ဖြတ်ကြသည်။ ယင်းကို မြင်သော ပိပ္ပလိသည် သတိသံဝေဂရသောစိတ်ဖြင့် အိမ်သို့ ပြန်လာခဲ့၏။

ထိုအချိန်တွင် အိမ်ရှင်မ ဘဒ္ဒကာပိလာနီမှာလည်း နှမ်းများသိမ်းဆည်းသည်ကို ကြီးကြပ်နေ၏။ နှမ်းပိုးများကို ကျီးတွေက ဖမ်းဆီးသတ်ဖြတ်သည်ကို မြင်ရသဖြင့် ဤသို့ တွေးမိ၏။

"ငါတို့ရဲ့ ခန္ဓာကိုယ်ဟာ အလျားတစ်လန်၊ အနံနှစ်ထွာ၊ ထုတစ်ထွာပဲရှိတယ်။သည်ကိုယ်အတွက် ရိက္ခာတစ်ကွမ်းစား(တစ်ပြည်သား)နဲ့ အဝတ်အလွှာ လေးတောင်ရှိရင်ပြီးတယ်။ ဒါပေမယ့် ဇမ္ဗူဒိပ် ပြည့်လုနီးပါး ဥစ္စာဘဏ္ဍာတွေ ရပေမယ့်လည်း လောဘကို မသတ်နိုင်ကြဘူး။ လောဘကို မသတ်နိုင်မယ့်သာ မသတ်နိုင်ကြတာ သေတော့လည်း 'တစ်ခြင်ရွေး'တောင် ပါသွားတာ မဟုတ်ဘူး။ အခု အခိုင်းအစေတွေ လုပ်လို့ ဖြစ်ပေါ်လာတဲ့ မကောင်းမှုဟာ ငါ့ခေါင်းပေါ်ကို လာကျနေပြီ။ သြော်.... သေဆေးကို အသပြာငွေတစ်ထောင်ပေးပြီး ဝယ်တဲ့လူလို ဖြစ်နေပါပေါ့လား"

ထိုသို့ တွေးမိသဖြင့် ပစ္စည်းဥစ္စာများကို ပိပ္ပလိထံ အပ်နှံခဲ့ပြီး၊ ရဟန်းပြုရန် ကြံစည်မိတော့သည်။

သူတို့သည် အိမ်ပြန်ရောက်ပြီးနောက် ထမင်းစားအပြီးတွင် ပိပ္ပလိလုလင်ထံမှ စကားစလာသည်။ စလာသော စကားမှာ သူ ရဟန်းပြု တော့မည့်အကြောင်း ဖြစ်သည်။ ထိုအခါ ဘဒ္ဒကာပိလာနီကလည်း ပြော ရတော့သည်။

"သည်ချမ်းသာတွေကို အရှင့်သားသာ စွန့်ပစ်ချင်တာ မဟုတ် ပါဘူး။ ကျွန်တော်မကလည်း အလျှံပြောင်ပြောင် တောက်လောင်နေတဲ့မီးလို့ ထင်မိပါတယ်။ အခုလို သဘောချင်း တိုက်ဆိုင်နေရင် အတူတူပဲ ရဟန်းပြု ကြပါစို့ အရှင့်သား"

ထို့ကြောင့် သူတို့သည် တစ်ယောက်ဆံပင်ကို တစ်ယောက် တစ်လှည့် ရိတ်ဖြတ်ပေးကြသည်။ အိမ်ဈေးမှ အသင့်ဝယ်ယူထားသော သင်္ကန်းနှင့် သပိတ်ကို လွယ်ကြသည်။ ထို့နောက် "ဤလောကဓာတ်မှာ ရှိတော်မူကြတဲ့ ရဟန္တာအရှင်မြတ်များကို ဆရာအဖြစ်ရည်မှန်းပြီး ရဟန်း ပြုပါတယ်ဘုရား"ဆိုကာ ရဟန်းဝတ်ကြသည်။ အခြွေအရံများ မသိစေရန် ညဥ့်တွင်းချင်း ပြာသာဒ်ပေါ်မှ ဆင်းလာကြသည်။

သို့ရာတွင် သူတို့၏ ပိုင်နက်ဧရိယာမှာ ကျယ်ဝန်းလွန်းသည်။ မိုးစင်စင်လင်းသည်အထိ ရဟန်းနှစ်ပါးမှာ မိမိတို့ပိုင်နက်မှ မလွတ်သေး။ သို့ဖြင့် အခြံအရံများထဲမှ တစ်ယောက်မဟုတ် တစ်ယောက် သိသွားတော့ သည်။ လယ်လုပ်သား ဆင်ထိန်း၊ မြင်းထိန်းနှင့် အခိုင်းအစေများ ဝိုင်းအုံ လာကာ ငိုကြွေးတားဆီးကြသည်။

ထိုအခါ ရဟန်းတော် ပိပ္ပလိက ပြော၏။

"သင်တို့တစ်တွေ ဘယ်လောက်ပဲ ကြိုးစားပြီး ရှာဖွေစုဆောင်း ပေမယ့် ငါတို့ကျွန်အဖြစ်က အနှစ်တစ်ရာ ကြာတာတောင် လွတ်မှာ မဟုတ် ဘူး။ဒါပေမယ့် သင်တို့ကို အခုခွင့်လွှတ်လိုက်ပြီ။ ခေါင်းဆေးပြီး လွတ်လွတ် လပ်လပ် အသက်မွေးကြပေတော့"

ရဟန်းနှစ်ပါးသည် ကျေးကျွန်များ ငိုကြွေးနေဆဲ၌ ခရီးဆက်ခဲ့ကြသည်။ လမ်းဆုံ လမ်းခွတစ်ခုသို့အရောက်တွင် တစ်ယောက် တစ်လမ်းစီ လမ်းခွဲခဲ့ကြသည်။

ထိုအချိန်ဝယ် ဘိက္ခုနီလောက၏ ရှေ့သွားခေါင်းဆောင် မဟာပဇာပတိဂေါတမီ အရှင်မကြီး မပေါ်ပေါက်သေး။ လူ့ဘဝမှာသာ ရှိနေသေးသောကြောင့် ဘဒ္ဒကာပိလာနီမှာ ပရိဗိုဇ်မတို့၏ ကျောင်းသို့ဝင်ကာ ရဟန်းပြုရသည်။

နှစ်အနည်းငယ်အကြာတွင် ဘဒ္ဒကာပိလာနီ ပရိဗိုဇ်မသည် သတင်းကောင်းတစ်ခု ကြားရသည်။ ကြားရသော သတင်းမှာ 'မဟာပဇာပတိ ဂေါတမီ အမှူးပြုသော ဘိက္ခုနီများ ရာဇာဂြိုဟ်ပြည်သို့ ကြွလာတော်မူကြသည်'ဟု ဖြစ်၏။

ဘဒ္ဒကာပိလာနီ ပရိဗိုဇ်မသည် အဖော်အပေါင်းများနှင့်အတူ ဂေါတမီအရှင်မထံရောက်လာကြကာ အမေးပုစ္ဆာများ တင်လာသည်။ အရှင်မကြီးမှာ ရဟန္တာဖြစ်တော်မူပြီးသဖြင့် ပရိဗိုဇ်မ တင်လာသမျှ ပြဿနာများကို ဖြေရှင်းနိုင်သည်။ ထို့နောက် မြတ်စွာဘုရား ဟောကြားတော်မူသော တရားတော်များကို ဆက်လက်ဟောကြားတော်မူ၏။

ဘဒ္ဒကာပိလာနီ ပရိဗိုဇ်မမှာ ပါရမီရင့်သန်ပြီးသူ ဖြစ်သည်နှင့် အညီ 'အနှစ်ပြည့်သောတရား' အဖြစ် ချက်ချင်းသိသည်။ မဟာပဇာပတိ ဂေါတမီထေရီ အရှင်မကြီးထံတွင် မဆိုင်းမတွတောင်းပန်ပြီး ရဟန်းပြုတော့သည်။ ထိုအရှင်မသည် ရဟန်းပြုပြီး မကြာမြင့်မီပင် သင်္ခါရတရားတို့၏ အခြင်းအရာကို လေးဖြာသော မဂ်တို့ဖြင့် ဖြတ်လျက် အရဟတ္တဖိုလ်သို့ ဆိုက်ရောက်တော်မူ၏။

ရဟန္တာဖြစ်တော်မူပြီးသည့် ဘဒ္ဒကာပိလာနီ ထေရီမြတ်လှအရှင်မသည် အဘိညာဉ်တရားတို့ကို မပြတ်ပွားများသည့်အတွက် 'ပုဗ္ဗေနိဝါသ

ညာဏ်' ၌ အလွန်အကဲပင် မြော်မြင်လေ့လာနိုင်ပေသည်။ သို့ဖြစ်သဖြင့် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌ ရှင်တော်မြတ်ဘုရားက ဘိက္ခုနီတို့အား ထိုက်သက်ရာ အရာဌာနများ၌ ချီးမြှင့်တော်မူသောအခါ ဘဒ္ဒကာပိလာနီထေရီသည် 'ပုဗ္ဗေနိဝါသအဘိညာဉ်' တေဒဂ်အရာဖြင့် ချီးမြှင့်ခြင်းကို ခံရတော်မူပေ၏။



## ၁၁။ မဟာဘိညပတ္တ တောဒဂ်ရ ထေရီ

အာဝဇ္ဇန်းတစ်ချက်တည်းဖြင့် ကမ္ဘာတစ်သိန်းအလွန်ရှိသော အသင်္ချေ တိုင်အောင် အောက်မေ့နိုင်သောကြောင့် 'မဟာဘိညပတ္တ' တောဒဂ် ရတော်မူသော ထေရီကား ဘဒ္ဒကစ္စနာ ခေါ် ဘဒ္ဒါကစ္စနာ ယသော်ဓရာ ထေရီမြတ်လှ အရှင်မပေတည်း။

ထိုအရှင်မ၏အကြောင်းမှာ ဤသို့ ဖြစ်၏။

လွန်ခဲ့သော လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်းထက်၌ တဏှင်္ကရာ မြတ်စွာဘုရားနှင့် မေဓင်္ကရာ၊ သရဏင်္ကရာ၊ ဒီပင်္ကရာဟူ၍ မြတ်စွာဘုရား လေးဆူ ပွင့်တော်မူ၏။ နောက်ဆုံးဖြစ်သော ဒီပင်္ကရာ မြတ်စွာဘုရား ပွင့်တော်မူချိန်ဝယ် ယသော်ဓရာထေရီ အလောင်းအလျာသည် ဗြာဟ္မဏ ကညာ 'သုမိတ္တာ' ဖြစ်ခဲ့၏။

တစ်နေ့သောအခါတွင် ဒီပင်္ကရာမြတ်စွာဘုရားသည် သံဃာ

တော်များ ခြံရံလျက် ဆွမ်းခံကြွလာတော်မူ၏။ လူအများသည် ဆွမ်းခဲဖွယ် ဘောဇဉ်သစ်သီး ချိုချဉ်တို့ဖြင့် သူ့ထက်ငါကောင်း လောင်းလှူကြ၏။ သုမိတ္တာ ပုဏ္ဏေးမလေးလည်း ကြာရှစ်ခိုင် လှူဒါန်းရန် အသင့်ပြင်ထား၏။

ထိုသို့ မြတ်စွာဘုရား ကြွလာတော်မူသည့်တိုင်အောင် ရသေ့တစ်ပါးမှာ လမ်းပြင်၍မပြီးသေးပေ။ ပေါက်တူးတစ်လက်၊ ခြင်းတစ်လုံးဖြင့် မြေသယ်ကာ ဗွက်ကို ဖို့နေဆဲရှိသေး၏။ သူဖို့၍ မပြီးမီ မြတ်စွာဘုရား ကြွရောက်တော်မူလာပြီ။

ရသေ့လည်း တွေးတောမနေတော့ဘဲ ရွှံ့ဗွက်ပေါ်တွင် ဝမ်းလျားမှောက်လျက် ကိုယ်ကို ဟံတားအဖြစ် ခင်းပေးလိုက်သည်။

“တပည့်တော်အား သနားသောအားဖြင့် ကျောပေါ်က နင်းလျှောက်ပြီး ကြွတော်မူပါဘုရား”

ရသေ့သည် ဝမ်းလျားမှောက်လျက်က ရှိခိုးလျှောက်ထား၏။ သုမိတ္တာသည် ရသေ့၏ ဗလာကျင်းနေသော လက်ထဲသို့ ကြာငါးခိုင်ထည့်ပေးလိုက်သည်။

ရှင်တော်မြတ်ဘုရားသည် ရသေ့၏ခေါင်းရင်း၌ ရပ်လျက် ဗျာဒိတ်စကား မြွက်ကြားတော်မူ၏။

“ရသေ့ မြတ်စွာ၊ သုမေဓာ။ ဤ သုမိတ္တာဟု သညာပုံ့မွေး မိန်းကလေးသည် သင်၏အကျိုးငှာ တူမျှသောစိတ်၊ တူမျှသော ကိုယ်အမူ၊ တူမျှသောပါရမီ စာဂီအမှုကို ပြုပေလတ္တံ့။ ဂေါတမမြတ်စွာဘုရား ဖြစ်လတ္တံ့သော သင် သုမေဓာ၏ ဆုံးမဟောကြား လေးပါးသစ္စာ ရှစ်ဖြာမဂ္ဂင် ဗောဓိရှင်ခုနစ်ရပ် တရားမြတ်တို့၌ ထက်ကြပ်မသွေ မကွေမကွာ လိုက်ပါတူစံ အမွေခံဖြစ်၍ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာအေးမြစွာ နေရလတ္တံ့။”

သုမေဓာရသေ့သည် အဘိညာဉ်တန်ခိုးဖြင့် လမ်းကို တစ်မုဟုတ်ချင်း ကောင်းမွန်အောင် ပြုပြင်နိုင်သောကြောင့် လမ်းဆိုးကို ငါတို့ပေးခဲ့ရာ

သာမန် ပကတိခွန်အားဖြင့် ပြုပြင်သောကြောင့် မပြီးပါတကား။ မပြီးစီးရုံမက ကိုယ်ကို တံတားခင်းပေးနေပါတကားဟု လူအများ တအံ့တသြ ဖြစ်နေကြ၏။

"ပစ္စည်းဥစ္စာ ရတနာသိန်းထုပ် ဘဏ္ဍာကြုတ်ကို အပတ်တကုတ် စောင့်ရှောက်သကဲ့သို့ ဤသုမိတ္တာသည်လည်း ပါရမီကုသိုလ်တို့ကို အစဉ်စောင့်ရှောက်လတ္တံ့။ ဘုရားဖြစ်လတ္တံ့သော သင် သုမေဓာအား ချစ်ခင်ကြည်သာ ကြင်နာထောက်ထား သနားညှာတာခြင်းရှိသည် ဖြစ်၍ သုံးပါးဆယ်လီ ပါရမီတို့ကို ကူညီ၍ဖြည့်လတ္တံ့"

ဒီပင်္ကရာ မြတ်စွာဘုရားသည် ဗျာဒိတ်စကား ဆက်လက် မြွက်ကြားတော်မူပြီးနောက် သံဃာတော်အပေါင်းခြံရံလျက် ကြွသွားတော်မူလေ၏။

ပုဏ္ဏေးမကလေး သုမိတ္တာသည် ဤဘဝမှ စုတေခဲ့ပြီးနောက် အလောင်းတော် သုမေဓာရသေ့နှင့် ဘဝများစွာတွင် အတူတကွ ကျင်လည်ခဲ့ရ၏။ လေးသင်္ချေကျော်လွန်ပြီးနောက် လွန်ခဲ့သောကမ္ဘာတစ်သိန်းထက်၌ ပဒုမုတ္တရ မြတ်စွာဘုရား ပွင့်တော်မူလာသည့်အခါ သုမိတ္တာသည် ဟံသာဝတီပြည်၌ အမျိုးကောင်းသမီး ဖြစ်လာ၏။

အမျိုးကောင်းသမီးသည် မြတ်စွာဘုရား၏ ကျောင်းတော်သို့သွားကာ တရားတော်ကို နာယူလေ့ရှိသည်။ တစ်နေ့သောအခါတွင် ပဒုမုတ္တရ မြတ်စွာဘုရားသည် တရားသဘင်၌ မိန်းမရဟန်းတစ်ပါးအား ဧတဒဂ်ထားတော်မူ၏။ ထိုအရှင်မချီးမြှင့်ခံရသော ဧတဒဂ်မှာ 'အဘိညာဉ် စွမ်းအားကြီးမားသော အရာ၌ာန' ၌ ဖြစ်ပေ၏။

ဤသည်ကို မြင်ရကြားရသော ထိုအမျိုးကောင်းသမီးမှာ အားကျသောစိတ် ဖြစ်ပေါ်လာသည်။ သို့အတွက် ကုသိုလ်ကောင်းမှု များစွာပြုလုပ်ပြီး မြတ်စွာဘုရားထံတော်၌ ဆုပန်ဆင်ခဲ့သည်။ ပဒုမုတ္တရ မြတ်စွာဘုရား

ကလည်း "ဂေါတမမြတ်စွာဘုရား၏ သာသနာတော်၌ ထိုဆုပြည့်လတ္တံ့." ဟူ၍ 'နိယတဗျာဒိတ်' ခပ်နိပ်ပေးတော်မူခဲ့၏။

အမျိုးကောင်း သမီးသည် ထိုဘဝမှ စုတေခဲ့ပြီးလျှင် ကမ္ဘာ တစ်သိန်း ကာလပတ်လုံး လူ့ပြည်နတ်ရပ်တို့၌ ကျင်လည်ခဲ့ပြီးနောက် ဒေဝ ဒဟမြို့ရှိ ဒေဝဒဟပြည့်ရှင် သုပ္ပဗုဒ္ဓမင်း၏ မိဖုရား အမိတာ၏ ဝမ်းတွင် စွဲနေလာ၏။ ဖွားမြင်သောအချိန်မှာ ကပိလဝတ်ပြည့်ရှင် သုဒ္ဓေါဒနမင်း၏ သားတော် သိဒ္ဓတ္ထမင်းသားနှင့် တစ်ပြိုင်နက်တည်း တစ်ချိန်တည်း ဖြစ်သည်။

ဖွားမြင်လာသော ထိုသတို့သမီး၏ အသားအရေသည် ဇမ္ဗူရာဇ် ရွှေစင်အဆင်းကဲ့သို့ ဝင်းလက်တောက်ပ နေသောကြောင့် 'ဘဒ္ဒကစ္စာနာ' မင်းသမီးဟု အမည်မှည့်ခေါ်သည်။ 'ဘဒ္ဒကဥ္စနာ' အမည်မှာ နောင်မှ ရွေ့ လျော ပြောင်းလွဲသွားသောအမည် ဖြစ်ပေသည်။

ထိုဘဒ္ဒကစ္စာနာ မင်းသမီးအား 'ယသော်ဓရာ'ဟူ၍လည်း ခေါ်ကြ သေး၏။ သက်တူရွယ်တူမှ ချောမောလှပသော ရံရွေတော်များ ပေါများခြင်း နှင့် ကောင်းသတင်းအဖြာဖြာတို့ ပျံ့နှံ့ကျော်စောခြင်း တို့ကြောင့်ဖြစ်သည်။

ထိုဘဒ္ဒကစ္စာနာ ယသော်ဓရာသည် ၁၆ နှစ်အရွယ်တွင် ကပိလ ဝတ္ထုမြို့၌ မဟာမင်းဆွေစိုးမျိုးတို့ ခြံရံလျက် သိဒ္ဓတ္ထမင်းသားနှင့် ထိမ်းမြား မင်္ဂလာ ဆောင်နှင်းသည်။ နွေမိုးဆောင်း ရာသီအလိုက် ရမ္မ၊ သုဘ၊ သုရမ္မ နန်းပြာသာဒ်သုံးဆောင်၍ ပျော်ရွှင်ချမ်းမြေ့စွာ ပြောင်းလွဲစံစားခဲ့သည်။

သို့ရာတွင် ယသော်ဓရာ ဒေဝီ၏ ပျော်ရွှင်မှုမှာ ၁၃ နှစ်သာ ကြာ ရှည်ခဲ့ပါသည်။ အသက် ၂၉ နှစ်အရွယ်တွင် သားတော်ကလေး ရာဟုလာ ကို ဖွားမြင်ခဲ့သည်။ ထိုသားတော်ကလေးကို ဖွားမြင်သောနေ့ သန်းခေါင်ယံ မှာပင် သိဒ္ဓတ္ထမင်းသားသည် ကြီးကျယ်သော ရွှေနန်းစည်းစိမ်ကို စွန့်လွှတ် လျက် တောထွက်ကာ ရဟန်းပြုသွားသောကြောင့် ဖြစ်သည်။

ဒေဝဒဟပြည်ရှိ ခမည်းတော် မယ်တော်တို့က ပြန်လာရန် ခေါ်သော်ငြား ယသော်ဓရာသည် မိဘရပ်ဌာန်သို့ မပြန်ပါ။ မိမိမြတ်နိုးသော လင်သားနှင့်အကြောင်းဆုံခဲ့ရာ ကပိလဝတ္ထုရွှေနန်းတော်တွင်သာ သားတော်ကလေးကို ပြုစုရင်း ဆက်လက်နေထိုင်သည်။

"တောထွက်ပြီး ရဟန်းပြုသွားတဲ့ သိဒ္ဓတ္ထမင်းသားဟာ ဖန်ရည်စွန်းတဲ့ သင်္ကန်းကိုသာ သုံးဆောင်သတဲ့"

ယသော်ဓရာလည်း ထိုသတင်းကို ကြားချိန်မှစပြီး ဖြူနီကြောင်ကျား လှပသောအဝတ်များကို ပယ်သည်။ ဖန်ရည်ဆိုးသောအဝတ်ကိုသာ ဝတ်ဆင်သည်။

"သိဒ္ဓတ္ထ ရဟန်းတော်ဟာ ညစာ မစားဘူးတဲ့"

ထိုသတင်းကို ကြားသော ယသော်ဓရာသည်လည်း နေ့လွဲညစာ မစားတော့ချေ။ ဤသို့ဖြင့် ယသော်ဓရာဒေဝီသည် သူမြတ်နိုးသော သိဒ္ဓတ္ထရဟန်းနှင့် ထပ်တူဖြစ်အောင် တုပကျင့်ဆောင်ခဲ့ရာ ကုတင်ညောင်စောင်းတွင် မအိပ်စက်သူ၊ ပန်းမပန်၊ နံ့သာမလိမ်းသူ ဖြစ်လာခဲ့လေ၏။

ဤသို့ဖြင့် နေလာခဲ့ရာ သားတော်ကလေး ရာဟုလာမှာ တစ်နှစ်ထက်တစ်နှစ် ကြီးပြင်းလာပြီ။ ထိုကလေး ၇ နှစ်သားအရွယ်တွင်ကား၊ သိဒ္ဓတ္ထရဟန်းသည် လောကသုံးပါး၌ အတုမရှိသော မြတ်စွာဘုရားအဖြစ်ဖြင့် ကပိလဝတ်ရွှေနန်းတော်သို့ သံဃာတော်များခြံရံလျက် ကြွရောက်တော်မူလာသည်။

ဆွေတော်မျိုးတော် သာကီဝင်မင်းအပေါင်းတို့က မြတ်စွာဘုရားအား သောင်းသောင်းဖျဖျကြိုဆိုဖူးမြော်ကြငြား ယသော်ဓရာဒေဝီကား စံရာတိုက်ခန်းမှ ထွက်မလာခဲ့ပါ။ နောက်တစ်နေ့တွင် သံဃာတော်အပေါင်းခြံရံလျက် ရှင်တော်မြတ်ဘုရားသည် အိမ်စဉ်လည်၍ ဆွမ်းခံတော်မူစဉ် ခမည်းတော်မင်းကြီးက လိုက်လံတားမြစ်ကာ နန်းတော်ထက်သို့ ပင့်ဆောင်လာသည်။

"သခင်မ ဘုရား။ အရှင်မြတ်ကို သွားပြီး မဖူးမြော်ဖူးလား"

ရံရွေတော်များက သတင်းပေးငြား၊ ယသော်ဓရာသည် သူ၏ တိုက်ခန်းမှ မထွက်ပါ။

"မောင်တော်ဘုရားမှာ ငါ့ကျေးဇူးတွေရှိတယ်။ ဒါတွေကို အသိအမှတ်ပြုရင် ငါ့ဆီကို မောင်တော်မြတ် ကြွလာတော်မူလိမ့်မယ်"

ယသော်ဓရာသည် ကိုယ်တော်မြတ်အတွက် ရွှေသလွန်ပေါ်တွင် ကောင်းမြတ်သော အဝတ်တွေ ခင်းထားသည်။ ထွက်၍ကား မဖူးချေ။ သို့သော် ရှင်တော်မြတ်ဘုရားသည် ယသော်ဓရာဒေဝီ မျှော်လင့်သည့်အတိုင်း ကြွလာတော်မူသည်။ လကျာ်တော်ရံ၊ လက်ဝဲတော်ရံ အဂ္ဂသာဝက နှစ်ပါးသာ အခြံအရံပါသည်။ ခမည်းတော်ဘုရားလည်း နောက်တော်ပါးက သပိတ်ပိုက်လျက် ပါလာသည်။

မိဖုရားသည် မြတ်စွာဘုရား၏ ခြေတော်ရင်း၌ ဝပ်စင်းရှိခိုး၏။ ထို့နောက် မျက်ရည်တတွေတွေကျလျက် မြတ်စွာဘုရား၏ ခြေတော်အစုံကို ကတုန်ကယင် ဆုပ်ကိုင်ပွတ်သပ်ပြီး အထပ်ထပ်နမ်း၏။ "ယသော်ဓရာမင်းသမီးသည် သူ့သဘောကျ ရှိခိုးပူဇော်ပါစေ။ မည်သူမျှ မတားမြစ်ကြနှင့်"ဟု ရှင်တော်မြတ်ဘုရားက ကြိုတင်မှာကြားထားသောကြောင့် ယသော်ဓရာအား တားမြစ်သူ မရှိချေ။

ထိုသို့ ဆောင်ရွက်လိုက်ရသောကြောင့် မိဖုရားကြီး၏ရင်တွင် နှစ်ပေါင်းများစွာ တောက်လောင်နေခဲ့သော အပူမီးသည် ငြိမ်း၏။ သို့ရာတွင် လောကီလူသားတို့ မနှစ်မြို့သော အရာများကား ဆက်ကာ ဆက်ကာ ဖြစ်ပေါ်လာ၏။ ယင်းတို့မှာ နန္ဒမင်းသားနှင့် သားတော်ရာဟုလာတို့ သာသနာတော်တွင်းသို့ ရောက်ရှိသွားခြင်း၊ ခမည်းတော် သုဒ္ဓေါဒနမင်းကြီး နတ်ရွာစံခြင်းနှင့် မဟာပဇာပတိဂေါတမီ မိဖုရား ရဟန်းဝတ်သွားခြင်းတို့ ဖြစ်သည်။

ထိုအခါ ယသော်ဓရာဒေဝီသည် ကပိလဝတ် နန်းရိုးအတွက် စိုးရိမ်စိတ် ဝင်လာ၏။ သို့ကြောင့် အခြံအရံများစွာဖြင့် ရာဇဂြိုဟ်ပြည် ဝေဠုဝန် ကျောင်းတော်သို့ လာခဲ့၏။ မြတ်စွာဘုရား ရှေ့တော်သို့အရောက် တွင် ဤသို့ လျှောက်ထား၏။

"ဘုန်းတော်ကြီးလှပါတဲ့ မြတ်စွာဘုရား။ ကိုယ်တော်ရဲ့ အစီး အပွားကိုချည်း မကျင့်ဆောင်ပါနဲ့ဘုရား။ ဆွေတော်မျိုးတော်တို့ရဲ့ အစီး အပွားကိုလည်း ကျင့်တော်မူပါဦး။အခုအခါ တပည့်တော်မတို့ရဲ့ကပိလဝတ် ပြည်ဟာ ရောင်ခြည်မဲ့တဲ့ ကျောက်၊ အတောက်အခိုးမဲ့တဲ့ မီးလို ထီးဆောင်း နန်းနေသူဦးပြီး၊ တစ်ပြည်လုံး ကျက်သရေမဲ့နေပါပြီဘုရား။ ဒါကြောင့် တပည့်တော်မရဲ့သား ရာဟုလာကို သာသနာက ထွက်ခွင့်ပြုပြီး ထီးနန်းကို ဆက်ခံအုပ်စိုးခိုင်းမှသာ ဆွေတော်ရှစ်သောင်း မျိုးတော်အပေါင်းနဲ့ ပြည်သူ ပြည်သားတို့ရဲ့ ကိုးစားမှီခိုရာ ဖြစ်ပါတော့မယ်ဘုရား"

"အချင်း ဘဒ္ဒကစ္စာနာ။ ငါဘုရားကား ကိုယ်တော်၏ အစီးအပွား ကိုသာ ကျင့်တော်မမူ။ ဆွေတော်မျိုးတော်တို့၏ အကျိုးစီးပွားကိုသာလည်း ကျင့်တော်မမူ။ အလုံးစုံသော ဘုံသုံးပါး၌ ဖြစ်ကုန်သော လူနတ်ဗြဟ္မာ သတ္တဝါအပေါင်းတို့ကို ရင်သွေး ရာဟုလာနှင့်မခြား သနားစုံမက်တော်မူ သဖြင့် ထိုသူတို့၏ အစီးအပွားကိုသာ ငါကျင့်တော်မူ၏။

မြတ်စွာဘုရားသည် ထိုသို့ မိန့်ကြားတော်မူပြီးနောက် ယသော် ဓရာ မိဖုရားအား တရားပြသ ဆုံးမတော်မူသည်။

"အချင်း ဘဒ္ဒကစ္စာနာ။ သင် လျှောက်ထားသော အရေးကား၊ သားတော်ရာဟုလာ၏ ချမ်းသာစီးပွားအကြောင်းလည်း မဟုတ်။ သင်၏ ချမ်းသာစီးပွားကြောင့်လည်း မဟုတ်။ ဆွေတော်ရှစ်သောင်း မျိုးတော်ပေါင်း တို့၏ အစီးအပွားလည်း မဟုတ်ချေ။ ယုတ်ညံ့စွာသော ဤလောကီစည်းစိမ် ကို ခံစံသဖြင့် သံသရာဝဋ်၌ ဆီပွတ်ယန္တရားကဲ့သို့ သွားလာ ကျင်လည်ရ

ခြင်း၏ အကြောင်းသာလျှင် ဖြစ်ချေ၏။

ဆက်လက်၍ ရှင်တော်မြတ်ဘုရားသည် လောကီအာရုံ ကာမဂုဏ်၏ အပြစ်ကို ဟောကြားတော်မူပြန်သည်။

"မင်း၏ချမ်းသာ မည်သည်ကား၊ ကာမဂုဏ်တည်းဟူသော ရန်သူငါးပါးတို့သည် ချောက်ချားတုန်လှုပ်စေအပ်သည်ဖြစ်၍ ဒေါမနဿ ပဋိဃအဘိဇ္ဈာ ဗျာပါဒ စသော သူရဲသူခက်တို့သည် ခြိမ်းမဲထောင်လွှားသဖြင့် ပါဏာတိပါတ စသော ဒုစရိုက်တရားတို့သည် ပွားစီးစည်ပင် လာကုန်၏။ ထိုသို့ ပွားစီးစည်ပင်သောကြောင့် မျက်မြင်ဘဝ၌ နာနာဘာဝ (ရှင်ကွဲ ကွဲခြင်း)၊ ဝိနာဘာဝ (သေကွဲ ကွဲခြင်း)၊ အညထာဘာဝ (ဖောက်ပြန်ခြင်း)၊ ဘယဘေရ ဝုပ္ပါဒ (ကြောက်မက်ဖွယ်ဘေးနှင့် ကြုံတွေ့ရခြင်း)၊ အလာဘ (လာဘ် မရခြင်း) စသော ဒုက္ခတရားတို့သည် များစွာ ဖြစ်လာကုန်၏။ စုတေမြောက်သည့် နောက်နောက်သော ဘဝတို့၌လည်း အပါယဒုက္ခကို ခံရခြင်း၏ အကြောင်းဖြစ်၏"

ရှင်တော်မြတ်ဘုရားက ထိုဆင်းရဲတို့၏ ကင်းရာအရပ်ကို ညွှန်ပြတော်မူသည်မှာ ဤသို့ ဖြစ်ပေသည်။

"ထို့ကြောင့် ဤလူ့ဘုံ၌ ကာမဂုဏ်ဟူသော အမှိုက်ကို စုဆောင်းပြီး ကိလေသာဟူသော မီးကိုမွေးသဖြင့် တခြွေခြွေ တပြောင်ပြောင် တောက်လောင်ပျက်စီးခြင်း အကျိုးသာလျှင် ဖြစ်ရာသည် မဟုတ်လော။ သံသရာက ပါရမီပြည့်ဖက်ဖြစ်သော ငါဘုရားနှင့်လည်းကောင်း၊ သား ရာဟုလာ၊ မဟာဆွေတော်မျိုးတော်တို့နှင့်လည်းကောင်း၊ စုံပေါင်းမကွာ ခေမာဘူမိ သီရိပဝရ ပြည်မနိဗ္ဗာန်သို့ လျင်မြန်စွာလိုက်ရအောင် ဤ လူ့ဘောင်မှ ခွာသန်း၍ ငါ၏ သာသနာ၌ ရဟန်းပြုလေလော့"

ဤသို့လျှင် ဆန်းကြယ်စွာသော ကာမာဒီနဝနေက္ခမနိသံသ ဓမ္မကထာကို ကြားနာရသော ဘဒ္ဒကစ္စာနာမိဖုရားသည် လေးပါးသော

သစ္စာကို မြင်သဖြင့် မြတ်စွာဘုရားအား ညွတ်တွားပူဇော်ခဲ့ပြီး ရေ့တော်မှ ထွက်ခွာလာသည်။ သို့သော် ရွှေနန်းတော်သို့ ပြန်ရန်မဟုတ်။ ဇနပဒ ကလျာဏီ ထေရီ အရှင်မကြီး၏ ကျောင်းတော်သို့ ဖြစ်သည်။

ဘဒ္ဒကစ္စာနာမိဖုရားသည် အခြံအရံ မောင်းမများနှင့်အတူ ဇနပဒ ကလျာဏီထေရီထံတွင် ရဟန်းပြုကြသည်။ ရဟန်းပြုပြီးချိန်မှ အစပြုပြီး ဘဒ္ဒကစ္စာနာထေရီသည် ကမ္မဋ္ဌာန်း ဝိပဿနာကို လွန်စွာအားထုတ်သည်။ သို့အတွက် မကြာမြင့်မီပင် ပဋိသမ္ဘိဒါလေးပါး၊ အဘိညာဉ်ခြောက်ပါး၊ သမာပတ်ရှစ်ပါး တရားအထူးတို့နှင့်တကွ အရဟတ္တဖိုလ်သို့ ဆိုက်ရောက် တော်မူလေသည်။

ဘဒ္ဒကစ္စာနာ ထေရီအရှင်မသည် ပုဗ္ဗေနိဝါသ ဉာဏ်အရာ၌ တစ်ပါးသောရဟန္တာတို့ထက် ကဲလွန်စွာမြင်နိုင်သည်။ ငါတို့ဆရာ ဂေါတမ မြတ်စွာဘုရား၏ သာသနာတော်၌ အသင်္ချေသော ကပ်ကမ္ဘာကာလ၌ ဖြစ် သော ခန္ဓာအစဉ်ကို သိမြင်နိုင်သူ လေးပါးသာရှိသည်။ ၎င်းတို့မှာ အဂ္ဂ သာဝကနှစ်ပါး၊ အရှင်ဗာကုလနှင့် ဘဒ္ဒကစ္စာနာထေရီတို့ ဖြစ်သည်။ အခြား ရဟန္တာများမှာ လွန်စွာသော အပိုင်းအခြားအားဖြင့် ကမ္ဘာတစ်သိန်းသာ မြင်နိုင်ကြသည်။

ထိုဘဒ္ဒကစ္စာနာ ယသော်ဓရာ ထေရီအရှင်မကြီးသည် ပဋိလောမ အားဖြင့် ပြန်၍ရေသော်၊ တစ်သင်္ချေ၊ နှစ်သင်္ချေ၊ လေးသင်္ချေ၊ တစ်ဆယ့် ခြောက်သင်္ချေသော ကာလတို့၌ ဖြစ်ဖြစ်သမျှသော ဘဝအစုံကိုလည်း တစ်ခု သော အာဝဇ္ဇန်းရှိသည့် ဝီထိစိတ်အစဉ်ဖြင့် တစ်ပြိုင်နက်တည်း မြင်နိုင်တော် မူ၏။ သို့ဖြစ်သဖြင့် မြတ်စွာဘုရားသည် ဤထေရီ အရှင်မကြီးအား 'မဟာ **ဘိညတေဒဂ်**' ထားတော်မူခြင်းဖြစ်၏။

သာသနာတော်၌ လွန်စွာထင်ရှားကာ အခြံအရံ ဘိက္ခုနီတစ်သိန်း

ရှိ၍ လာဘ်လာဘ ပေါများလှသော ဘဒ္ဒကစ္စာနာ ယသော်ဓရာ ရဟန္တာ အရှင်မကြီးသည် သက်တော် ၇၈ နှစ်တွင် ပရိနိဗ္ဗာန် စံဝင်တော်မူသည်။



## ၁၂။ လူခ စိဝရဓရ ဧတဒဂ်ရ အရှင်မ

ခေါင်းပါးသောသင်္ကန်းကို ဆောင်ကုန်သည့် ငါ၏သာဝိကာ ဘိက္ခုနီတို့တွင် အမြတ်ဆုံးဖြစ်၏ဟူ၍ ဧတဒဂ်ရတော်မူသော အရှင်မကား 'ကိသာ ဂေါတမီ' ထေရီ အရှင်မကြီးပေတည်း။

ထိုကိသာဂေါတမီ ထေရီလောင်းလျာသည် လွန်ခဲ့သောကမ္ဘာ တစ်သိန်းထက်၌ ပဒုမုတ္တရ မြတ်စွာဘုရား ပွင့်တော်မူချိန်ဝယ် ဟံသာဝတီ ပြည်၌ မထင်ရှားသော အမျိုးသမီး ဖြစ်ခဲ့သည်။ သူသည် မြတ်စွာဘုရား၏ တရားတော်ကို နာကြားအပြီး၌ သရဏဂုံ တည်ခဲ့သည်။

တစ်နေ့သောအခါတွင် ပဒုမုတ္တရ မြတ်စွာဘုရားသည် ခေါင်းပါး သောသင်္ကန်းကို သုံးဆောင်သည့် မိန်းမရဟန်းတစ်ပါးအား တရားသဘင်၌ ဧတဒဂ်ထားတော်မူပေ၏။ ဤသည်ကို ကြားမြင်ရသော အထက်ပါ အမျိုး ကောင်းသမီးသည် အလွန်နှစ်သက် ကြည်ညိုလှသဖြင့် တတ်စွမ်းသမျှသော

အလှူကို ပြုလုပ်ပြီးလျှင် 'လူခ စီဝရမရ' တေဒဂ်ရ ဘိက္ခုနီအဖြစ်ကို ဆုတောင်းသည်။

ပဒုမုတ္တရ မြတ်စွာဘုရားသည် ထိုသူဆင်းရဲမ တောင်းသောဆုပြည့်ဝအံ့သည်ကို မြင်တော်မူသဖြင့် ဗျာဒိတ်စကားကို ဤသို့ မိန့်ကြားတော်မူ၏။

"ဒါယိကာမ၊ ဤကမ္ဘာမှ နောက်ကမ္ဘာတစ်သိန်းသို့ ရောက်လတ်သော် ဩက္ကာကမင်းမျိုးဖြစ်သော ဂေါတမမြတ်စွာဘုရား ပွင့်တော်မူလိမ့်မည်။ ထိုအခါ သင်သည် ကိသာဂေါတမီဟူသောအမည်ဖြင့် ရဟန္တာမဖြစ်၍ လူခ စီဝရမရ တေဒဂ်ကို ရလတ္တံ့."

ထိုသူဆင်းရဲမသည် ထိုဘဝမှ စုတေသောအခါ တာဝတိံသာနတ်ပြည်၌ စံစားခဲ့ပြီးနောက် ဤဘဒ္ဒကမ္ဘာအတွင်း၌ ကဿပမြတ်စွာဘုရား၏ ရွှေလက်ထက်တော်ဝယ် ဗာရာဏသီပြည် ကိကီမင်းကြီး၏ သမီးတော်ဖြစ်လာသည်။ မင်းကြီးမှာ သမီးတော်ခုနစ်ပါးရှိရာ သူသည် ပဉ္စမသမီးတော် 'ဓမ္မာ' မင်းသမီး ဖြစ်ပေသည်။

ညီအစ်မ ခုနစ်ဖော်လုံးသည် သာသနာ့ဝန်ထမ်း ရှင်ရဟန်း ပြုလိုကြ၏။ ခမည်းတော် မယ်တော်တို့က ခွင့်မပြု။ သို့ကြောင့် အနှစ်နှစ်သောင်းပတ်လုံး 'ကုမာရီ ဗြဟ္မစာရီ' အကျင့်ကို ကျင့်လျက် ဒါန၊ သီလ၊ ဘာဝနာတို့ကို ပြုကျင့် ဆည်းပူးကာသာ နေထိုင်ခဲ့ကြရ၏။

ဓမ္မာမင်းသမီးသည် ထိုဘဝမှစုတေခဲ့သော် တာဝတိံသာနတ်ပြည်၌ ဖြစ်၏။ ထိုဘဝမှစုတေကာ သံသရာ၌ ဆက်လက်ကျင်လည်ခဲ့ပြန်ရာ၊ ဤနောက်ဆုံးဘဝတွင် သာဝတ္ထိပြည်၌ သူဌေးသမီး ဖြစ်လာ၏။ မိဘမျိုးရိုးမှာ ဂေါတမအနွယ် ဖြစ်သောကြောင့် သူ့အား 'ဂေါတမီ'ဟု အမည်ပေး၏။ ဂေါတမီသည် အလွန်ပိန်လှီရကား အရပ်က 'ပိန်မ' သို့မဟုတ် 'ကိသာဂေါတမီ' ဟူ၍ ခေါ်တွင်ကြချေ၏။

ပိန်မကား စင်စစ်မူ ဘုန်းရှင်ကံရှင် ဖြစ်၏။ သို့ရာတွင် တစ်နှစ်ထက်တစ်နှစ် စီးပွားရေးကျဆင်းနေသော မိဘတို့၏ ကံနိမ့်ပါးမှုကို ကိသာဂေါတမီ၏ကံက မဖုံးလွှမ်းနိုင်ပေ။ သို့ကြောင့် မိဘ၏အရိပ်၌ ဆင်းရဲစွာနေထိုင်ရ၏။

ထိုအတောအတွင်း၌ သာဝတ္ထိ ရွှေမြို့တော်အတွင်းတွင် ထူးဆန်းသော အကြောင်းကြီးတစ်ရပ် ဖြစ်ပွားခဲ့၏။ ယင်းမှ ပစ္စည်းဥစ္စာကြွယ်ဝသော သူဌေးကြီးတစ်ယောက်၏ အတွင်းပစ္စည်းဖြစ်သော ရွှေ စိန် ကျောက်သံပတ္တမြားအားလုံး မီးသွေးခဲချည်း ဖြစ်ကုန်ခြင်းပေတည်း။

ပို၍ထူးဆန်းသည်မှာ မြေ၌ သူဌေးကြီး မြှုပ်နှံထားသမျှ ရတနာများလည်း မီးသွေးခဲ ဖြစ်ကုန်ခြင်းပေတည်း။

လယ်ယာ ကျွဲနွား ဆင်မြင်းစသည့် မြေပေါ်ဥစ္စာများ ပျက်စီးဆုံးရှုံးသောကြောင့် တုန်လှုပ်နေသော သူဌေးသည် မြေမြှုပ်ဥစ္စာ ကုဋေရှစ်ဆယ်ဖိုးမျှပါ မီးသွေးဖြစ်ကုန်သောအခါ စိတ်မထိန်းနိုင်တော့ဘဲ အိပ်ရာထဲ၌ လဲလေ၏။

ထိုသတင်းသည် သာဝတ္ထိ မြို့သူမြို့သားများအတွက် ပြော၍မပြီးသော သတင်းဆန်းကြီး ဖြစ်နေသည်။ စုတ်တသပ်သပ် ဖြစ်ကြရသည်။ မိတ်ကောင်းဆွေကောင်းများသည် မယုံကြည်စိတ်ဖြင့် သတင်းလာမေးကြသည်။ ထိုသို့သတင်းမေးသူများတွင် ပညာရှိသူကြွယ်တစ်ယောက်ပါသည်။

ထိုသူကြွယ်က 'ကံမှောက်' ခြင်းဖြစ်သဖြင့် မှောက်နေသောကံကို ပြန်ပြီးတည့်ရန် အကြံပေးသည်။ ဤသည်မှာ မီးသွေးခဲဖြစ်သွားသော ရတနာများကို ဈေးတွင် ချရောင်းရန်ပေတည်း။

ဘဝပျက်သူဌေးသည် ဟုတ်လိုဟုတ်ငြားသဘောဖြင့် ရတနာ မီးသွေးခဲများကို ဈေးတွင် ဖြန့်ကျင်းချထားသည်။ သူဌေး မီးသွေးရောင်းနေသည်ဟု ပြုံးစေ့စေ့ ကြည့်သွားကြသည်။

ရက်ပေါင်းများစွာကြာသောတစ်နေ့တွင် ဝါးခြမ်းပြားကို အဝတ်ပတ်ထားသည်ထင်ရသော မိန်းမပျိုတစ်ယောက် မီးသွေးပြင်ရှေ့တွင် လာရပ်သည်။

"ကျောက်မျက်ရတနာတွေကို အခုလို ပစ်စလက်ခတ် ချရောင်းတာ သည်တစ်ခါပဲ တွေ့ဖူးတယ်"

သူဌေးကြီးအတွက် သာယာသော၊ မင်္ဂလာရှိသော အသံပေတည်း။ သို့ဖြစ်သဖြင့် ထိုမိန်းမပျို၏လက်ဖြင့် ရှိရှိသမျှ မီးသွေးခဲတွေကို အကိုင်ခိုင်းရာ မီးသွေးခဲအသွင်ပျောက်ပြီး မူရင်းအသွင်သို့ ပြန်လည်ရောက်ရှိကုန်တော့သည်။

သူဌေးကြီး လက်မနှေးပါ။ သူဌေးကြီး၏သမီး ဘုန်းရှင်ကံရှင်ထိုမိန်းမပျိုကို အလျင်အမြန် သားနှင့် ပေးစားခြင်းဖြင့် 'ချွေးမဖမ်း' လိုက်တော့သည်။ သူဆင်းရဲဘဝမှ သူဌေးအဖြစ်သို့ တစ်မုဟုတ်ချင်း ပြန်လည်ရောက်ရှိအောင် ကယ်တင်ပေးသော ဘုန်းရှင်ကံရှင် ချွေးမအား တစ်အိမ်လုံးက ဖူးဖူးမှုတ်ကြသည်။ သို့ဖြစ်ငြား နှစ်အနည်းငယ် ကြာလာသောအခါ ကိသာဂေါတမီ မျက်နှာငယ်ရသည်။ အကြောင်းသော်ကား သားမခိုသောအဖိုမ ဖြစ်နေသဖြင့်တည်း။

ယောက္ခမတွေက မြေးချီချင်သည်။ ယောက်မတွေ၊ ခဲအိုတွေ၊ မတ်တွေက တူသားအလိုရှိသည်။ ကိသာဂေါတမီက မွေးမပေးနိုင်။ သို့ဖြင့်သူသည် လင့်မိသားစုတွင် လူစဉ်မမီသူအဖြစ် မျက်နှာငယ်လာရသည်။ မည်သူကမျှ နှိမ့်ချစကား၊ ပစ်ပယ်စကား မဆိုပါဘဲလျက် သိမ်ငယ်လာသည်။

သို့ရာတွင် မမျှော်လင့်သော နေ့တစ်နေ့၌ ကိသာဂေါတမီတွင် သားသမီးရှိလာသည်။ သိမ်ငယ်စိတ်များလည်း အလိုအလျောက် ပျောက်သွားသည်။ မိသားစုကလည်း အရေးတယူ သိသိသာသာ ပြုလာကြသည်။

သားယောကျ်ားကလေးတစ်ယောက်ကို ကိသာဂေါတမီ ဖွားမြင်ပေးလိုက်နိုင်သောနေ့တွင်ကား ရှေးနည်းတူ ဖူးဖူးမှုတ်ခံဘဝသို့ ကိသာဂေါတမီ ပြန်လည် ရောက်ရှိလာလေ၏။

နွားမတန်း သားမခင် ဟူသည့်စကားကို ဖျက်လိုက်လျှင် မိခင်တိုင်းသည် သားသမီးကို ချစ်သည်ဟု အဓိပ္ပာယ်ရ၏။ ကိသာဂေါတမီမှာကား သူ၏သားကို ချစ်သည်ဆိုရုံဖြင့် မလုံလောက်ပါ။ ချစ်လည်း ချစ်သည်၊ ခင်လည်း ခင်တွယ်သည်။ ထို့ပြင် သားကလေးအား ချစ်ခင်ရုံမျှမက အသက်ထက်မကလည်း မြတ်နိုးသေးသည်။ သည်သားကလေးကြောင့်သာ သည်မိသားစု၌ ကိသာဂေါတမီ ပြန်လည်ပြီး လူရာဝင်လာနိုင်ခဲ့သည် မဟုတ်ပါလော။

သို့သော် သားကလေးသည် မိသားစုကြီး၏ မျက်လုံးသဖွယ်၊ အသက်သဖွယ်၊ လည်ဆွဲသဖွယ် ရှိနေရာက ရောဂါတစ်စုံတစ်ရာကြောင့် ရုတ်တရက်ကွယ်လွန်သွားရှာသည်။မိသားစုကြီးမှာ ယူကျုံးမရဖြစ်ကြရငြား ကိသဂေါတမီကား အရူးတစ်ပိုင်း ဖြစ်သွားတော့သည်။

ကလေးကို သင်္ဂြိုဟ်ရန် ပြင်ဆင်နေကြသူများ၏ လက်ထဲမှ ကိသာဂေါတမီ လုယူထွက်ပြေးသည်။

သားသေဆုံး၍ ယူကျုံးမရဖြစ်ပြီး ရှုပ်ပွနေသောဆံပင်၊ ချိုင့်ခွက်သော မျက်တွင်း၊ မျက်ရည်စီးကြောင်းထင်သော ပါးပြင်၊ ဖရိုဖရဲဖြစ်နေသော အဝတ်များနှင့် ကိသာဂေါတမီသည် လွတ်ရာလွတ်ကင်းသည့် ချောင်ကောင်းကောင်းသို့ရောက်မှ အမောဖြေနိုင်၏။ ထိုအခါတွင် နို့ရည် တပေါက်ပေါက်ကျလျက် သက်လာပြီ။

ကိသာဂေါတမီသည် အသေကောင်ကလေးကို ပါးချင်းအပ်ထားရာက နို့တိုက်၏။ သူသေက အဘယ်မှာ နို့စို့ပါမည်နည်း။

"ဩော် ငါ့သားကလေး သေရှာပါပေါ့လား"

သို့ကြောင့် ကိသာဂေါတမီသည် တွေ့သမျှ မြင်သမျှ လူတိုင်းထံသို့ ပြေးလွှား တောင်းပန်သည်။ အတောင်းပန်ခံရသူတိုင်းက သေသူကို ရှင်အောင် လုပ်၍မရနိုင်ကြောင်း၊ မိသားစုထဲတွင် လူမသေဖူးသော မိသားစု မရှိကြောင်း၊ လူမသေဖူးသော မြို့ ရွာ ဇနပုဒ်ဟူ၍လည်း မရှိကြောင်း ရှင်းလင်းပြောကြား နားချကြငြား ကိသာဂေါတမီ နားမဝင်။

သို့ကြောင့် သားသားနားနား လူတစ်ယောက်အား ရှေ့မှ ပိတ်ဆီးထား၏။

"ကျွန်မသားလေး ငိုလည်းမငို၊ နို့လည်း မစို့တော့ဘူး။ သားလေးကို တစ်ဆိတ်လောက် ဆေးကုပေးပါလားရှင်"

ထိုသူသည် ကိသာဂေါတမီအား တစ်ချက်ကြည့်ရုံဖြင့် အရူးတစ်ပိုင်း ဖြစ်နေပါတကားဟု သိသည်။ သိသောကြောင့် အလိုက်သင့်ပြော၏။

"ရပါတယ်၊ လွယ်လွယ်ကလေး"

ချဉ်းကပ်မိသူတိုင်းနှင့် မတူသောစကားကို ကြားရသဖြင့် ကိသာဂေါတမီမှာ အားတက်၏။

"ဘယ်လို လွယ်တာတုန်းဟင်"

"ဇေတဝန်ကျောင်းတော်မှာ သီတင်းသုံးနေတော်မူတဲ့ မြတ်စွာဘုရားဟာ အကျော်ဒေးယျ သမားတော်ကြီးပေါ့။ သူ့ဆီကိုသာ သွားပေတော့"

ကိသာဂေါတမီသည် လူသေကောင်ကို ပွေ့လျက် ဇေတဝန်ကျောင်းတော်သို့ ပြေးလာခဲ့သည်။ ထိုအချိန်တွင် ရှင်တော်မြတ်ဘုရားသည် ပရိသတ်အား တရားဟောကြားတော်မူလျက် ရှိသည်။ ဂေါတမီမှာ သားဖေကပ်နေရကား မင်းသော၊ ပုဏ္ဏားသော၊ သူဌေးသူကြွယ်သော မသိ၊ အတင်းတိုးဝှေ့ ဝင်လာသည်။ မြတ်စွာဘုရား၏ ရှေ့တော်တွင် ဒူးတုတ်ထိုင်သည်။

"မြတ်စွာဘုရား။ တပည့်တော်မရဲ့ သားကလေးကို အသက်ပြန်ရှင်အောင် ဆေးကုပေးပါဘုရား"

ရှင်တော်မြတ်ဘုရားသည် ကိသာဂေါတမီ၏ ပါရမီရင့်မာမှုကို သိတော်မူသဖြင့် ဤသို့ မိန့်တော်မူ၏။

"ချစ်သမီးဂေါတမီ၊ သင်၏သားကို ဆေးဝါးကုသရန်အတွက် လူ မသေဖူးသောသူ၏ အိမ်တော်မှ မုန်ညင်းစေ့ကို ရအောင် ရှာဖွေခဲ့လော့"

ကိသာဂေါတမီ အလွန်ဝမ်းသာသည်။

မြတ်စွာဘုရား၏ ကျောင်းတော်မှ ကိသာဂေါတမီ အပြေးထွက်လာသည်။

"သည်အိမ်ဟာ လူမသေဖူးသေးတဲ့ အိမ်ထောင်စုပင် ဟုတ်ပါသလား။ ဟုတ်ရင် မုန်ညင်းစေ့ နည်းနည်းပေးပါ။ သားကလေးကို ဆေးကုချင်လို့ပါ"

အိမ်ရှင်က ခေါင်းယမ်းပြသည်။ အမေနှင့်အဖေ သေဖူးသောအိမ်ထောင် ဖြစ်သောကြောင့်ပင်။

နောက်တစ်အိမ်ကလည်း ခေါင်းခါသည်။ အဒေါ်သေသည်မှာ မကြာသေးသော မိသားစုဖြစ်သည်။ ဤသို့လျှင် သားသေသူ၊ မယားသေသူ၊ ဦးကြီးသေသူ၊ ဦးလေးသေသူ စသည်ဖြင့် တစ်ယောက်မဟုတ်တစ်ယောက် သေသောအိမ်များချည်း ဖြစ်နေသည်။

တစ်အိမ်ကမူ၊

"ဂေါတမီရယ်။ ငါတို့ အိမ်ထောင်စုတွေ၊ မိသားစုတွေမှ တစ်ယောက်ယောက် သေဖူးတဲ့ အိမ်တွေချည်းပါပဲကွယ်။ သေတဲ့လူတွေ ရေတောင် မရေနိုင်ဘူး"

ကိသာဂေါတမီ၏ သားငယ်သေဆုံးမှုကြောင့် တောက်လောင်ထကြွနေသော သောကမီးတောက်ထဲသို့ သတိဖြင့် ဆင်ခြင်နိုင်သော

စိတ်အေးသည် တဖြည်းဖြည်း ဝင်ရောက်လာသည်။ စိတ်သည် တစ်စတစ်စ တည်ငြိမ်စပြုလာသည်။

"တစ်မြို့လုံးမှာရှိတဲ့ ရှိရှိသမျှအိမ်တွေ၊ မိသားစုတွေ၊ အိမ်ထောင်စုတွေမှာ လူ မသေဖူးတဲ့အိမ်၊ လူ မသေဖူးတဲ့ မိသားစု၊ အိမ်ထောင်စုရယ်လို့ မရှိပါကလား။ သြော်.... ကရုဏာတော်ရှင် မြတ်စွာဘုရားဟာ ငါ့ရဲ့အပူမီးကို သည်နည်းနဲ့ ငြိမ်းသတ်မှ ငြိမ်းမယ်ဆိုတာ မြင်တော်မူလို့ သည်လိုခိုင်းလိုက်တာပါကလား"

ကိသာဂေါတမီသည် သတိတရားဖြင့် ဆင်ခြင်၏။ ထိုအခါ မြတ်စွာဘုရား၏ ဂုဏ်ကျေးဇူးတော်ကို မြင်၏။ မိမိ၏ အကျိုးမဲ့ ပူဆွေးသောက ရောက်နေမှုကိုလည်း မြင်၏။ သို့ဖြင့် သားသေကို သုသာန်တွင် စွန့်ပစ်ခဲ့၏။

"သြော်.... ဖြစ်ပျက်ဖောက်လွဲ မမြဲတဲ့သဘောဟာ၊ သေပျောက်တဲ့ သဘောဟာ၊ ငါတစ်ဦးတည်းမှာ ဖြစ်တာမှ မဟုတ်ပါကလား။ တစ်အိမ်တည်း၊ မိသားစု တစ်စုတည်းမှာသာ ဖြစ်တာမဟုတ်ဘူး။ တစ်မျိုးတစ်ဆွေတည်းမှာသာ၊ တစ်မြို့တစ်ရွာတည်းမှာသာ၊ တိုင်းပြည်တစ်ပြည်တည်းမှာသာ ဖြစ်တာမဟုတ်ဘဲ သက်ရှိသတ္တဝါအားလုံးမှာ ဖြစ်ပျက်လေ့ရှိတဲ့ တရားပါကလား"

ထိုသို့ သိမြင် ကြံစည်မိသည့် တစ်ခဏဝယ် ကိသာဂေါတမီသည် ဇေတဝန်ကျောင်းတော်သို့ ပြန်ပြေးလာ၏။ မြတ်စွာဘုရား၏ ခြေတော်ရင်း၌ ဝပ်စင်း၏။

"ချစ်သမီး။ မုန်ညင်းစေ့ ရခဲ့၏လော"

"မြတ်စွာဘုရား။ တပည့်တော်မရဲ့ သားသေကို ဆေးကုဖို့ မုန်ညင်းစေ့ မလိုချင်တော့ပါဘူးဘုရား။ သေပြီးတဲ့ တပည့်တော်မရဲ့ သားကိုလည်း အသက်ပြန်ရှင်စေချင်တဲ့ဆန္ဒ မရှိတော့ပါဘူးဘုရား။ တပည့်တော်မ

ကိုသာ ကိုးကွယ်ရာရအောင်၊ အားထားရာ ဆောက်တည်ရာ ရအောင် ကယ်မ သနားတော်မူပါဘုရား”

ကိသာဂေါတမီက တောင်းပန်လျှောက်ထားသည်။

“ချစ်သမီး ကိသာဂေါတမီ။ အိပ်ပျော်နေသော တစ်ရွာလုံးကို အင်အားကြီးမား ပြင်းထန်သော မြစ်ရေအလျဉ်သည် မျှောယူသွားသကဲ့သို့ ထို့အတူ ရန်သူများသော၊ ကပ်ငြိတွယ်တာစိတ်ရှိသော လူဖြစ်လာသော သားကို သေမင်းသည် ယူဆောင် သွားခဲ့သည်”

ဤသို့ အစချီသော တရားတော်မြတ်ကို သုံးလောကထွတ်ထား သဗ္ဗညုမြတ်စွာဘုရားက ဟောကြားတော်မူသောအခါ ကိသာဂေါတမီသည် သောတာပတ္တိဖိုလ်သို့ ဆိုက်ရောက်၍ ရဟန်းပြုပေးပါရန် တောင်းပန် လျှောက်ထားသည်။ ကိသာဂေါတမီသည် ထေရီအရှင်မကြီးများထံ၌ ရဟန်းပြုပြီးနောက် ဖြစ်ပျက်တရားကို ကြည့်ရှုဆင်ခြင်လျက် ဝိပဿနာ တရားကို လုံ့လကြီးစွာ အားထုတ်တော်မူလေသည်။

ထိုကိသာဂေါတမီ အရှင်မသည် အဝတ်စုတ်တို့ကို ကောက်ယူ စုဆောင်းလျှော်ဖွတ်ဆေးဆိုးပြီးလျှင် သင်္ကန်းချုပ်လုပ် ဝတ်ရုံတော်မူလေ၏။ အရှင်မကြီး အဝတ်စုတ်များ လိုက်လံကောက်ယူသော အရပ်မှာ လမ်းကြို လမ်းကြားနှင့် သုသာန်၊ အမှိုက်ပုံ တို့ဖြစ်ကြပေသည်။

ဤသို့လျှင် ခေါင်းပါးရန့်ရင်း ညစ်နွမ်းစုတ်ပြတ်လျက် အစပ်စပ် အဖာဖာဖြင့် မက်မောစရာမရှိသည့် နွမ်းရိခေါင်းပါးသော သင်္ကန်းကို ဝတ်ရုံ သုံးဆောင်တော်မူသောကြောင့် ထိုအရှင်မကြီးအား ရှင်တော်မြတ်ဘုရား သည် ချီးမွမ်းတော်မူ၏။ နွမ်းရိခေါင်းပါးသောသင်္ကန်းကို သုံးဆောင်သော ငါ၏သမီးတော်များတွင် အသာလွန်ဆုံးအဖြစ် မိန့်တော်မူကာ ‘လူခ စီဝရဓရ’ ဧတဒဂ်အရာ၌ ထားတော်မူ၏။

ထိုအရှင်မကြီးသည် တစ်နေ့သ၌ ဝိပဿနာတရားကို ကြိုးကုတ်

အားထုတ်နေစဉ် မြတ်စွာဘုရားသည် ရောင်ခြည်တော်လွှတ်၍ ဩဘာသဂါထာကို ဟောကြားတော်မူမှ အရဟတ္တဖိုလ်သို့ ဆိုက်ရောက်တော်မူသည်။

သို့ဖြစ်သဖြင့် ကိသာဂေါတမီ အရှင်မကြီးသည် မြတ်စွာဘုရားအား အမှီပြုလျက် တရားထူးကို ရပါတကားဟူ၍ 'ကလျာဏမိတ်'၏ ဂုဏ်ကို အဦးထား၍ ဥဒါန်းကျူးရင့်တော်မူသည်။

"တရားတော်ကို ရိုသေလေးမြတ်တဲ့ အရှင်မတို့၊

"လူနတ်ဗြဟ္မာ သတ္တဝါတို့၏ဆရာ မြတ်စွာဘုရားသည် မိတ်ကောင်း ဆွေကောင်းရှိသောအဖြစ်ကို ချီးမွမ်းတော်မူလေ့ရှိသည်။ လောကသား လူအားလုံးကို ရည်မှတ်ပြီး မိတ်ဆွေကောင်းများအား ဆည်းကပ်သောသူသည် လူမိုက်ပင် ဖြစ်စေဦးတော့၊ ပညာရှိ ဖြစ်ပေသည်။

"မြတ်စွာဘုရား အစရှိသော ပညာရှိများ၌ ဆည်းကပ်သောသူများသည် လောကီလောကုတ္တရာ အကျိုးနှစ်ဖြာနှင့် ပညာတိုးပွားသည်။ မြတ်စွာဘုရား အစရှိသော ပညာရှိ သူတော်ကောင်းတို့အား ဆည်းကပ်ကိုးကွယ်သူသည် ဖြစ်ပျက်မမြဲ ပြောင်းလွဲဖောက်ပြန်သော သံသရာဝဋ်ဆင်းရဲမှ လွတ်မြောက်ကြရကုန်၏"



## ၁၃။ သဒ္ဓါမိမုတ္တ တေဒဂ်ရအရှင်မ

"ငါဘုရားအား ကြည်ညိုခြင်း သဒ္ဓါမိမုတ္တဂုဏ်၌ ဤဘိက္ခုနီသည် အလွန်ကဲဆုံး ဖြစ်ပေသည်"ဟု သဒ္ဓါမိမုတ္တ တေဒဂ် အထားခံရသော ထေရီမြတ်လှ အရှင်မကား 'သိင်္ဂါလက'ထေရီပေတည်း။

ထိုအရှင်မလောင်းလျာသည် လွန်ခဲ့သော ကမ္ဘာတစ်သိန်းထက်၌ ပဒုမုတ္တရမြတ်စွာဘုရား ပွင့်တော်မူသောအခါက အမတ်ကြီးတစ်ယောက်၏ သမီး ဖြစ်ခဲ့သည်။ ထိုအမတ်ကြီးမှာ မြတ်စွာဘုရား၏ ခမည်းတော် ဖြစ်သော အာနန္ဒာမင်း၏ အမတ်ဖြစ်ပေသည်။

အမတ်ကြီးသည် မြတ်စွာဘုရား၏ ကျောင်းတော်သို့သွားကာ တရားတော်ကို နာယူလေ့ရှိသည်။ ကျောင်းတော်သို့ အဖအမတ်ကြီး သွားသည့်အခါတိုင်း ထိုသမီးလည်း လိုက်ပါသွားလေ့ရှိသည်။ သို့ဖြင့် အမတ်ကြီး၏သမီးသည် သာသနာတော်၌ သဒ္ဓါတရား ထက်သန်လာကာ

ရဟန်းပြုခွင့်ပေးရန် ဖခင်အမတ်ကြီးထံ၌ ခွင့်တောင်းတော့သည်။

အမတ်ကြီးမှာလည်း ကိုယ်တိုင်ရဟန်း မပြုနိုင်စေကာမူ သမီးကိုကား ဝမ်းမြောက်ဝမ်းသာ ခွင့်ပြုလိုက်သည်။ မိန်းမရဟန်း ဖြစ်လာသော အမတ်ကြီးသမီးသည် ကာယဒုစရိုက်၊ ဝစီဒုစရိုက်တို့ကို ရှောင်ကြဉ်၏။ အာဇီဝပါရိသုဒ္ဓိ သီလကို သုတ်သင်၏။ ကုလဒူသက အနေသနကို ရှောင်ကြဉ်၏။ သဒ္ဓါတရားသက်သက်ဖြင့် ကြည်ညိုရှိလှူသော ပစ္စည်းကိုသာ သုံးဆောင်၏။

ထိုဘိက္ခုနီအရှင်မသည် သူတပါးတို့ကြည်ညိုအောင် ဟန်ဆောင်ခြင်း၊ လောကွတ်ပြုခြင်း၊ သစ်သီးပေးခြင်း၊ပန်းပေးခြင်းစသည့် 'အနေသန'မှုတို့ကို မပြု။ နေမြဲတိုင်းနေကာ မြတ်စွာဘုရား၏တရားတော်ကို အမြဲ နာကြားလေ့ရှိသည်။ မြတ်စွာဘုရားကိုလည်း မပြတ်ဖူးမြော် ကြည်ညိုသည်။

တစ်နေ့သ၌ ပဒုမုတ္တရ မြတ်စွာဘုရားသည် တရားသဘင်ဝယ် ဘိက္ခုနီတစ်ပါးအား 'သဒ္ဓါဓိမုတ္တ' တေဒဂ် ပေးတော်မူ၏။

ဤသည်ကို ဖူးမြင်ရသော အရှင်မသည်လည်း သဒ္ဓါကြည်ညိုလှသည်။ သို့အတွက် ကောင်းမှုကုသိုလ်များပြုပြီး သဒ္ဓါဓိမုတ္တဆုကို တောင်းကာ သိက္ခာသုံးပါးကို ဖြည့်ကျင့်လေသည်။

"ချစ်သမီး။ သင်တောင်းသော ရတနာသုံးပါး၌ ကြည်ညိုခြင်းဆု ပြည့်စုံလိမ့်မည်။ လာလတ္တံ့သောကမ္ဘာတစ်သိန်းထက်တွင် ဂေါတမမြတ်စွာ ဘုရားပွင့်တော်မူသောအခါ သင်သည် ထိုမြတ်စွာဘုရားအထံတော်၌ 'သိင်္ဂါလကမာတာ'ဘိက္ခုနီအမြင်ဖြင့် သင်တောင်းသောဆုသည် ပြည့်စုံလတ္တံ့."

အမတ်ကြီး၏သမီး ထိုရဟန်းမသည် ပဒုမုတ္တရ မြတ်စွာဘုရားထံတော်မှ ဗျာဒိတ်စကားကို ကြားနာရသဖြင့် လွန်စွာဝမ်းမြောက်၏။ သို့ကြောင့် တစ်သက်တာပတ်လုံး မိန်းမရဟန်းတို့၏ အကျင့်ပဋိပတ်ဖြင့် ပူဇော်သည်။ မြတ်စွာဘုရားအား ရိုကျိုးစွာ ဆည်းကပ်လုပ်ကျွေးသည်။

ထိုရဟန်းမသည် ထိုဘဝမှ စုတိမနေ သေလွန်သောအခါ တာဝတိံသာ နတ်ရွာ၌ ဖြစ်၏။ ထိုဘဝမှတစ်ဆင့် လူ့ဘုံနတ်ဘုံတို့၌ ကြိမ်ဖန်များစွာ ကျင်လည်ခဲ့ပြီးနောက် ယခုနောက်ဆုံးဘဝတွင် ရာဇဂြိုဟ်ပြည်ဝယ် ရတနာရွှေငွေ ဆန်ရေစပါး ဆင်မြင်းကျွဲနွား ပေါများပြည့်စုံ ကုံထံသော သူဌေးသမီး ဖြစ်လာ၏။

သူဌေးသမီးသည် အရွယ်သို့ရောက်သောအခါ လင်၏အိမ်သို့ လိုက်ရ၏။ ထို့နောက်သားတစ်ယောက် ဖွားမြောက်လာရာ 'သိင်္ဂါလက' သတို့သားဟု အမည်တွင်၏။ ထိုသားကို အစွဲပြုလျက် သူ့ကိုလည်း သိင်္ဂါလကမာတာဟု ခေါ်ကြ၏။

သိင်္ဂါလက သတို့သားသည် အဖိုးအဖွားတို့၏ သင်ကြားမှုဖြင့် အရပ်ဆယ်မျက်နှာကို ရှိခိုးသော အယူရှိ၏။ တစ်နေ့သောအခါတွင် သိင်္ဂါလက သတို့သား အရပ်မျက်နှာများကို ရှိခိုးနေစဉ် ဆွမ်းခံကြွတော်မူလာသော မြတ်စွာဘုရားက မြင်တော်မူသည်။ ထိုအခြင်းအရာကို အကြောင်းပြုလျက် ရှင်တော်မြတ်ဘုရားသည် သိင်္ဂါလောဝါဒသုတ်ကို ဟောကြားတော်မူရာ နှစ်ကုဋေသောလူတို့ ဓမ္မာဘိသမယကို ရကြလေသည်။ သိင်္ဂါလကမာတာမှာလည်း သောတာပတ္တိဖိုလ်၌ တည်သည်။

သင်္ဂါလကမာတာသည် သောတာပန်တည်ပြီးနောက် လင်သားထံတွင် ခွင့်ပန်ကာ သာသနာတော်၌ ရဟန်းပြုသည်။ သိင်္ဂါလကမာတာ ထေရီသည် ဗုဒ္ဓါနုဿတိ ဘာဝနာကို ပွားစီးသဖြင့် မကြာမြင့်မီ ရဟန္တာ ဖြစ်တော်မူသည်။

ရဟန္တာဖြစ်တော်မူပြီးသော သိင်္ဂါလကမာတာ ထေရီမြတ်လှ အရှင်မသည် မြတ်စွာဘုရားအား ဖူးမြော်ရင်း၌ ငြီးငွေ့သည်မရှိ။ အားရ တင်းတိမ်ခြင်းလည်း မရှိသောကြောင့် ဘိက္ခုနီတို့အား ထိုက်သက်ရာ

အရာဌာနၞ တေဒဂ်ထားတော်မူသောအခါ မြတ်စွာဘုရားသည် သိင်္ဂါလက မာတာအား 'သဒ္ဓါဓိမုတ္တ' တေဒဂ် ထားတော်မူခြင်းပေတည်း။



# (ခ)

# တေဒဂ်ရ ဥပါသိကာများ

## ၁။ ပထမံသရဏံ ဂစ္ဆန္တိတေဒဂ်

မြတ်စွာဘုရားထံတော်တွင် အဦးဆုံး သရဏဂုံတည်သူ ဖြစ်သောကြောင့် ပထမံ သရဏံ ဂစ္ဆန္တိတေဒဂ်ရသော ဒါယိကာမမှာ အရှင်ယသ၏မယ်တော် သုဇာတာ ဖြစ်ပေသည်။

သုဇာတာသည် ပဒုမုတ္တရ မြတ်စွာဘုရား၏ အထံတော်၌ ထို တေဒဂ်ရရှိရန် ဆုပန်ခဲ့ခြင်း ဖြစ်သည်။ သူသည် မြတ်စွာဘုရားရှေ့တော် ၌ တရားတော်ကို နာကြားနေစဉ်တွင် ပဒုမုတ္တရ မြတ်စွာဘုရားသည် ဥပါသိကာမတစ်ယောက်အား ‘အဂ္ဂပထမ သရဏဂမန’ တေဒဂ် ထားတော်မူ၏။ ဤသည်ကိုမြင်သော သုဇာတာအလောင်းသည် မြတ်စွာဘုရား အမှူးပြုသော သံဃာတော် အရှင်မြတ်များကို အလှူကြီးပေးပြီးလျှင် ထိုဆုကို တောင်းခဲ့၏။

သူသည် သံသရာ၌ စုန်ဆန် လူးလာ မျောပါခဲ့ပြီးနောက် ငါတို့ဆရာ ဂေါတမမြတ်စွာဘုရား ပွင့်တော်မူခါနီးကာလတွင် ဥရုဝေလတောအနီးရှိ သေနနိဂုံးတွင် သူကြွယ်တစ်ယောက်၏သမီး ဖြစ်လာ၏။ အမည်မှာ 'သုဇာတာ'ဟု ခေါ်တွင်၏။

သုဇာတာသည် အရွယ်ရောက်လာချိန်၌ ရွာနှင့် မလှမ်းမကမ်းရှိ ညောင်ပင်တွင် ဆုတောင်းလေ့ရှိ၏။

"ကျွန်တော်မဟာ အမျိုးတူတဲ့ယောကျ်ားနဲ့ အိမ်ထောင်ကျပြီးတော့ ရတဲ့သားဦးဟာ ယောကျ်ားကလေးဖြစ်ခဲ့ရင် အရှင်ရက္ခစိုးမင်းကို တစ်နှစ်ကို တစ်ကြိမ်ကျ အသပြာတစ်သိန်းဖိုး ပူဇော်ပါ့မယ်"

ထို့နောက် များမကြာမီ သုဇာတာအား မိဘများက မျိုးတူရိုးတူ အမျိုးကောင်းသားနှင့် နေရာချထားပေးခဲ့ကြသည်။ နှစ်အနည်းငယ်အကြာ၌ သုဇာတာသည် သားဦးကိုဖွားမြင်ရာ သူတောင့်တသော သားယောကျ်ားကလေးဖြစ်နေသည်။ သို့အတွက် သုဇာတာသည် ညောင်ပင်စောင့်နတ်မစခြင်းဟု ယုံကြည်သဖြင့် ရက္ခစိုးအား နှစ်စဉ်ပသခဲ့ရာ ယခုနှစ်တွင် ဃနာနို့ဆွမ်းဖြင့် ပသရန် ဤသို့ စီမံထား၏။

ရှေးဦးစွာ 'နွယ်ချို'တော၌ နို့စားနွားမတစ်ထောင်ကို လွှတ်ကျောင်း၏။ နွယ်ချိုတော၌ ဝစွာစားခဲ့သော ထိုနွားမတစ်ထောင်အနက် ရှစ်ရာတို့၏ နို့ကို ညှစ်ယူပြီး ကျန်သောနွားမ နှစ်ရာကို တိုက်၏။ တစ်ဖန် ထိုနွားမနှစ်ရာအနက် ၁၆၀၏ နို့ကို ညှစ်ယူပြီး ကျန်နွားမလေးဆယ်သို့ တိုက်၏။ ထိုနွားမ လေးဆယ်အနက် ၃၂ကောင်၏ နို့ကို ညှစ်ပြီး ကျန်ရှစ်ကောင်သို့ တိုက်ပြန်၏။

ထိုသို့ အလီလီ အဆင့်ဆင့်တိုက်လာသော နွားမများအနက် နောက်ဆုံးဖြစ်သော နွားမရှစ်ကောင်ထံမှ ညှစ်ယူရရှိသောနို့ကို 'ဃနာနို့ဆွမ်း' ချက်လေ၏။

ထိုနို့ဆွမ်းကို ခံယူမည့်သူမှာ ရက္ခစိုးမဟုတ်။ မြတ်စွာဘုရားအလောင်းတော် ဖြစ်၏။ သို့ကြောင့် လောကပါလနတ်မင်းကြီး လေးပါးက မီးဖိုကို လာရောက်စောင့်ရှောက်ကြသည်။ နို့ဆွမ်းချက်မည့်နေရာကို ဗြဟ္မာမင်းက ထီးဖြူမိုးပေးပြီး သိကြားမင်းက မီးဖိုတွင် မီးထိုးပေးသည်။ ဃနာနို့ဆွမ်းထဲသို့ နတ်ဩဇာများ လာရောက်ထည့်သူမှာ စကြဝဠာ တိုက်တစ်သောင်းမှ နတ်ဗြဟ္မာများပေတည်း။

နို့ဃနာဆွမ်းကျက်ချိန်တွင် သုဇာတာသည် လက်စွဲတော် ပုဏ္ဏာကို ခေါ်သည်။

"ပုဏ္ဏာ။ ငါတို့ ညောင်စောင့်နတ်မင်းရဲ့ နေရာကို သုတ်သင်ချေ"

မြတ်စွာဘုရားအလောင်းတော်သည် ပုဏ္ဏာ လှဲကျင်းသုတ်သင်မည့် ညောင်ပင်ရင်း၌ ရောက်ရှိနေနှင့်သည်။ ကိုယ်တော်အရောင်ဖြင့် ညောင်ပင်ကို ထွန်းလင်းစေကာ အရှေ့အရပ်သို့ရှေးရှုနေသည်။ ပုဏ္ဏာသည် အလောင်းတော်ကို မြင်ရသဖြင့် ညောင်ပင်ကို အပြေးအလွှား ရှင်းလင်းသုတ်သင်ခဲ့ကာ အပြေးအလွှား ပြန်လာသည်။

"သခင်မရေ။ သခင်မပူဇော်မယ့်နတ်မင်းဟာ အတုမရှိတဲ့အသရေနဲ့ ညောင်ပင်ရင်းမှာ ကိုယ်ထင်ပြပြီး စံနေတယ်။ လာ၊ မြန်မြန်သွားကြစို့"

ပုဏ္ဏာ၏စကားကြောင့် သုဇာတာ ဝမ်းသာသည်။ ဃနာနို့ဆွမ်းကို တစ်သိန်းတန် ရွှေခွက်တွင် ထည့်၏။ ထိုရွှေခွက်ကိုလည်း တစ်သိန်းတန် ရွှေခွက်ဖြင့်ပင် ဖုံးပြန်၏။ ထို့နောက် ညောင်ပင်သို့ အသော့လာကြ၏။

သုဇာတာသည် ဃနာနို့ဆွမ်းကို ညောင်ပင်ရင်းတွင်သွန်းလောင်းခြင်းဖြင့် ရက္ခစိုးကိုပသရန် ရည်ရွယ်ထား၏။ သို့ရာတွင် အလောင်းတော်၏ အသရေကို ဖူးမြင်ရသောအခါ သဒ္ဓါတက်ပြီး ရွှေခွက်ပါ ကပ်လှူပူဇော်ခဲ့လေ၏။

အလောင်းတော်သည် ထိုနေ့ညတွင် သမ္မာသမ္ဗောဓိဉာဏ်ကို ရ

ကာ ဘုရားအဖြစ်သို့ရောက်တော်မူပြီးလျှင် မိဂဒါဝုန်တော၌ သီတင်းသုံးနေတော်မူ၏။ ထိုနေ့တွင် သုဇာတာ၏သား ယသလုလင်သည် မြတ်စွာဘုရားထံတော်သို့ ရောက်လာလေ၏။

ပါရမီရင့်သန်ပြီးသူများ တရားရပုံမှာ မထင်မှတ်သောအကြောင်းအရာတွင် မူတည်တတ်သည်။

ယခုလည်း ယသလုလင်ကို ကြည့်လေ။

သူသည် စင်ကြယ် သန့်ရှင်းသည်။ သိမ်မွေ့နူးညံ့သည်။ စည်းစိမ်ဥစ္စာလည်း လွန်စွာများပြားသည်။ ဥတုတစ်ခုလျှင် ပြာသာဒ်တစ်ဆောင်ပြောင်းရွှေ့နေထိုင်သည်။ အတီး၊အက၊အဆို မောင်းမပေါင်း ၁၅၀၀တို့ ခြံရံသည်။ ရာသီဥတုပြောင်းလျှင် သူလည်း စံစားနေသည့်ပြာသာဒ်မှ အခြားပြာသာဒ်သို့ အတီးအမှုတ် အကအခုန် အခြံအရံများစွာဖြင့် ရွှေ့ပြောင်းသည်။ ထိုရွှေ့ပြောင်းအခမ်းအနားကို လူအများတို့ တအံ့တသြ လာရောက်ကြည့်ရှုကြပေသည်။

ထိုသို့လျှင် ပျော်ရွှင်စွာ စံစားနေခဲ့သော ယသလုလင်သည် တစ်ခုသော ည သန်းခေါင်ကျော်တွင် အိပ်ရာမှနိုးလာ၏။ ထထိုင်ပြီး တောင်မြောက်လေးပါးကို ကြည့်သည်။ မီးရောက်အောက်တွင် စောင်းတီးရင်း၊ ဗုံတီးရင်း အိပ်ပျော်သွားကြသော မောင်းမတွေကို မြင်ရသည်။ လှသည်၊ ယဉ်သည်ဟု သူထင်မှတ်ခဲ့သော မောင်းမတွေကိုကြည့်ကာ ယသလုလင်စက်ဆုတ်ထိတ်လန့်၏။

"အလုံးစုံသောကိုယ်၏အဖြစ်သည် နှစ်သက်ခင်မင်ဖွယ် မရှိပါဘဲလျက် တပ်ငြိစွဲလန်းသည့်အတွက် ပင်ပန်းခြင်းသည် နိပ်စက်စွတကား"

အာပုပ်ရည်တရွှဲရွှဲ၊ မျက်ချေးအလိမ်းလိမ်း၊ ဟောက်သံ တည့်ည့်ဖြင့် ပါးစပ်ကြီး ဟသူက ဟ၊ အံကြိတ်သူက ကြိတ်။ ဖုံးအုပ်ထားသောအလှအပတို့ လွင့်စင်ချိန် ဖြစ်သည်။

"ဤခန္ဓာငါးပါးသည် အနှစ်သာရ မရှိ။ 'တန်စီးတွင်း'၌ တက်သော အမြှုပ်ကဲ့သို့ ယုတ်မာလှစွာလျက် တဏှာ၏အဟုန်ဖြင့် စွဲမက်ပြင်းသဖြင့် ညှဉ်းဆဲပူလောင်မှု ဖြစ်ရလေစွတကား"

သာယာသောတေးသံ၊ ချိုမြသောဂီတသံ၊ မက်မောဖွယ်အလှတို့ ဖုံးလွှမ်းခဲ့ရာ နေရာကို ယသလုလင်သည် သူကောင်ပစ်သည့် သုသာန် ထင်လာ၏။ ထိုနေရာနှင့်ဝေးရာသို့ ယသလုလင်ထွက်လာရာ မိဂဒါဝုန် တောသို့ ရောက်မှန်းမသိ ရောက်လာတော့၏။

ထိုအချိန်ဝယ် သုံးလူ့ထွတ်ထားမြတ်ဘုရားသည် လွင်တီးခေါင်၌ စင်္ကြံကြွတော်မူလျက်ရှိ၏။ ရှင်တော်မြတ်ဘုရားသည် တရွေ့ရွေ့လာ နေသော ယသလုလင်ကို လှမ်းလင့်မြင်တော်မူလျှင် သင့်တင့်လျောက်ပတ် သော နေရာ၌ နေတော်မူလင့်သည်။ ယသလုလင်သည် ရုပ် သိမ်မွေ့သည့် နည်းတူ စိတ်ပါသိမ်မွေ့သူဖြစ်သဖြင့် မြတ်စွာဘုရားထံတော်သို့ ချဉ်းကပ် လာပြီး ရှိခိုးကန်တော့သည်။

မြတ်စွာဘုရားသည် ယသလုလင်၏ ရင်တွင်းအခြေအနေကို သိ တော်မူသည်။ သိတော်မူသဖြင့် သတ္တဝါနှင့်သင့်လျော်သော တရားကို အစဉ်အတိုင်း ဟောကြားတော်မူအပြီး၌ သစ္စာလေးပါးကို ပြတော်မူသည်။ ယသလုလင်၏ နှလုံးအိမ်တွင် အလွန်ဖြူသောအဝတ်ကို ကောင်းသော ဆိုးရည်ဖြင့် ဆိုးသကဲ့သို့ ဒိဋ္ဌိဝိစိကိစ္ဆာကင်းလျက် သောတာပတ္တိဖိုလ်သို့ ဆိုက်ရောက်လေတော့သည်။

ယသလုလင် ပျောက်သွားသောကြောင့် တစ်အိမ်လုံး ဗြောင်းဆန် နေသည်။ အရပ်လေးမျက်နှာသို့ မြင်းသမားရော ခြေမြန်သမားပါ စေလွှတ် ပြီး ရှာဖွေကြသည်။ ယသလုလင်၏ဖခင်မှာ အိမ်တွင်ကျန်ခဲ့ရာက သား၏ ခြေနင်းရာကို သတိထားမိသည်။ ထိုခြေရာအတိုင်း လိုက်လာရာက မိဂဒါဝုန်တောသို့ရောက်လာသည်တွင် မြတ်စွာဘုရား၏ခြေတော်ရင်း၌

ဦးခိုက်မိ၏။

ယသ၏ဖခင်သူဌေးသည် မြတ်စွာဘုရား၏တရားတော်ကို နာယူရသဖြင့် သောတာပန်တည်၏။ သောတာပန်တည်ပြီးသော ယသလုလင်မှာကား၊ ဖခင်အား မြတ်စွာဘုရား ဟောကြားတော်မူသော တရားတော်ကို နာကြားရသဖြင့် အရဟတ္တဖိုလ်သို့ ဆိုက်ရောက်တော်မူလေ၏။

နံနက်လင်းသောအခါ မြတ်စွာဘုရားသည် ယသ၏ဖခင် ပင့်လျှောက်သောကြောင့် ရဟန္တာအရှင်ယသကိုခေါ်ကာ သုဇာတာ၏အိမ်သို့ ကြွရောက်တော်မူ၏။ သုဇာတာ ဆက်ကပ်သောဆွမ်းကို ဘုန်းပေးအပြီး၌ မြတ်စွာဘုရားသည် ဆွမ်း အနုမောဒနာတရား ဟောကြားတော်မူ၏။ သုဇာတာမှာ ထိုတရားတော်အဆုံး၌ သောတာပန်တည်၏။ သူသည် အခြားသူတို့ထက်စောပြီး 'တေဝါစိက သရဏာဂုံ'ကို ဆောက်တည်ရသူလည်း ဖြစ်ပေသည်။

သို့ဖြစ်သောကြောင့် ရှင်တော်မြတ်ဘုရားသည် နောင်အခါတွင် ဥပါသကာ ဥပါသိကာတို့အား အရာဋ္ဌာနအလျောက် ချီးမြှောက်တော်မူသော အခါ၊

"ရှေးဦးစွာ ကိုးကွယ်ဆည်းကပ်ခြင်း သရဏာဂုံသို့ ရောက်ကုန်သော ငါ၏သာဝိကာ ဥပါသိကာတို့တွင် သေနိယသူဌေးသမီး သုဇာတာသည် အမြတ်ဆုံးဖြစ်၏"

ဟူ၍ သုဇာတာအား 'ပထမံ သရဏံ ဂစ္ဆန္တီ' တေဒဂ် ထားတော်မူခြင်း ဖြစ်ပေသည်။



## ၂။ ဒါနသဘိရတ တေဒဂ်ရ ဥပါသိကာ

"ရဟန်းတို့။ လှူဒါန်းခြင်း၌ မွေ့လျော်ကုန်သော ငါ၏သာဝိကာ ဥပါသိကာတို့တွင် ဝိသာခါ အမြတ်ဆုံးဖြစ်၏" ဟူ၍ မြတ်စွာဘုရား၏ တေဒဂ်အထားခံရသော ဒါယိကာမကား 'မိဂါရမာတာ' ခေါ် 'ဝိသာခါ' ပေတည်း။

ရှေးလွန်လေပြီးသော ကမ္ဘာတစ်သိန်းထက်၌ ပဒုမုတ္တရ မြတ်စွာဘုရား ပွင့်တော်မူသည်။ ရဟန္တာတစ်သိန်း ခြံရံသည်။ ခမည်းတော် မယ်တော်တို့မှာ ဟံသာဝတီပြည့်ရှင် သုနန္ဒာမင်းကြီးနှင့် သုဇာတာ မိဖုရားကြီးတို့ ဖြစ်ကြပေ၏။

ထိုအခါဝယ် ဝိသာခါလောင်းလျာသည် မြတ်စွာဘုရား၏အလုပ်အကျွေး ဒါယိကာမနှင့် ရင်းနှီးသော အဆွေခင်ပွန်း ဖြစ်ခဲ့၏။ ထိုမြတ်သော အလုပ်အကျွေး ဒါယိကာမသည် မြတ်စွာဘုရား အမှူးပြုသော သံဃာတော် အရှင်မြတ်များနှင့် အကျွမ်းဝင်၏။ ရှစ်ပါးသောဆုကို ရ၏။ မိခင်အရာ၌

တည်၏။ မြတ်စွာဘုရားထံတော်သို့ ညရော နံနက်ပါ မပျက်မကွက် ရောက်လေ့ရှိပြီး ပစ္စည်းလေးပါးဖြင့် လုပ်ကျွေး၏။

ဝိသာခါလောင်းလျာ ဒါယိကာမသည် သူ၏ခင်ပွန်းမကို အားကျ၏။ ထို့ကြောင့် မြတ်စွာဘုရားထံတော်တွင် လျှောက်ထားစုံစမ်းသည်။ ထို့နောက် မြတ်စွာဘုရားနှင့် သံဃာတော်တစ်သိန်းကို အိမ်သို့ပင့်ဖိတ်သည်။ ခုနစ်ရက်ပတ်လုံး ဆွမ်းခဲဖွယ်နှင့် အဖျော်ယမကာများကို ဆက်ကပ်လှူဒါန်းပြီးလျှင် နောက်ဆုံးနေ့တွင် သင်္ကန်းလျာ ပုဆိုးတို့ကိုပါ လှူဒါန်းကာ ဆုတောင်းမှုပြုသည်။

"ဘုရားတပည့်တော်မဟာ သည်ကောင်းမှုကုသိုလ် အကျိုးဆက်အဖြစ် နတ်စည်းစိမ်ကို မလိုချင်ပါဘုရား။ မင်းစည်းစိမ်ကိုလည်း မတောင်းတပါဘုရား။ ရှင်တော်ဘုရားလို တစ်ဆူသော မြတ်စွာဘုရားထံတော်မှာ ဆုရှစ်ပါးရတဲ့ မိခင်အရာ တည်ရပါလို၏ ဘုရား။ မြတ်စွာဘုရား အမှူးရှိတဲ့ သံဃာတော် အရှင်မြတ်များကို ပစ္စည်းလေးပါးနဲ့ မပြတ်လုပ်ကျွေးနိုင်စွမ်းရှိတဲ့ မြတ်သောအလုပ်အကျွေး ဖြစ်ရပါလို၏ဘုရား"

ပဒုမုတ္တရမြတ်စွာဘုရားသည် ထိုဒါယိကာမ တောင်းသောဆုသည် လာမည့်ကမ္ဘာတစ်သိန်းထက်၌ ပွင့်တော်မူမည့် ဂေါတမမြတ်စွာဘုရား၏ ရွှေလက်ထက်တော်၌ ပြည့်လတ္တံ့ဟု ဗျာဒိတ်ပေးတော်မူ၏။

ထိုဒါယိကာမသည် အသက်အတိုင်းနေပြီးနောက် ကွယ်လွန်ခဲ့၏။ နတ်စည်းစိမ်ကို မလိုချင်သော်လည်း တာဝတိံသာ နတ်ပြည်၌ ဖြစ်သည်။ ဤသို့ဖြင့် လူဖြစ်လိုက်၊ နတ်ဖြစ်လိုက် ကြိမ်ဖန်များစွာ ကျင်လည်ပြီးမှ ကဿပမြတ်စွာဘုရား၏ ရွှေလက်ထက်တော်ဝယ် ကာသိကရာဇ်မင်း၏ သမီးတော် 'သံဃဒါသီ' ဖြစ်လာခဲ့သည်။

ကာသိကရာဇ်ဘုရင် ကိကီမင်းတရားကြီးတွင် သမီးတော် ခုနစ်ပါး ရှိရာ သံဃဒါသီမှာ အငယ်ဆုံး ဖြစ်သည်။ သမီးတော်ခုနစ်ပါးသည်

အိမ်ထောင်မပြုဘဲ ဒါနသီလ ဘာဝနာမှုတို့ကိုသာ ပြုခဲ့သည်။ သံဃဒါသီ မင်းသမီးသည် ဒါနာဘိရတ ဧတဒဂ်ဆုကို ကဿပမြတ်စွာဘုရားထံတော်တွင်လည်း ထပ်မံပန်ခြွေခဲ့သည်။

သံဃဒါသီ မင်းသမီးသည် ထိုဘဝမှ စုတေခဲ့သောအခါ လူ့ပြည် နတ်ရပ်အထပ်ထပ် ကျင်လည်ခဲ့ပြီးနောက် ယခုနောက်ဆုံးဘဝတွင် ဓနဉ္စယ သူဌေး၏ သမီးဖြစ်လာ၏။

ဗိမ္ဗိသာရမင်းကြီး စိုးစံတော်မူသော ရာဇဂြိုဟ်ပြည်တွင် အတိုင်း မသိ ပစ္စည်းဥစ္စာပေါများသော သူဌေးကြီး ငါးဦးရှိ၏။ ဇောတိက၊ ဇဋိလနှင့် မေဏ္ဍက၊ ပုဏ္ဏ၊ ကာကဝလ္လိယတို့ ဖြစ်ပေ၏။

ဝိသာခါသည် မေဏ္ဍကသူဌေးကြီး၏ မြေးဖြစ်၏။ အဖမှာ ဓနဉ္စယသူဌေး၊ အမိမှာ သုမနဒေဝီတို့ဖြစ်၏။ ဝိသာခါမှာ ကလေးဘဝ ကတည်းက သောတာပန်တည်ပြီးသူဖြစ်သည်။ အကြောင်းမှာ သူငယ်စဉ်က ဘဒ္ဒိယမြို့သို့ မြတ်စွာဘုရား ကြွမြန်းလာတော်မူစဉ် အဖိုးဖြစ်သူနှင့် ကျောင်းတော်သို့ လိုက်သွားကာ မြတ်စွာဘုရား၏တရားတော်ကို နာယူခဲ့ရသော ကြောင့်ပေတည်း။

ထိုအတောအတွင်း၌ ဝိသာခါ၏ ဖခင်မှာ နေရာပြောင်းရန် အကြောင်းဖန်လာခဲ့သည်။ ဖန်လာပုံမှာ ဤသို့ဖြစ်သည်။

ကောသလမင်းနှင့် ဗိမ္ဗိသာရမင်းသည် မောင်လှယ် နှမလှယ် သမီးယောက်ဖများ ဖြစ်ကြသည်။ တစ်နေ့သောအခါတွင် သာဝတ္ထိပြည့်ရှင် ဘုရင်ကောသလသည် သူ့နိုင်ငံ၏ ဓနအင်အားကို တွက်စစ်ကြည့်သော အခါ လောက်လောက်လားလား သူဌေးကြီး ခေါ်လောက်သူ တစ်ယောက်မျှ မရှိသည်ကို တွေ့ရသည်။ သို့ဖြင့် သူသည် ယောက်ဖတော် ဗိမ္ဗိသာရမင်း ထံသို့ ရောက်သွားသည်။

"အဆွေတော်မင်းကြီး။ ကျွန်ုပ်ရဲ့ နိုင်ငံတော်မှာ အဆွေတော်ရဲ့

နိုင်ငံထဲက သူဌေးကြီးငါးယောက်နဲ့တူတဲ့ သူဌေး တစ်ယောက်မျှ မရှိဘူး။ ဒါကြောင့် တိုင်းနိုင်ငံရဲ့ ကျက်သရေဆောင်ဖြစ်အောင် တစ်ယောက်ပေးပါ"

ဇောတိက.... အစရှိသော သူဌေးကြီးများမှာ ဆင်မြင်းကျွဲနွားနှင့် လူသူအခြံအရံမှာ လွန်စွာများပြား၏။ ထိုသို့သော တစ်ယောက်ယောက်အား အရွှေ့အပြောင်းခိုင်းလျှင် အလွန်ခက်ခဲသောဝန်ကို အထမ်းခိုင်းခြင်းနှင့် မခြားတော့ချေ။ တစ်နည်းအားဖြင့် မဟာပထဝီမြေကြီးကို ရွှေ့ပြောင်းသည် ကဲ့သို့ ရှိ၏။

ထို့ကြောင့် ဗိမ္ဗိသာရမင်းသည် ကောသလမင်း ကျေနပ်အောင် ရှင်းပြပြီးနောက် ဓနဉ္စယသူဌေးကိုခေါ်ကာ မေတ္တာရပ်ခံ၏။ ဓနဉ္စယသူဌေး လည်း ဘုရင်နှစ်ပါးကျေနပ်စေရန် ကောသလမင်းနောက်သို့ လွန်စွာ များပြားသော လူသူနှင့် ဆင်မြင်းကျွဲနွား ဥစ္စာဘဏ္ဍာများကို ရွှေ့ပြောင်း သယ်ယူလျက် လိုက်ပါလာ၏။ သို့သော် သူ့ပရိသတ်မှာ သာဝတ္ထိမြို့ မဆန့် သောကြောင့် မြို့နှင့် ခုနစ်ယူဇနာ ကွာရာအရပ်ရှိ ရေမိုးအဆင်ပြေပြီး မြေ မျက်နှာပြင် ညီညွတ်သောအရပ်၌ မြို့တည်ကာ နေထိုင်၏။ မြို့ကိုလည်း 'သာကေတ' ဟု အမည်ပေး၏။

ဝိသာခါသည် သာကေတမြို့၌ အရွယ်ရောက်လာ၏။ ထိုအခါ သာဝတ္ထိမြို့သား မိဂါရသူဌေး၏သား ပုဏ္ဏဝဍ္ဎနှင့် ထိမ်းမြားလက်ထပ်ရ သည်။ မျိုးရိုးတူမျှသည်ဆိုကာ ဓနဉ္စယသူဌေး သဘောတူ ပေးမြန်းခြင်း ဖြစ်ငြား မိဂါရသူဌေးသည် စိတ်ထားသေးသိမ်သည်။ အဝတ်မဝတ်သော တက္ကတွန်းများကို ကိုးကွယ်သည့် မိစ္ဆာဒိဋ္ဌိလည်း ဖြစ်ပေသည်။

မိဂါရသူဌေး၏ စိတ်ထားသေးသိမ်ပုံတစ်ခုကို ဖော်ပြရသော် ဤသို့ ဖြစ်ပါသည်။

ပုဏ္ဏနှင့် ဝိသာခါတို့ လက်ထပ်ပြီးနောက်တွင် ဝိသာခါမှာ လင့် အိမ်သို့ လိုက်ရတော့မည်။ ထိုအခါ ဓနဉ္စယသူဌေးက "သမီးနောက်ကို

လိုက်ချင်သူတွေ လိုက်သွားကြ”ဟု ခွင့်ပေးသည်။ အမှုလုပ် ယောကျ်ားမိန်းမ များစွာတို့သည် အထုပ်အရွက်များဖြင့် ထွက်လာကြသည်။ ဤသည်ကို ကြည့်ကာ မိဂါရသူဌေးက “ဒါလောက်များတဲ့ လူတွေကို ငါမကျွေးနိုင်ဘူး” ဆိုပြီး ခဲဖြင့်ပစ်၊ တုတ်ဖြင့်ရိုက်သည်။ ဝိသာခါသာ ဝင်ရောက် မတားမြစ်လျှင် ဝိသာခါနောက်သို့ တစ်ယောက်သော်မျှ ပါလာဖွယ် မရှိ။

ယောက္ခမအိမ်သို့ ဝိသာခါရောက်ပြီး မကြာမီ တစ်ခုသော နံနက်တွင် ဖြစ်၏။ မိဂါရသူဌေးသည် ရေမရောသော နို့ထမင်းကို ရွှေခွက်ဖြင့် ထည့်လျက် သုံးဆောင်နေ၏။ ဝိသာခါက ယောက္ခမအား ယပ်လေခတ်ပေးနေ၏။ ထိုအချိန်တွင် သံဃာတော်တစ်ပါးသည် အိမ်ရှေ့၌ ဆွမ်းရပ်တော်မူ၏။ မိဂါရမှာ ရတနာသုံးပါးအား မကြည်ညိုသူဖြစ်ရာ မမြင်ယောင် ဆောင်နေ၏။

သို့အတွက် ဝိသာခါက လှမ်းပြီးလျှောက်ထားသည်။

“တပည့်တော်မရဲ့ ယောက္ခမဟာ အဟောင်းကိုသာ စားသူဖြစ်တဲ့ အတွက် ကန်တော့ဆွမ်းပါဘုရား”

မိဂါရသူဌေးသည် သူသိသမျှ ကြားဖူးသမျှ အပေါ်တွင် မူတည်ကာ ဒေါသတကြီး ထအော်သည်။

“သည်ကျွန်မကို ဆွဲငင်ပြီး အိမ်အပြင်ကို မောင်းထုတ်လိုက်ကြစမ်း”

ရွှေခွက်ကိုဘေးဖယ်ပြီး မိဂါရ အော်သော်ငြား ဝိသာခါအား မော့ကြည့်သူပင် မရှိပါ။ တစ်အိမ်လုံးတွင် ရှိရှိသမျှ လူအားလုံးမှာ ဝိသာခါအား ချစ်မြတ်နိုးသူတွေချည်း ဖြစ်နေသောကြောင့်ပေတည်း။

သို့တစေ ဝိသာခါက ဤကိစ္စကို ဤတွင် ပြီးပြီးပျောက်ပျောက် လုပ်မပစ်ပါ။ ယောက္ခမသူဌေးအား ညင်သာစွာ ပြောသည်။

“အို ဖခင်။ ဖခင်တို့ဟာ ကျွန်တော်မကို လမ်းက ကောက်ယူလာ

တာ မဟုတ်ပါဘူး။ ကျွန်တော်မဟာ ရေဆိပ်က ဆောင်ယူလာတဲ့ ကျွန် လည်း မဟုတ်ပါဘူး။ ကျွန်တော်မရဲ့ဖခင် ဓနဥ္စယသူဌေးကြီးက သူကြွယ် ကြီး ရှစ်ယောက်စီမှာ ကျွန်တော်မကို အပ်နှံပြီးလွှတ်လိုက်တာပါ။ ဒါကြောင့် သူကြွယ်ကြီးတွေကို ခေါ်ပေးပါ။ ကျွန်တော်မမှာ အပြစ်ရှိ မရှိ သူတို့ရှေ့မှာ သက်သေရှင်းပါရစေ"

မိဂါရသူဌေးသည် လင့်အိမ်သို့ ဝိသာခါလိုက်ကာနီး၌ ဓနဥ္စယ သူဌေးက အပ်နှံလိုက်သော သူကြွယ်ကြီးရှစ်ယောက်ကို အိမ်သို့ ပင့်ဖိတ် သည်။ လူစုံညီလျှင် သူက စတင်ပြီး စွဲချက်တင်တော့၏။

"ရေမရောတဲ့ နို့ဃနာကို ရွှေခွက်နဲ့ထည့်ပြီး သုံးဆောင်နေတဲ့ငါ့ကို 'အညစ်အကြေး စားသုံးသူ'လို့ မင်းတို့ သမီးက ဆိုသကွ"

ထိုအခါ သူကြွယ်တစ်ယောက်က "ချစ်သမီး၊ အဲသည်လို ဆိုတာ ဟုတ်သလား"ဟု ဝိသာခါအား မေး၏။

"အဖေတို့၊ ကျွန်တော်မရဲ့ ယောက္ခမဟာ ရေမရောတဲ့ နို့ဃနာကို ရွှေခွက်နဲ့ထည့်ပြီး သုံးဆောင်နေတုန်းမှာ ထေရ်ရှင်တစ်ပါး ဆွမ်းရပ်လာတာ ကို အရေးမလုပ်ဘဲ နေတဲ့အတွက် 'သြော်၊ ငါ့ယောက္ခမကြီးဟာ ဤကိုယ်၏ အပြစ်၌ ကောင်းမှုကိုမပြု။ ရှေးဘဝက ပြုခဲ့ဖူးသော ကောင်းမှုကံ၏ အကျိုး ကိုသာ ခံစား စံစားနေပါတကား'လို့ တွေးမိတဲ့အတွက် 'ကန်တော့ဆွမ်းပါ ဘုရား။ တပည့်တော်မရဲ့ ယောက္ခမကြီးဟာ အဟောင်းကိုသာ စားသောက် ပါတယ်'လို့ လျှောက်ထားမိတာ အပြစ်ရှိပါသလား"

ထိုအခါ သူကြွယ်ကြီးများက မိဂါရအား ပြိုင်တူမေးကြ၏။

"သည်စကားကြောင့် ကျုပ်တို့သမီးမှာ တစ်စိုးတစ်စိမျှ အပြစ်မရှိ။ အဲသည်လို အပြစ်မရှိဘဲနဲ့ သူဌေးကြီး ဘာကြောင့် ဒေါသဖြစ်ရတာတုန်း"

သို့သော် မိဂါရသူဌေးက သူမြုံထားခဲ့သော ဝိသာခါ၏ အပြစ် များကို စီတန်းကာ ဖော်ထုတ်ပြီး စွဲချက်တင်၏။

ယင်းတို့မှာ....

တစ်ရံသောအခါ သန်းခေါင်ယံအချိန်၌ ဝိသာခါသည် အစေအပါး ယောကျ်ားမိန်းမများခြံရံလျက် အိမ်နောက်သို့ ဆင်းသွားခြင်း။

လင့်အိမ်သို့ လိုက်ပါသွားတော့မည့် သမီးအား ဓနဥ္စယသူဌေးကြီးက အတွင်းမီးကို အပြင်သို့မထုတ်ရ။ အပြင်မှ မီးကို အတွင်းသို့မသွင်းရဟု မှာကြားလိုက်ခြင်း။

ထို့အပြင် စုစုပေါင်း ဆယ်ချက်ဖြစ်၏။

ဤသည်တို့ကို ဝိသာခါသည် တစ်ချက်ချင်း ပြေလည်အောင် ရှင်းလင်းပြလိုက်ရာ မိဂါရသူဌေး မချေပနိုင်တော့။ မချေပနိုင်ရုံသာမက သူသည် လူပေါကြီးလုံးလုံး ဖြစ်သွားတော့သည်။

"ဟုတ်ပါပြီ။ ရှိပါစေတော့"

သို့လျှင် မိဂါရသူဌေးက ကျေနပ်သွားငြား ဝိသာခါ မကျေနပ်ပါ။

"ကျွန်တော်မမှာ ဘာအပြစ်မှမရှိဘူးဆိုတာ သက်သေရှင်းပြီးတဲ့နောက်မှာ ယောက္ခမကြီးရဲ့ဆန္ဒအတိုင်း သည်အိမ်က ဆင်းပါတော့မယ်"

"ဟဲ့ သမီး၊ သွားဖို့မလိုတော့ဘူးလေ။ နေမြဲ နေပေါ့"

မိဂါရ တားမြစ်သည်။

"အဖေ၊ ကျွန်တော်မဟာ ငယ်စဉ်တောင်ကျေး ကလေးဘဝကတည်းက ရတနာသုံးပါးနဲ့ မွေ့လျော်ခဲ့သူပါ။ အခုလို ဘုရားအစရှိတဲ့ သံဃာတော်များကို မဖူးမြင်ရ မလှူဒါန်းရတဲ့ နေရာမျိုးမှာ မနေပါရစေနဲ့တော့"

ဝိသာခါက ပေါ်လာသောအချက်ကို အမိအရ ဆုပ်ကိုင်လိုက်သည်။

"ဘုရားအမှူးရှိတဲ့ သံဃာတော်တွေကို ငါ့သမီး သဘောကျ ပင့်ဖိတ်လှူဒါန်းဖို့လည်း ခွင့်ပြုပါတယ်ကွယ်"

သူကြွယ်ကြီး ရှစ်ဦးရော ဝါသာခါပါ အတိုင်းထက် အလွန် ဝမ်းမြောက်ကြရသည်။ ထို့နေ့မှစတင်ပြီး ယခင်က ကိုယ်လုံးတီးတက္ကတွန်း များ လွှမ်းခြုံနေခဲ့သော မိဂါရသူဌေး၏အိမ်မှာ မြတ်စွာဘုရားနှင့် တပည့် သာဝကများအား ဆည်းကပ်သောအိမ် ဖြစ်လာလေ၏။

တစ်နေ့သ၌ ဝိသာခါသည် မြတ်စွာဘုရားနှင့် သံဃာတော်များ အား ပင့်ဖိတ်ပြီး ဆွမ်းခဲဖွယ်ဘောဇဉ်များ ဆက်ကပ်လှူဒါန်းသည်။ ဆွမ်း အနုမောဒနာ တရားနာရန်အတွက် ဝိသာခါသည် ယောက္ခမကြီးကို ခေါ် သည်။ မိဂါရသူဌေး ထွက်မလာသဖြင့် ချွေးမက ဒုတိယအကြိမ် သွားခေါ် ပြန်သည်။

"အဖေ သည်ကာပဲ နာတော့မယ်သမီး"

သူဌေးသည် တင်းတိမ်ယံအတွင်းမှ အမှန်ပင် တရားနာပါသည်။ တရားတော်အဆုံးတွင် သူသည် သောတာပန်တည်သွားရာ အခန်းတွင်းမှ ပြေးထွက်လာ၏။ မြတ်စွာဘုရား၏ ခြေတော်အစုံကို နမ်း၏။

"မြတ်စွာဘုရား၊ တပည့်တော်ဟာ အသက် ဒါလောက်ရလာတာ တောင် သာသနာတော်မြတ်ကြီးမှာ ပေးလှူရတဲ့အကျိုးဟာ ဒါလောက် ကြီးမားတယ်ဆိုတာ မသိခဲ့ပါဘူး ဘုရား။ အခုမှပဲ တပည့်တော်ရဲ့ ချွေးမကို အမှီပြုပြီး သိရတဲ့အတွက် အပါယ်ဆင်းရဲက လွတ်ရပါပြီ ဘုရား။ ဝိသာခါ ဟာ တပည့်တော်ရဲ့ အမေ ဖြစ်သွားပါပြီဘုရား"

ဤသို့ဖြင့် ဝိသာခါမှာ ထိုအချိန်မှ အစပြုပြီး မိဂါရသူဌေး၏ အမေ 'မိဂါရမာတာ' ဟူ၍ အမည်တစ်မျိုး တိုးလာလေ၏။

ဝိသာခါမှာ သူ့အဖေ ဓနဉ္စယသူဌေးက မင်္ဂလာတန်ဆာအဖြစ် ဆင်ယင်ပေးလိုက်သော မဟာလ္လတာ တန်ဆာရှိသည်။ ထို မဟာလ္လတာ တန်ဆာတွင် ကွမ်းစား လေးစလယ်ရှိသော ဝရဇိန်ကျောက်၊ ပုလဲ ၁၁ စလယ် ကွမ်းစား၊ သန္တာ ၂၂ စလယ် ကွမ်းစား၊ ပတ္တမြား ၃၃ စလယ်

ကွမ်းစား ပါဝင်ရာ ငွေကြေးရှိတိုင်း မဝတ်ဆင်နိုင်ပေ။ တစ်ကွမ်းစားမှာ တစ်ပြည်နှင့် ညီသောကြောင့် ဆင်ပြောင်ငါးစီး၏ အားနှင့်ညီသော ခွန်အား ဗလရှိသည့် ဝိသာခါသာ ဝတ်ဆင်နိုင်သည်။

ထိုတန်ဆာကို ထိန်းသိမ်းသယ်ယူရန် ဝိသာခါနှင့် တန်းတူ ခွန်အားဗလရှိသော မိန်းမတစ်ယောက်ကို သီးခြားထားရသည်။ ထိုသို့ မလွယ်ကူသောကြောင့် ယောက္ခမ မိဂါရသူဌေးက 'ဃနမဋ္ဌက'တန်ဆာကို ပြုလုပ်ကာ ချွေးမအား ပေးသည်။

ထို့နောက် မကြာမီ ဝိသာခါသည် မြတ်စွာဘုရား အမှူးပြုသော သံဃာတော်များအား ပင့်ဖိတ်ပြီး ဆွမ်းကပ်ပြန်သည်။ ဤတစ်ကြိမ် ဆွမ်း အနုမောဒနာတရားတော်အဆုံးတွင်ကား မိဂါရသူဌေးကတော်မှာ သောတာပန် တည်လေ၏။ မိဂါရသူဌေး၏အိမ်သည် ထိုအချိန်မှစတင်ပြီး မြတ်စွာ ဘုရား၏ သာသနာတော်အတွက် ဟင်းလင်းပွင့်သော တံခါးရှိသည့်အိမ် ဖြစ်လာတော့သည်။

တစ်ရံခါသော် ဝိသာခါသည် မြတ်စွာဘုရား၏ ကျောင်းတော်သို့ မဟာလ္လတာတန်ဆာကို ဝတ်ဆင်ပြီး သွားသည်။ သို့သော် မြတ်စွာဘုရား၏ ရှေ့တော်သို့ ဝင်ကာနီး၌ ထိုတန်ဆာကိုချွတ်ပြီး အထိန်းမိန်းမသို့ ပေးသည်။ အထိုင်အထ လွတ်လပ်ပေါ့ပါးသော ဃနမဋ္ဌက တန်ဆာကို ပြောင်းလွဲ ဆင်မြန်းသည်။

ဝိသာခါသည် မြတ်စွာဘုရား၏ တရားတော်ကို နာကြားပြီး နောက် လျှောက်ထားစရာရှိသည်များကို မေးမြန်းလျှောက်ထားပြီးလျှင် အိမ်သို့ပြန်လာသည်။ အိမ်သို့ရောက်မှ မဟာလ္လတာတန်ဆာ ထိန်းသိမ်းသည့် မိန်းမသည် အလန့်တကြားအော်ဟစ်ကာ ကျောင်းတော်သို့ ပြန်ပြေးသည်။ မဟာလ္လတာတန်ဆာထုပ် မေ့ကျန်ခဲ့သောကြောင့် ဖြစ်သည်။

ပစ္စည်းထုပ်ကိုရှက်လျက် ထိုမိန်းမပြန်လာသောအခါ ဝိသာခါက

စစ်ဆေးကြည့်သည်။ ထိုအထုပ်ကို မြတ်စွာဘုရားရှေ့တော်၌ မတွေ့။ ကျောင်းတော်ရှေ့ စောင်းတန်းထဲမှ ယူခဲ့ရကြောင်း။ စောင်းတန်းထဲသို့ ထို အထုပ်ရောက်နေခြင်းမှာ အရှင်အာနန္ဒာရွှေ့ထားခြင်းဖြစ်ကြောင်းသိရသည်။

"အရှင်မြတ်ရဲ့ လက်တော်နဲ့ကိုင်ပြီးသားပစ္စည်းကို ငါဝတ်ဆင်ရင် မရိုသေရာ ရောက်တော့မယ်။ သည်ပစ္စည်းကိုရောင်းပစ်ပြီး ကျောင်းဆောက်တာ အကောင်းဆုံးပဲ"

သို့ကြောင့် ဝိသာခါသည် ပန်းထိမ်ပညာရှင်များအား အိမ်သို့ ခေါ်ကာ မဟာလ္လတာတန်ဆာကို အဖိုးဖြတ်ခိုင်းသည်။ ပညာရှင်များက ထိုပစ္စည်းအတွက် လက်ခ တစ်သိန်း၊ ပစ္စည်းတန်ဖိုး သိန်း ၉၀၀ ဟု တန်ဖိုး ဖြတ်ကြသည်။ ဝိသာခါ၏ ပစ္စည်းထိန်းသည် မဟာလ္လတာတန်ဆာကို ယူ ဆောင်လျက် ရာဇဂြိုဟ်မြို့တွင်းသို့ လှည့်လည်ကာ ကိုးကုဋေတစ်သိန်းဖြင့် ရောင်းချသည်။ လက်ရာကို ကြိုက်၊ ပစ္စည်းကို သဘောကျသော်ငြား ဝတ်ဆင်နိုင်သော အားခွန်ဗလ မရှိသောကြောင့် မဝယ်ဝံ့ကြပေ။

သို့အတွက် နောက်ဆုံး၌ ဝိသာခါပင် သူ့ပစ္စည်းကို ပြန်လည်ဝယ်ယူကာ မြတ်စွာဘုရားကျောင်းတော် ဆောက်လုပ်ရန် မြေနေရာကို ကိုးကုဋေ ဖြင့် ဝယ်ယူသည်။ မြေနေရာမှာ ရာဇဂြိုဟ်မြို့၏ အရှေ့တံခါးအနီးတွင် ဖြစ်သည်။ ထို့နောက် အဆောက်အအုံ ဆောက်လုပ်ရန်အတွက် အသပြာ ကိုးကုဋေကို ဝိသာခါ၏ အိတ်ထဲမှ စိုက်ထုတ်သည်။

ဝိသာခါ၏ကောင်းမှု ကျောင်းတော်ကြီးမှာ 'ပုဗ္ဗာရုံ' ဖြစ်၏။ ဘုံ ခုနစ်ဆင့်ရှိပြီး တိုက်ခန်းတစ်ထောင်ဖြင့် ဖွဲ့စည်းထားသော ကျောင်းတော် ကြီးမှာ အရှင်မဟာမောဂ္ဂလာန် ကိုယ်တော်မြတ်ကြီး ကူညီစောင့်ရှောက် သောကြောင့် ကိုးလဖြင့် ပြီးစီး၏။

ပုဗ္ဗာရုံကျောင်း ဒါယိကာမကြီး ဝိသာခါသည် သားသမီးနှစ်ကျိပ် မွေးဖွားသည်။ သားဆယ်ယောက်၊ သမီးဆယ်ယောက်ဖြစ်သည်။ သူသည်

အသက် ၁၂၀ ရှည်သော်ငြား ဆံပင်မဖြူ အရွယ်မကျ။ ၁၆နှစ်သမီးကဲ့သို့ ရှိသည်။

သားသမီးနှစ်ကျိပ်သည် တစ်ယောက်လျှင် သားတစ်ကျိပ် သမီးတစ်ကျိပ်စီ ပေါက်ဖွားပြန်သောအခါ မြေးပေါင်း ၄၀၀ ဖြစ်လာသည်။ ထိုမြေးများကလည်း အထက်နည်းအတိုင်း ပွားစည်းပြန်ရာ ဝိသာခါ၌ သားသမီးမြေးမြစ် စုစုပေါင်း ၈၄၂၀ ရှိသည်။

ကျောင်းဒါယိကာမကြီး ဝိသာခါသည် ထိုသားသမီး မြေးမြစ်များခြံရံလျက် မြတ်စွာဘုရား၏ကျောင်းတော်သို့ သွားသည်။ ဘေးမှမြင်ရသူတို့သည် မည်သူဝိသာခါဟု မခွဲခြားတတ်ကြချေ။ ဝိသာခါ၏နုပျိုမှုကြောင့်ဖြစ်သည်။ သူသည် ကျောင်းတော်ရေစက်ချပွဲကို ကိုးကုဋေ အကုန်အကျခံကာ ကျင်းပအပြီး၌ သားသမီးမြေးမြစ်များ ခြံရံလျက် ကျောင်းတော်ကြီးကို လှည့်ပတ်ကြည့်ရှုသည်။ အဆောင်ဆောင် အခန်းခန်း စုလစ်မွန်းချွန်များဖြင့် တင့်တယ်နေသော ကျောင်းတော်ကြီးကို ကြည့်ကာ ဝိသာခါသည် ဥဒါန်းကျူးရင့်၏။

"ငါဟာ ထုံး အင်္ဂတေ မြေနီ မြေဖြူတွေနဲ့ လိမ်းကျံထားတဲ့ နလုံးမွေ့လျော် ပျော်ဖွယ်ရာရှိတဲ့ပြာသာဒ်ကျောင်းကြီးတစ်ဆောင်ကို ဘယ်အခါမှ ပေးလှူဒါန်းရပါမတုန်းလို့ တောင့်တခဲ့တာဟာ ကနေ့ ပြည့်ဝပြီ။

"ညောင်စောင်း၊ အင်းပျဉ်၊ ဘုံလျှို၊ ခေါင်းအုံး၊ အိပ်ရာနေရာ၊ ကျောင်းဘဏ္ဍာတွေကို ဘယ်ခါများမှ သံဃာတော် အရှင်မြတ်များကို ပေးလှူရပါမတုန်းဆိုပြီး တောင့်တခဲ့တဲ့ ငါ့ဆန္ဒဟာ ကနေ့ပြည့်ဝပါပြီကော။

"ငါဟာ အမဲ၊သားငါး အစရှိတဲ့ စားရေးတံဆွမ်း ဘောဇဉ်အလှူကို ဘယ်အခါများကျမှ ပေးလှူခွင့်ကြုံပါမလဲလို့ တောင့်တခဲ့တာ အခုပြည့်ဝပါပေါ့လား။

"ကာသိတိုင်းဖြစ် အဝတ်၊ ခေါမတိုင်းဖြစ် အဝတ်၊ ဝါချည်ပုဆိုး

အဝတ်ဖြစ်တဲ့ သင်္ကန်းတွေကို ဘယ်အခါများမှ ပေးလှူရပါမတုန်းလို့ ငါ တောင့်တခဲ့တာ ကနေ့ ပြည့်ဝပြီ။

"ထောပတ်၊ ဆီဦး၊ ပျား၊ တင်လဲ ဆိုတဲ့ ဆေးအလှူကို ဘယ်အခါ များမှ ပေးလှူရပါမလဲလို့ တွေးတောစိတ်ကူးခဲ့သမျှဟာ ကနေ့ ပြည့်ဝပြီ လေ။

ကျောင်းတိုက်အတွင်းရှိ သံဃာတော် အရှင်မြတ်များသည် ဝိသာခါ၏ အထက်ပါ ဥဒါန်းကျူးရင့်သံကို ကြားရသဖြင့် ရှင်တော်မြတ် ဘုရားအား လျှောက်ထားကြ၏။

"အရှင်မြတ်ဘုရား၊ ဒါယိကာမကြီး ဝိသာခါ တေးချင်းဆိုတာကို တပည့်တော်တို့ တစ်ခါမျှမကြားခဲ့ဖူးပါဘူးဘုရား။ ကနေ့မှာတော့ ဒါယိကာ မကြီး ဝိသာခါဟာ သားသမီး မြေးမြစ်တွေခြံရံပြီး ကျောင်းတော်ကို လှည့်ပတ်သွားရင်း တေးချင်းဆိုပါတယ်ဘုရား။ ဒါကြောင့် ကျောင်းအမ ကြီးဟာ ရူးသွပ်သွားပြီလား ဘုရား။ ဒါမှမဟုတ် သည်းခြေများ ပျက်စီးရော့ သလား ဘုရား"

"ချစ်သားရဟန်းတို့။ ငါ၏သမီးဝိသာခါသည် တေးချင်းသီဆို ခြင်း မဟုတ်။ သူ၏ အလိုဆန္ဒ ပြည့်ဝလေပြီ။ သူ၏ တောင့်တအပ်သော ဆုတောင်းတို့ အထွတ်အထိပ်ရောက်ရပေပြီဟူ၍ နှစ်သက်ဝမ်းမြောက်သော စိတ်ဖြင့် ဥဒါန်းကျူးရင့်ခြင်း ဖြစ်ပေ၏"

ရှင်တော်မြတ်ဘုရားက ရှင်းလင်း မိန့်ကြားတော်မူ၏။ ထိုမှ တစ်ဖန် ရဟန်းတော်များ မေးလျှောက်သောကြောင့် ဝိသာခါ၏ ရှေးပုဗ္ဗကမ္မ ကို ဟောကြားပြီးလျှင် ဤသို့ မိန့်တော်မူ၏။

"ချစ်သားရဟန်းတို့၊ ဥပမာ မည်သည်ကား 'လိမ္မာလှစွာသော ပန်းသည်သည် အထူးထူးသောပန်းတို့ကို အစုအပုံကြီးပြု၍ အထူးထူး အပြားပြားသော ပန်းကုံးတို့ကိုပြုဘိသကဲ့သို့' ဤအတူသာလျှင် ဝိသာခါ၏

စိတ်သည် အထူးထူး အပြားပြားသော ကောင်းမှုတို့ကို ပြုခြင်းငှာညွတ်၏ ”

ကျောင်းဒါယိကာမကြီး ဝိသာခါသည် မြတ်စွာဘုရားထံတော်မှ ဆုရှစ်ပါးကိုလည်း ရရှိပေသည်။ ထိုဆုရှစ်ပါး ရရှိပုံမှာ ဤသို့ဖြစ်ပေ၏။

အခါတစ်ပါးဝယ် ဝိသာခါသည် မြတ်စွာဘုရားအမှူးပြုသော သံဃာတော်များအား “နက်ဖြန် နံနက်မှာ တပည့်တော်မရဲ့ ဆွမ်းအလှူကို ကြွရောက်ခံယူတော်မူပါဘုရား”ဟု ဖိတ်မန်ထား၏။

နောက်တစ်နေ့ အရုဏ်တက်ချိန်တွင် ဇမ္ဗူဒီပါတစ်ကျွန်းလုံးကို ဖြန့်ကြက်ရွာချသောမိုးကြီး သည်းထန်စွာရွာလေ၏။ ရဟန်းတော်များလည်း မြတ်စွာဘုရား၏ ခွင့်ပြုချက်ဖြင့် မိုးရေထွက်ချိုးတော်မူကြ၏။ ထိုအချိန်တွင် ဝိသာခါ၏ လက်သုံးအမျိုးသမီးတစ်ယောက်သည် ဆွမ်းကပ်ရန် အသင့်ဖြစ်နေကြောင်း လျှောက်ထားရန် ကျောင်းတော်သို့လာသည်။ ရေချိုးနေသော အရှင်မြတ်များကို မြင်ရသောအခါ အိမ်သို့ပြန်ပြေးလာပြီး ဝိသာခါအား တိုင်တန်း၏။

“အရှင်မ၊ ရဟန်းတော်တွေဟာ အစေလက တက္ကတွန်းတွေလို အဝတ်ချည်းစီးနဲ့ ရေချိုးနေကြလို့ မြတ်စွာဘုရားဆီကို ကျွန်တော်မ မရောက်ခဲ့ပါဘူး”

ထိုအချိန်က သံဃာတော် အရှင်မြတ်များသည် မြတ်စွာဘုရား ခွင့်ပြုထားသည့် သင်္ကန်းသုံးထည်သာ သုံးဆောင်တော်မူကြရ၏။ မိုးရေခံ သင်္ကန်းကို ခွင့်မပြုသေးသဖြင့် ထိုကဲ့သို့ ရေချိုးတော်မူကြရခြင်းဖြစ်၏။ ဤအကြောင်းများကို ဝိသာခါသိသည်။ သို့ဖြစ်၍ ထိုနေ့က ဆွမ်း အနုမောဒနာ တရားနာအပြီး၌ မြတ်စွာဘုရားအား ဤသို့ နားတော်လျှောက်ကြား၏။

“ဘုန်းတော်ကြီးလှပါတဲ့ အရှင်မြတ်ကြီးဘုရား။ တပည့်တော်မဟာ အရှင်ဘုရားဆီက ဆုရှစ်ပါး တောင်းခံပါရစေဘုရား”

ထိုအခါ ရှင်တော်မြတ်ဘုရားက မိန့်တော်မူ၏။

"ဝိသာခါ။ မြတ်စွာဘုရားတို့သည် ဆုပေးခြင်းမှ လွန်မြောက်တော်မူကြကုန်၏"

"အရှင်မြတ်ကြီးဘုရား။ တပည့်တော်မ တောင်းခံမယ့်ဆုတွေဟာ အပြစ်လည်း ကင်းတဲ့အပြင် အပ်လည်း အပ်ပါတယ် ဘုရား"

"ဤသို့ဖြစ်က.... ဆိုလော့ ဝိသာခါ"

မြတ်စွာဘုရားခွင့်ပြုတော်မူသဖြင့် ဝိသာခါ တောင်းသောဆုများမှာ၊

၁။ တပည့်တော်မဟာ သံဃာတော် အရှင်မြတ်များကို 'မိုးရေခံသင်္ကန်း'များ အသက်ထက်ဆုံး လှူဒါန်းပါရစေ ဘုရား။

၂။ အာဂန္တုရဟန်းတော်များကို ဆွမ်းဘောဇဉ် လှူဒါန်းပါရစေ ဘုရား။

၃။ ခရီးသွားသံဃာတော်များကိုလည်း ဆွမ်းဘောဇဉ် ဆက်ကပ်ရပါလို၏ ဘုရား။

၄။ အနာရောဂါ ကပ်ရောက်နေတဲ့ မကျန်းမာတဲ့ ရဟန်းတော်များကို ဆွမ်းဘောဇဉ် ဆက်ကပ်ခွင့် ရရပါလို၏ ဘုရား။

၅။ ဂိလာနပုဂ္ဂိုလ်များကို စောင့်ရှောက်နေတဲ့ ရဟန်းတော်များကိုလည်း ဆွမ်းဘောဇဉ် ဆက်ကပ်ခွင့် ရလိုပါတယ် ဘုရား။

၆။ မကျန်းမာတဲ့ ရဟန်းတော်များကို ဆေးဝါးအမြဲလှူခွင့် ရချင်ပါတယ် ဘုရား။

၇။ ရဟန်းသံဃာကို ယာဂု အမြဲတမ်းကပ်ခွင့် ပေးတော်မူပါ ဘုရား။

၈။ ရှင်တော်မြတ်ဘုရား၊ တပည့်တော်မဟာ ဘိက္ခုနီတို့ကို ရေသနုပ်သင်္ကန်း လှူဒါန်းခွင့် ရလိုပါတယ်ဘုရား"

ထိုအခါ ရှင်တော်မြတ်ဘုရားက ဝိသာခါအား မေးတော်မူသည်။

"သင်သည် အဘယ်အကျိုး အာနိသင်ကိုမြင်၍ ဤဆုရှစ်ပါးကို တောင်းသနည်း"

"အရှင်ဘုရား။ ဝါကျွတ်တဲ့ ရဟန်းတော်များဟာ အရှင်ဘုရားကို ဖူးမြော်ဖို့အတွက် သာဝတ္ထိကို ရောက်လာကြတဲ့အခါ ဝါတွင်းကာလက ပျံလွန်တော်မူခဲ့တဲ့ ရဟန်းတော်များရဲ့ အမည်နာမကိုလျှောက်ထားပြီး၊ သူရဲ့ လားရာဂတိကိုလည်း စုံစမ်းကြမှာပါပဲ ဘုရား။ အရှင်ဘုရားကလည်း ပုထုဇဉ်၊ သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ်၊ ရဟန္တာ စသည်ဖြင့် မြင်တော်မူတဲ့အတိုင်း မြွက်ကြားပါလိမ့်မယ် ဘုရား"

မြတ်စွာဘုရားထံတော်၌ ဆုရှစ်ပါး တောင်းခံရခြင်းအကြောင်းသို့ မရောက်သေးသဖြင့် ဝိသာခါက ဆက်လက်လျှောက်ထားသည်။

"အဲသည်လို အရှင်ဘုရားရဲ့ မိန့်တော်သံကို ကြားရတဲ့တပည့်တော်မက 'အရှင်ဘုရား၊ ပျံလွန်တော်မူသွားတဲ့ အဲသည်ကိုယ်တော်ဟာ သာဝတ္ထိကို ရောက်ဖူးပါသလား ဘုရား'လို့ တပည့်တော်မက စုံစမ်းမိတဲ့ အခါမှာ 'ရောက်ဖူးတယ်'ဆိုတဲ့ အဖြေကိုကြားရရင် အဲသည်အရှင်ဟာ တပည့်တော်မရဲ့ အလှူကို ခံယူဖူးသူပါကလားလို့ သိရပါလိမ့်မယ် ဘုရား"

"ဤသို့ သိရသဖြင့် သင့်တွင် မည်ကဲ့သို့ အကျိုးရှိသနည်း"ဟု ရှင်တော်မြတ်ဘုရားက မေးတော်မူသည်။

"တပည့်တော်မရဲ့ အလှူကို ခံယူဖူးသူရယ်လို့ သိရရင် အဲသည် အလှူကို အောက်မေ့ဆင်ခြင်ပြန်တဲ့အတွက် တပည့်တော်မမှာ ဝမ်းမြောက်ရပါမယ် ဘုရား။ ဝမ်းမြောက်တော့ နှစ်သက်။ -- နှစ်သက်တဲ့အတွက် ချမ်းသာခံစားရ။ -- ချမ်းသာကို ခံစားရလို့ စိတ်ဟာ တည်ကြည်။ -- အဲသည် တည်ကြည်ခြင်းကြောင့် တပည့်တော်မမှာ ဣန္ဒြေပွားပါလိမ့်မယ် ဘုရား။ ဣန္ဒြေပွားတဲ့အတွက် ဗိုလ်ကိုလည်း ပွားစေမှာပါဘုရား"

ဝိသာခါ၏ ရှည်လျားသောကြောင်းကျိုးဆက်စပ်သည့် ရှင်းလင်းချက်ကို မြတ်စွာဘုရားက သာဓုခေါ်တော်မူ၏။

"ဝိသာခါ။ ကောင်းပေစွ ကောင်းပေစွ။ သင်သည် ဤအကျိုးအာနိသင်ကို ကောင်းစွာမြင်သောကြောင့် ငါ၏ထံ၌ ဆုရှစ်ပါးကို တောင်းခံခြင်းမှာ ကောင်းပေစွ။ သင့်အား ထိုဆုရှစ်ပါးကို ငါပေး၏ ဝိသာခါ"

ကျောင်းဒါယိကာမကြီး ဝိသာခါသည် အောက်ပါအလှူများကိုလည်း သူ၏အိမ်၌ မပြတ်ထားရှိသည်။

၁။ နေ့စဉ်နေ့တိုင်း စာရေးတံဆွမ်း ၅၀၀။

၂။ ၁၅ ရက်တစ်ကြိမ်လှူသော ပက္ခဆွမ်းကလည်း ၅၀၀ ပင်။

၃။ နေ့စဉ် ယာဂုဆွမ်း ၅၀၀။

၄။ ၁၅ ရက်တစ်ကြိမ်လှူသော ပက္ခယာဂုဆွမ်းလည်း ၅၀၀ ပင်။

၅။ အိမ်ဦး၌ထားပြီး လှူသောဆွမ်း ၅၀၀။

၆။ ခရီးသွားရဟန်းတို့အား လှူသော ဆွမ်းကလည်း ၅၀၀ ပင်။

သို့ကြောင့် ဝိသာခါ၏နေအိမ်မှာ နံနက်ချိန်ခါတွင် သံဃာတော်အရှင်မြတ်များပြည့်လျက် ရွှေသင်္ကန်းရောင် တောက်ပဝင်းထိန်နေ၏။ ဒါယိကာမကြီးသည် ဤသို့လျှင် တစ်နံနက်လုံး မမောနိုင် မပမ်းနိုင် လှူဒါန်းပြီးနောက် ကျောင်းတော်သို့သွားကာ ဆေးဝါးနှင့် အဖျော်များ ဆက်ကပ်လှူဒါန်းပြီး တရားတော်ကို နာယူသည်။

သို့အတွက် "ရဟန်းတို့။ လှူဒါန်းခြင်း၌ မွေ့လျော်ကုန်သော ငါ၏ သာဝိကာ ဥပါသိကာတို့တွင် မိဂါရမာတာ ဝိသာခါသည် အမြတ်ဆုံးဖြစ်၏"ဟူ၍ ရှင်တော်မြတ်ဘုရား မိန့်တော်မူကာ ဝိသာခါအား 'ဒါနာဘိရတာ' ဧတဒဂ် ထားတော်မူခြင်းဖြစ်၏။



## ၃။ အင်္ဂဗဟုသုတ တေဒဂ်ရ ဥပါသိကာ

မြတ်စွာဘုရားထံတော်မှ "အကြားအမြင်များကုန်သော ငါ၏ သာဝိကာ ဥပါသိကာတို့တွင် အမြတ်ဆုံးဖြစ်ပေ၏"ဟု အင်္ဂဗဟုသုတ တေဒဂ် အထားခံရသော ဥပါသိကာမှာ 'ခုဇ္ဇုတ္တရာ' ပေတည်း။

သူသည် လွန်ခဲ့သော ကမ္ဘာတစ်သိန်းထက်ကပင် အင်္ဂဗဟုသုတ တေဒဂ်ကို ပဒုမုတ္တရ မြတ်စွာဘုရား၏ အထံတော်၌ တောင်းခဲ့သူဖြစ်သည်။ သူသည် သံသရာဝယ် စုန်ဆန်မျောပါခဲ့ပြီးနောက် ဂေါတမမြတ်စွာဘုရား၏ ရှေ့လက်ထက်တော်ဝယ် ကောသမ္ဗီသူဌေး၏ မွေးစားသားဖြစ်သော ဃောသကသူဌေးအိမ်၌ အထိန်းအယ၏သမီး ဖြစ်လာလေသည်။

ခုဇ္ဇုတ္တရာ အရွယ်ရောက်လာသောအခါ သာမာဝတီနှင့်အတူ ဥတေနမင်းစော၏ နန်းတော်သို့ ရောက်သွားသည်။ မိဖုရားခေါင်ကြီး တစ်ပါးဖြစ်သော သာမာဝတီမိဖုရားထံ၌ ခစားရသည်။

မိဖုရားခေါင်ကြီးသည် နေ့စဉ်ပန်းဝယ်ရန် ခုဇ္ဇုတ္တရာအား တာဝန်ပေးသည်။ သူသည် နေ့စဉ်ပန်းဖိုး ရှစ်သပြာရငွေး တစ်ဝက်ကို ခိုးထားပြီး လေးသပြာဖြင့်သာ ပန်းဝယ်ပေးလေ့ရှိသည်။

ကောသမ္ဗီပြည်သို့ သုံးလောကထွတ်ထား သဗ္ဗညုမြတ်စွာဘုရား ကြွရောက်တော်မူလာပြီးသည့်နောက် တစ်ခုသောနေ့တွင် သူသည် ပန်းဝယ်ရန် ထွက်လာသည်။ ပန်းများ မဝယ်ရသေးမီ အသိအိမ် တစ်အိမ်သို့ ဝင်သည်။ ထိုအိမ်တွင် မြတ်စွာဘုရားနှင့် သံဃာတော် အရှင်မြတ်တို့အား ဆွမ်းကပ်ရန် ပြင်ဆင်နေသည်။ ခုဇ္ဇုတ္တရာလည်း ဝင်ရောက်ကူညီ ဆောင်ရွက်ပေးသည်။

မြတ်စွာဘုရားနှင့် သံဃာတော် အရှင်မြတ်များ ကြွလာတော်မူကြပြီ။ ဆွမ်းဆက်ကပ်အပြီး၌ ဆွမ်းအနုမောဒနာ တရားနာကြားကြ၏။ ခုဇ္ဇုတ္တရာသည် နန်းတွင်းသူဖြစ်ငြား ရတနာသုံးပါးကို မသိချေ။ မသိသောကြောင့် အများ တရားနာရာသို့ ရောယောင်ပြီး တရားနာမိ၏။

ရှင်တော်မြတ်ဘုရားသည် မင်းပါးနေသူတို့နှင့် သင့်လျော်သော ဓမ္မကထာကို ရှေးဦးစွာ ညွှန်ကြားပြပြီးမှ တရားတော်ကို ဆက်လက်ဟောကြားတော်မူသည်။ ခုဇ္ဇုတ္တရာမှာ ငုပ်နေသောပါရမီ ပြန်ပေါ်လာကာ တရားတော်အဆုံး၌ သောတ္တာပတ္တိဖိုလ်သို့ ဆိုက်လေ၏။ ထိုအခါ သောတာပန်ခုဇ္ဇုတ္တရာမှာ ခိုးဝှက်လိမ်ကောက်လိုစိတ် မရှိတော့ပေ။

သို့အတွက် သူသည် ရှစ်သပြာဖိုးအပြည့်အဝ ပန်းဝယ်ဖြစ်သည်။ နန်းတော်သို့ပြန်ရောက်၍ မိဖုရားခေါင်ကြီးအား ်များစွာသောပန်းတွေ ဆက်သသောအခါ မိဖုရားခေါင်ကြီးမှာ တအံ့တသြ ဖြစ်နေလေတော့၏။

"အမယ်.... ကနေ့ ခါတိုင်းထက် မဖုရားကို ပိုချစ်တဲ့အတွက် ပန်းတွေ များလာတာထင်တယ်"

"သခင်မကို အချစ်ပိုလာလို့၊ ပန်းတွေပိုလာတာ မဟုတ်ပါဘူး။

ခါတိုင်းလို မခိုးတော့လို့ ဖြစ်ပါတယ်”

ခုဇ္ဇုတ္တရာ၏ အဖြေသည် ဇာတ်ရည်မလည်ပေ။ သို့ကြောင့် ဇာတ်ရည်လည်အောင် ရှင်းပြအပြီး၌ ဤသို့ ဆက်ပြော၏။

“ကနေ့ မခိုးတော့ဘဲ ရှစ်သပြာဖိုးအပြည့် ပန်းတွေဝယ်လာတာကတော့၊ မြတ်စွာဘုရားရဲ့ တရားတော်ကို နာကြားရာက ‘အမြိုက်တရား’ ရခဲ့လို့ပါ”

သာမာဝတီ မိဖုရားကြီးမှအစ မောင်းမငါးရာတို့သည်လည်း ရတနာသုံးပါးကို မသိကြချေ။ သို့ကြောင့် အမြိုက်တရား ရလာသည်ဆိုခြင်းကို အရာဝတ္ထုတစ်ခုရလာသည့်သဘောထင်ပြီး လက်ဝါးဖြန့် တောင်းခံကြ၏။

“မိခင်ရခဲ့တဲ့ တရားကို ကျွန်ုပ်ကို မျှပါနော်”

“မယ်ရှင်ရခဲ့တဲ့ တရားထူးကို ကျွန်ုပ်ကိုလည်း ပေးပါ”

“ကျွန်မလည်း လိုချင်ပါတယ်”

ဤသည်တွင် ခုဇ္ဇုတ္တရာက အပြုံးဖြင့် ခေါင်းယမ်း၏။

“မယ်ရှင်တို့ ငါရခဲ့တဲ့တရားဟာ လက်ဝါးဖြန့်ခံပြီး တောင်းခံလို့ ရကောင်းတဲ့ ဝတ္ထုပစ္စည်းမျိုး မဟုတ်ပါ။ ဝိသုဒ္ဓိနတ်မြတ်ရဲ့ စကားတော်ကို နားနဲ့နာကြားပြီး၊ နှလုံးသားနဲ့မှတ်သားလာခဲ့တဲ့ တရားတော်မြတ် ဖြစ်ပေတယ်။ မယ်ရှင်တို့ နာကြားချင်တယ်ဆိုရင် ရှင်တော်မြတ် ဟောကြားတော်မူတဲ့ အခြင်းအရာနဲ့ မိခင်ဟောပြမယ်။ ပါရမီရှိရင် အမြိုက်ဓမ္မကို ရကြပါလိမ့်မယ်”

မိဖုရားကြီးနှင့် မောင်းမငါးရာတို့က “ဟောပါ မိခင်။ နာကြားပါရစေ”ဟု တောင်းခံသောကြောင့် ခုဇ္ဇုတ္တရာသည် သလွန်ပေါ်တက်ထိုင်သည်။ မိဖုရားခေါင်ကြီး သာမာဝတီနှင့် မောင်းမများအား နိမ့်ရာတွင် ထိုင်လျက် လက်အုပ်ချီမိုးကာ နာကြားရန် ညွှန်ကြားသည်။

အားလုံးက သူညွှန်ကြားသည့်အတိုင်း ကောင်းမွန်စွာလိုက်နာကြသဖြင့် ခုဇ္ဇုတ္တရာသည် မြတ်စွာဘုရား ဟောကြားတော်မူလိုက်သော တရားတော်ကို အစဉ်အတိုင်း ဟောပြသည်။ မိဖုရားခေါင်ကြီးနှင့် မောင်းမ ငါးရာတို့သည် တရားတော်၏အဆုံး၌ သောတာပတ္တိဖိုလ်၌ တည်ကြလေ၏။

ထိုအခါ သာမာဝတီမိဖုရားက ဤသို့ ဆို၏။

"မိခင်။ ကနေ့က အစပြုပြီး တခြားအမှုကိစ္စတွေကို မဆောင်ရွက်ပါနဲ့တော့။ ကျွန်မတို့ရဲ့ အမေအရာမှာနေပြီး မြတ်စွာဘုရား တရားတော်ကို စိတ်ချလက်ချ နာယူပါ။ ပြီးတော့ ကျွန်တော်မတို့ကို တစ်ဆင့်ဟောကြားပါ"

ခုဇ္ဇုတ္တရာအတွက် အကြိုက်တွေ့သွားတော့သည်။

သူသည် မြတ်စွာဘုရား၏ ကျောင်းတော်သို့ နောက်ဆံမတင်းဘဲ သွားရောက်ကာ တရားတော်ကို နာယူသည်။ သူတစ်ကြိမ်နာကြားခဲ့ပြီး၍ နန်းတော်သို့ပြန်ရောက်တိုင်း မိဖုရားကြီးနှင့် မောင်းမများအား အစရော အလယ်ရော အဆုံးပါမကျန် ပြန်လည် ဟောကြားနိုင်သည်။

ဤသည်ကိုအကြောင်းပြု၍ မြတ်စွာဘုရားသည် ဥပါသိကာများအား တေဒဂ်ထားတော်မူသောအခါ "အကြားအမြင်များကုန်သော ငါ၏ သာဝိကာ ဥပါသိကာတို့တွင် ခုဇ္ဇုတ္တရာသည် အမြတ်ဆုံးဖြစ်ပေ၏"ဟု မိန့်တော်မူကာ 'အဂ္ဂဗဟုသုတတေဒဂ်' ထားတော်မူခြင်းဖြစ်၏။

ထိုသို့ဉာဏ်ပညာကြီးမားပါလျက် သူတစ်ပါးထံတွင် အစေအပါး ဖြစ်ရသည့် အကြောင်းမှာ ကဿပမြတ်စွာဘုရား၏ ရှေ့လက်ထက်တော်က သူသည် ဥပါသိကာမတစ်ယောက်ဖြစ်ခဲ့စဉ်ဝယ် သူငယ်ချင်းဖြစ်သူ ဘိက္ခုနီတစ်ပါးအား တစ်စုံတစ်ရာ စေခိုင်းမိခဲ့ဖူးသောကြောင့် ဖြစ်၏။

ငယ်ငယ်ရွယ်ရွယ်နှင့် ခါးကုန်းနေရခြင်းမှာလည်း ငရဲကြီးခြင်းပင် ဖြစ်သည်။

သူသည် တစ်ခုသောဘဝတွင် ဗာရာဏသီမင်းကြီး၏ သမီးတော်

တစ်ပါးထံတွင် အပျိုတော်ဖြစ်ခဲ့သည်။ နန်းတော်သို့ ဆွမ်းခံကြွလာတော်မူသော ပစ္စေကဗုဒ္ဓါ အရှင်မြတ်များအနက် တစ်ပါးမှာ ခါးကုန်းတော်မူသည်။ ခုဇ္ဇုတ္တရာလောင်းလျာ အပျိုတော်သည် ထိုရှင်ပစ္စေကဗုဒ္ဓါ ခါးကုန်းပြီး သွားဟန်ဖြင့် မောင်းမများနှင့်အတူ ပြက်ရယ်ပြုခဲ့သည်။ ရယ်စရာ လုပ်ပြစဉ်က တစ်ခဏမျှသာ ရွှင်ပျရယ်မောခဲ့ရငြား ဝဋ်လိုက်သောအခါတွင်ကား ဘဝများစွာ ခါးကုန်းရပြီ။

တစ်ကြိမ်ကြားနာရခါမျှဖြင့် စလယ်ဆုံး သုံးပါးလုံးကို ကောင်းစွာမှတ်မိခြင်းမှာကား အထက်ပါ ဗာရာဏသီမင်းကြီး၏ သမီးတော်ထံတွင် ခစားခဲ့စဉ်က အရှင်ပစ္စေကဗုဒ္ဓါရှစ်ပါးတို့၏ သပိတ်တော်များချထားရာတွင် မငြိမ်မသက်ဖြစ်နေသောကြောင့် သပိတ်တည်စရာ သပိတ်ခြေအဖြစ် ဆင်စွယ်လက်ကောက် လေးရံကိုချွတ်ပြီး လှူဒါန်းခဲ့ဖူးသော ကောင်းမှုကံကြောင့် ဖြစ်ပေ၏။

ခုဇ္ဇုတ္တရာသည် ပိဋကတ်သုံးပုံကို မပြတ်လေ့ကျက်သည်။မြတ်စွာဘုရား၏တရားတော်ကိုနာကြားခဲ့ပြီးတိုင်း သာမာဝတီတို့အား သူ ထပ်ဆင့်ပို့ချ ဟောပြောခဲ့သမျှသည် သုတ္တနပိဋကဌ် '**ဣတိဝုတ္တက**' အမည်ဖြင့် ကျမ်းတစ်စောင် ဖြစ်ပေသည်။



## ၄။ အဂ္ဂမေတ္တာဝိဟာရီ ဧတဒဂ်ရ ဥပါသိကာ

“ရဟန်းတို့။ မေတ္တာစိတ်ဖြင့် နေလေ့ရှိကုန်သော ငါ၏သာဝိကာ ဥပါသိကာတို့တွင် အမြတ်ဆုံးဖြစ်ပေသည်”ဟူ၍ မြတ်စွာဘုရားထံတော်မှ မေတ္တာဝိဟာရီ ဧတဒဂ်ရသော ဥပါသိကာကား ‘သာမာဝတီ’ မိဖုရားကြီးပေတည်း။

သာမာဝတီသည် ဤအဂ္ဂမေတ္တာဝိဟာရီ ဧတဒဂ်ကို ပဒုမုတ္တရ မြတ်စွာဘုရားလက်ထက်တော်တွင် တောင်းဆုပန်ခြွေခဲ့ခြင်းဖြစ်၏။ သူသည် ဘဝပေါင်းများစွာ တက်သက်စုန်ဆန်ကျင်လည်ခဲ့ပြီးနောက် ဂေါတမမြတ်စွာဘုရား၏ ရွှေလက်ထက်တော်ဝယ် ဘဒ္ဒိယမြို့နေ ဘဒ္ဒဝတီသူဌေး၏ သမီး ဖြစ်လာခဲ့လေ၏။

တစ်ရံရောအခါ၌ ဘဒ္ဒိယမြို့တွင် ကပ်ရောဂါကျရောက်သည်။ ဘဒ္ဒဝတီ သူဌေးလင်မယားနှင့် သမီး သာမာဝတီတို့သည် မည်သည့်ပစ္စည်းကိုမျှ မယူနိုင်ဘဲ အသက်လုလျက် ပြေးလာကြ၏။ သူတို့သည် ကောသမ္ဗီ

ပြည်ရှိ မိတ်ဆွေ ယောသက သူဌေးထံ ဦးတည်ပြေးလာကြပြီး မျက်နှာချင်း မဆုံမီပင် ကွယ်လွန်ကုန်ကြရှာသည်။ သို့ဖြင့် ယောသကသူဌေးက သာမာဝတီအား သမီးအဖြစ် ကောက်ယူမွေးစားထားသည်။

ထိုအချိန်ဝယ် ကောသမ္ဗီပြည့်ရှင်မှာ 'ဥတေနမင်းစော' ဖြစ်သည်။ သူသည် ဆင်တောထဲ၌ ကြီးပြင်းခဲ့သည်။ ဆင်တို့ကို အစိုးရသည်။ သူသည် သာမာဝတီကို မြင်သောအခါ ကောက်ယူသိမ်းပိုက်ပြီး အခြွေအရံ ငါးရာ ပေးလျက် မိဖုရားကြီးအရာဖြင့် မြှောက်စားထား၏။

ထိုမင်း၌ အခြားသော မိဖုရားကြီး တစ်ယောက်လည်း ရှိသေး၏။ သူကား 'မာဂဏ္ဍီ' ဖြစ်ပေသည်။ သူကား သမ္မာသဒမ္မ နိဂုံးရွာနေ မာဂဏ္ဍိယ ပုဏ္ဏား၏သမီး ဖြစ်သည်။

မာဂဏ္ဍိယပုဏ္ဏားသည် ဝေဒပညာရှင်ဖြစ်ပြီး သူ့မယား ပုဏ္ဏေးမ လောက် မတတ်ကျွမ်းပေ။ သို့အတွက် မြတ်စွာဘုရား၏ ခြေတော်ရာကို ဖူးမြင်ရသောအခါ ယောကျ်ားမြတ်၏ခြေရာဟုသာ သိသည်။ ပုဏ္ဏေးမ မူကား မြတ်စွာဘုရား၏ခြေတော်ရာဟု သိသဖြင့် မြတ်စွာဘုရား နောက် တော်သို့ လိုက်ကြရာက တရားတော်ကို နာကြားရသဖြင့် အနာဂါမ် တည်သွားကြသည်။

မာဂဏ္ဍိယပုဏ္ဏားသည် သမီးကို ညီထံတွင် အပ်နှံထားခဲ့ကာ သာသနာ့ဘောင်သို့ ဝင်သွားခဲ့ပြီး မာဂဏ္ဍီကား အလှမာန်တက်နေ၏။ ရတနာသုံးပါးကို မသိရုံမျှမက မြတ်စွာဘုရားကိုပင် ရန်ငြိုးဖွဲ့နေသူဖြစ်၏။ သူက မြတ်စွာဘုရားအား မုန်းတီးသည်နှင့်အမျှ သာမာဝတီနှင့် မောင်းမ များက မြတ်စွာဘုရားအား ကြည်ညိုလှသည်။ သို့သော် သူတို့၏အရှင် သခင် ဥတေနမင်းစောမှာ ရတနာသုံးပါးကို မသိသူ ဖြစ်နေ၏။ သို့ကြောင့် သာမာဝတီတို့မှာ ရတနာသုံးပါးအား ကိုးကွယ်ခွင့်ကို ဘုရင့်ထံ၌ မတောင်း ခံ ဝံ့ကြပေ။ ထိုအခါ ကျောင်းတော်သို့လည်း သွားရောက်ကာ တရားတော်

ကို မနာယူနိုင်ကြ၊ မလှူဒါန်းနိုင်ကြဘဲ ရှိနေရတော့၏။

မြတ်စွာဘုရား အမှူးပြုသော သံဃာတော် အရှင်မြတ်များသည် နေ့စဉ်နေ့တိုင်း ဆွမ်းခံကြွတော်မူကြသည်။ မြို့သူမြို့သားများသည် ဆွမ်းခံဖွယ်ဘောဇဉ်များကို သဒ္ဓါတရား ထက်သန်စွာဖြင့် လောင်းလှူကြသည်။ ဤအခါတွင်လည်း မိဖုရားကြီး သာမာဝတီမှာ လေသာပြတင်းမှထွက်ကာ 'ဩော်.... ဘုန်းတော်ခြောက်စုံ ဂုဏ်တော်အနန္တနဲ့ ပြည့်စုံတော်မူသော မြတ်စွာဘုရားပါကလား' ဟု လက်အုပ်ချီမိုးလျက် အဝေးမှသာ ရှိခိုးပူဇော်နိုင်ချေသည်။

သာမာဝတီ၏ နန်းပြာသာဒ်တွင် လေသာပြတင်းများစွာ မရှိ။ ရှိသော ပြတင်းများမှာလည်း ကျဉ်းမြောင်းသည်။ မြတ်စွာဘုရားနှင့် သံဃာတော်များအား ဖူးမြော်လိုသူမှာ ငါးရာရှိသည်။ ထို့ကြောင့် အဆောက်အအုံ၏နံရံကို အပေါက်ငယ်ကလေးတွေ ဖောက်ကာ ချောင်းကြည့်ပြီး ဖူးမြော်ကြရသည်။

တစ်နေ့သ၌ မာဂဏ္ဍီမိဖုရားသည် ကိစ္စတစ်ခုဖြင့် သာမာဝတီ၏ ပြာသာဒ်သို့ ရောက်လာသည်။ ပျားအုံသဖွယ် ဖြစ်နေသော ပြာသာဒ်နံရံများကို မြင်ရသည်။

"ရှင်မတို့ ပြာသာဒ်က ဘယ်လိုအကြောင်းကြောင့် အပေါက်တွေ အခုလောက် များနေရတာတုန်း"

သာမာဝတီ၏ မောင်းမများသည် သူတော်ကောင်းများ ဖြစ်ကြရကား လိမ်လည်သော စကားကို မဆို။

"အရှင်မ။ သည်အပေါက်တွေဟာ မြတ်စွာဘုရားနဲ့ သံဃာတော်တွေကို ကျွန်တော်မျိုးမတို့ ဖူးမြော်ချင်လို့ ဖောက်ထားတာပါ"

မာဂဏ္ဍီ ဒေါသဖြစ်ရသည်။ သူရန်ငြိုးဖွဲ့ထားသော မြတ်စွာဘုရားအား ကြည်ညိုမြတ်နိုးသူများသည် သူ၏ရန်သူများပင် မဟုတ်ပါလော။

သို့ကြောင့် အခွင့်အခါကို စောင့်နေသည်။ ပြည့်ရှင်မင်း ကြည်သာသော အချိန်တွင် ကုန်းချောတော့သည်။

"အရှင်မင်းကြီး သတိထားတော်မူပါ။ မိဖုရားကြီး သာမာဝတီနဲ့ သူ့မောင်းမတွေဟာ အရှင်မင်းကြီးကို မကြည်ညွတ် မချစ်ခင်ကြဘူးဘုရား။ လမ်းပေါ်မှာလျှောက်သွားတဲ့ ရဟန်းဂေါတမကိုသာ ကြင်နာစုံမက်ကြပါတယ်။ ခယ ဖူးမြော်ကြပါတယ်။ အရှင်မင်းဖျား ယုံကြည်တော်မမူရင် သာမာဝတီ မိဖုရားကြီးရဲ့ အဆောင်နံရံက အပေါက်တွေက သက်သေခံပါလိမ့်မယ်ဘုရား"

မာဂဏ္ဍီ၏ ကုန်းစကားကို ဥတေနမင်းစော အရေးမယူချေ။ မာဂဏ္ဍီကလည်း မလျှော့သောလုံ့လဖြင့် ထပ်ကာတလဲလဲ ကုန်းချောသော်ငြား မထိရောက်ချေ။ သို့ရာတွင် သာမာဝတီ၏ပြာသာဒ်တွင် ဥတေနမင်း စံစားသောရက်၌ ပြသာဒ်နံရံရှိ အပေါက်ငယ်များကို ဥတေနမင်းစော မြင်တော်မူသည်။

"မိဖုရား၊ သည်အပေါက်တွေကို ဘာပြုလို့ ဖောက်ထားတာတုန်း"

သာမာဝတီသည် သူတော်ကောင်း ဖြစ်သည်နှင့်အညီ "မြတ်စွာဘုရားနဲ့ သံဃာတော်များကို ဖူးချင်လို့ပါဘုရား"ဟု မှန်သည့်အတိုင်း တင်၏။

"ကြည့်လို့မြင်လို့ မတင့်တယ်ဘူး မိဖုရား။ လက်သမားကျော်တွေခေါ်ပြီး ပြတင်းပေါက် အလုံအလောက်တပ်ဆင်စေ။ မတင့်မတယ်အပေါက်တွေ ပိတ်စေ"

သာမာဝတီနှင့် မောင်းမများ မင်းပြစ်မင်းဒဏ် ခံရနိုးဖြင့် နားစွင့်နေခဲ့သော မာဂဏ္ဍီမှာ ထိုသတင်းကို ကြားရသဖြင့် စိတ်မချမ်းမသာ ဖြစ်ရသည်။ သို့သော် မကောင်းသော အကြံကိုကား မလျှော့။ တစ်နည်းလှည့်ပြီး ကြံစည်ပြန်သည်။

တစ်နေ့တွင် မာဂဏ္ဍီမိဖုရားသည် ဥတေနမင်းစော၏ ရှေ့တော်သို့ ကြက်အရှင်တွေကို ယူဆောင်လာသည်။

“အရှင်မင်းကြီး။ မိဖုရားကြီး သာမာဝတီနဲ့ သူရဲ့မောင်းမတွေဟာ စည်းစိမ်သခင် လင်ရဲ့ကျေးဇူးကို မသိတတ်ကြဘူး။ ကျေးဇူးမရှိတဲ့ ရဟန်းဂေါတမရဲ့ဂုဏ်ကိုသာ အများကြီးချီးမွမ်းလျက် ရှိကြပါတယ်ဘုရား။ အရှင်မင်းကြီးကို ကြင်နာမြတ်နိုးပုံ မပေါ်ပါဘူးဘုရား”

သည်မိဖုရားလာလျှင် သည်စကားကို ကြားရသည်မှာ မဆန်း။ ဥတေနမင်းစောအတွက် ရိုးနေချေပြီ။ ထိုအခါ မာဂဏ္ဍီသည် ကြက်ခြင်းကို ရှေ့သို့ ဆွဲယူ၏။

“အရှင်မင်းကြီးကို ချစ်ခင်မြတ်နိုးမှု ရှိမရှိကိုသိချင်ရင် အရှင်မင်းကြီး စားတော်ခေါ်ဖို့အတွက် ဟောသည့်ကြက်တွေကို ဟင်းလျာချက်ပြီး ပို့စေရမယ်လို့ အမိန့်ရှိတော်မူကြည့်ရင် သိပါလိမ့်မယ်ဘုရား”

“ရှင်မိဖုရား ထင်တဲ့အတိုင်း စမ်းကြည့်ရတာပေါ့”

သာမာဝတီမိဖုရားကြီး၏ စံနန်းပြာသာဒ်သို့ ကြက်ခြင်းတစ်ခြင်း မင်းမိန့်ဖြင့် ရောက်လာသည်။ မကောင်းမှုမှ ကင်းဝေးနေပြီဖြစ်သော မိဖုရားကြီးနှင့် မောင်းမများမှာ ကြက်တွေကို ကြည့်ပြီး စိတ်မချမ်းမြေ့စွာ ညည်းတွားကြသည်။

“သူတစ်ပါးအသက်ကို ငါတို့ မသတ်ဘူး။ သည်ကြက်အရှင်တွေကို ဘယ်လိုလုပ်ပြီး ဟင်းချက်ရမှာတုန်း”

ကြက်ခြင်းလာပို့သောမင်းချင်းသည် ကြက်ခြင်းကို သည်အတိုင်း ပြန်ယူသွားရ၏။ မင်းတရားအား အကျိုးအကြောင်း လျှောက်ထား၏။ မာဂဏ္ဍီသည် ဤသို့ဖြစ်လိမ့်မည်ကို ကြိုတင်သိထားသဖြင့် ဘုရင့်အပါးမှ မခွာဘဲ ဝင်ရောက်အကြံပေး၏။

“သည်လိုဆိုလည်း ရဟန်းဂေါတမအတွက် ကြက်သားချက်ပြီး

ပို့ကြစေဆိုပြီး သည်ကြက်ခြင်းကို ပြန်ပို့ကြည့်ပါလားဘုရား"

ဥတေနမင်းစောလည်း မာဂဏ္ဍီ၏အကြံအတိုင်း ဆောင်ရွက်တော်မူသည်။ သို့ရာတွင် မိဖုရားကြီး သာမာဝတီတို့သည် မည်သူ့အတွက်ပင် ဖြစ်စေကာမူ သူ့အသက်ကို သတ်လိမ့်မည် မဟုတ်။ ဤသည်ကို မာဂဏ္ဍီသည် ကောင်းစွာသိထားသဖြင့် ကြက်ခြင်းပို့ရန် ဘုရင့်ရှေ့တော်မှ ထွက်ခွာသွားသောမင်းချင်းအား တံစိုးလက်ဆောင်ပေးသည်။ ကြက်တွေကို သတ်ပြီးမှသာ သာမာဝတီထံ ဆက်သရန် မှာကြားသည်။

မိဖုရားကြီး သာမာဝတီကား မသိရှာချေ။ ဘုရင်မင်းမြတ်၏ အမိန့်တော်တွင် စဉ်းလဲမှု တစ်စုံတစ်ရာပါသည်ဟု မသိ။ ကြက်အသေများကို ဝမ်းမြောက်ဝမ်းသာ ပြင်ဆင်ချက်ပြုတ်ပြီး မြတ်စွာဘုရား၏ ကျောင်းတော်သို့ ပေးပို့လှူဒါန်းသည်။

ထိုအခါ မာဂဏ္ဍီမိဖုရားသည် ကျေနပ်အားရစွာဖြင့် ဥတေနမင်းစောထံ ချဉ်းကပ်ပြီး လျှောက်ထားသည်။

"အရှင်မင်းကြီး သိတော်မူပြီ မဟုတ်လား။ သာမာဝတီတို့ဟာ အရှင်မင်းကြီးကို မြတ်နိုးသဒ္ဒါ မရှိဘူးဆိုတာ ထင်ရှားနေပါပြီကော"

သို့တစေ ဥတေနမင်းစောသည် တုံဏှိဘာဝေ နေတော်မူ၏။ အကြောင်းသော်ကား အမျက်ထွက်ရန်ထက် ချင့်ချိန်စဉ်းစားနေရသော ကြောင့်ပေတည်း။

မာဂဏ္ဍီ မခံချည့်မခံသာ ဖြစ်ရသည်။ သူ ပိရိစွာ အကောက်ကြံပါလျက် သာမာဝတီနှင့် မောင်းမငါးရာတို့ မင်းပြစ်မင်းဒဏ် မသင့်ပါတကား။ သို့သော် စိတ်မပျက်ပါ။ အားမလျှော့ပါ။ နောက်တစ်နည်း ကြံစည်ရုံသာ ရှိတော့သည်။

ဥတေနမင်းစောသည် မိဖုရားကြီးတစ်ပါးစီ၏ ပြာသာဒ်များတွင် ခုနစ်ရက်စီ လှည့်လည်ပြီး စံစားတော်မူမြဲ ဖြစ်သည်။ သူသွားလေရာတွင်

ဆင်များကို ပြေးစေနိုင်သော၊ ဆင်များကို လာစေနိုင်သော 'ဟတ္ထိကန္တ' စောင်းတော်ကို မကွဲမကွာ ယူဆောင်လာလေ့ရှိသည်။

သို့အတွက် မာဂဏ္ဍီသည် ခုနစ်ရက်စေ့၍ ပြာသာဒ်ပြောင်းမည့် ဥတေနမင်း၏ စောင်းအိုးအတွင်းသို့ အဆိပ်ပြင်းသော မြွေတစ်ကောင်ကို ထည့်သွင်းထားလိုက်သည်။ ထို့နောက် စောင်းကိုပိုက်လျက် ကြွအံ့ဆဲဆဲ မင်းတရားကြီးအား စိုးရိမ်စကားဆိုသည်။

"အရှင်မင်းကြီး သတိထားပြီး ကြွတော်မူပါဘုရား။ သာမာဝတီတို့ တစ်တွေဟာ ရဟန်းဂေါတမရဲ့ အလုပ်အကျွေးတွေနော်"

ဟတ္ထိကန္တ စောင်းအိုးတွင်း၌ မာဂဏ္ဍီမိဖုရားကြီး တိတ်တဆိတ် ထည့်ပေးလိုက်သော မြွေသည် ခုနစ်ရက်ပတ်လုံး ငြိမ်သက်နေခဲ့သည်။ သို့အတွက် သာမာဝတီ၏ ပြာသာဒ်တွင် အကြောင်းထူး မပေါ်ပေါက်ချေ။

သို့ရာတွင် မိဖုရားကြီး မာဂဏ္ဍီ၏ ပြာသာဒ်သို့ ဥတေနမင်းစော ပြန်လည်ကြွမြန်းလာချိန်တွင်ကား အထိတ်တလန့်ဖြစ်ရတော့သည်။ "အရှင်မင်းကြီး ကြွလာတော်မူပြီလားဘုရား။ ရွှေစောင်းတော်ကို လှမ်းတော်မူပါဘုရား"ဆိုကာ မိဖုရားကြီးမာဂဏ္ဍီသည် ဟတ္ထိကန္တ စောင်းတော်ကို ကန္တ့ကလျ လှမ်းယူရင်း မြွေထည့်သောအပေါက်ကို ဆွဲဖွင့်သည်။

အဆိပ်ပြင်းသောမြွေသည် ပါးပျဉ်းထောင်ပြီး ထွက်လာလေ၏။

"ကယ်တော်မူပါဘုရား"

မာဂဏ္ဍီမိဖုရားသည် စောင်းတော်ကိုလွှတ်ချလျက် ငယ်သံပါအောင် အော်ပြီး ဘုရင်ကိုပြေးဖက်လေ၏။

မင်းချင်းများပြေးလာပြီး မြွေကိုဖယ်ရှားပစ်ကြငြား မာဂဏ္ဍီမှာ တဆက်ဆက်တုန်လျက် ကြောက်ရွံ့နေဆဲ ရှိသေး၏။

"အရှင်မင်းကြီးမှာ ကံတော်ရှိသေးလို့သာ အသက်ချမ်းသာရာ ရတာမဟုတ်လား။ အခု သာမာဝတီရဲ့ သဘောကို သိပြီမဟုတ်လားဘုရား"

ဤအခါတွင်ကား ဥတေနမင်းစော၏ ဆင်ခြင်စဉ်းစားမှုကို ဒေါသက ဖုံးလွှမ်းသွားလေပြီ။ သာမာဝတီနှင့် မောင်းမငါးရာကို ရှေ့တော်တွင် အရပ်ခိုင်းကာ ဆိပ်လူးမြားဖြင့် ပစ်ခတ်ရန် ပြင်ဆင်တော့သည်။

သာမာဝတီသည် အကြောင်းစုံကို စုံစမ်းသည်။ မိမိ မပြုသောအမှုအတွက် ရာဇဒဏ်သင့်တော့မည်ဟု သိ၏။ ပြင်းစွာ အမျက်ထွက်နေသော ဘုရင်အား ရှင်းလင်းငြင်းကွယ်၍ မရနိုင်ကြောင်း သဘောပေါက်၏။ သို့အတွက် အခြွေအရံများအား ကြည်လင်စွာပြော၏။

"ရှင်မတို့၊ မြတ်စွာဘုရားရဲ့ ဂုဏ်တော်ကို အရံအတားပြုပြီး ဘုရင်မင်းမြတ်ကို မေတ္တာပွားကြ။ ငါတို့မှာ ဒါပဲအားကိုးစရာ ရှိတော့တယ်"

သို့ဖြင့် သာမာဝတီနှင့် မောင်းမများသည် ဂုဏ်တော်ကို အရံအတားပြုလျက် ဥတေနမင်းစောအား မေတ္တာပွားနေကြသည်။ ဘုရင်လည်း လေးတင်ပြီး မြားဖြင့်ပစ်သည်။ မြားသည် လေးညို့မှ မထွက်။ ဘုရင်သည် အားစိုက်ပြီး ပစ်၏။ တွန်း၏။ ကန်၏။ မြားကား မထွက်။

မကြုံဖူးသောအဖြစ်မို့ ဥတေနမင်းစောမှာ ချွေးပေါက်ချွေးလုံးတွေ သီးလာ၏။ မျက်နှာ၊ ရင်ဝတို့၌ ချွေးပြိုက်ပြိုက်ကျနေ၏။ ဤသည်ကို မြင်သော သာမာဝတီက ကြည်လင်ငြိမ်းအေးသော အသံဖြင့် အကြံပြု၏။

"အရှင်မင်းကြီး၊ မြားကို အောက်စိုက်ပြီး လွှတ်ကြည့်ပါဦး"

ဥတေနမင်းစောသည် လေးတော်ကိုအောက်စိုက်လျက် မြားကို ပစ်လွှတ်၏။ မြားသည် ချောမောစွာ ထွက်သွားလေ၏။

"ကြည့်စမ်း၊ ကြည့်စမ်း။ အသက်မရှိတဲ့ လေးမြားကမှ မိဖုရားရဲ့ ကျေးဇူးဂုဏ်ကို သိသေးပေမယ့် အသက်နဲ့ ငါက မသိတာဟာ ရှက်စရာပါကလား"

ပြည့်ရှင်မင်းသည် လေးကိုပစ်ချပြီး သလွန်တော်ပေါ်မှ ပြေးဆင်းလာသည်။ ထို့နောက် ရေမိုးသန့်စင်ပြီးနောက် သာမာဝတီမိဖုရားကို ပုခုံး

ပေါ်တွင် တင်ထားပြီး တောင်းပန်စကားဆိုသည်။

"မိဖုရား၊ ငါ့ကိုသည်းခံပါ။ မာဂဏ္ဍီရဲ့ ကုန်းစကားကို ယုံမိတဲ့အတွက် ရှင်မိဖုရားကို ပြစ်မှားမိတာ ခွင့်လွှတ်ပါတော့။ ကနေ့က စပြီးတော့ မိဖုရားအလိုရှိတိုင်း မြတ်စွာဘုရားကို ဖူးမြင်ပေတော့။ မိဖုရားသဘောကျ တရားနာပါ၊ လှူဒါန်းပါ။ ငါ ခွင့်ပြုတယ်"

သို့ဖြစ်၍ ကောသမ္ဗီနန်းတံခါးသည် ထိုအချိန်မှစတင်ပြီး သံဃာတော် အရှင်မြတ်များအတွက် ဟင်းလင်းပွင့်၏။

သုံးလောကထွတ်ထား သဗ္ဗညုမြတ်စွာဘုရားသည် သာမာဝတီ၏ ထိုအခြင်းအရာကို အကြောင်းပြုလျက် "ရဟန်းတို့။ မေတ္တာစိတ်ဖြင့် နေလေ့ရှိကုန်သော ငါ၏ သာဝိကာ ဉပါသိကာတို့တွင် သာမာဝတီမိဖုရားသည် အမြတ်ဆုံးဖြစ်ပေ၏"ဟူ၍ '**အဂ္ဂမေတ္တာဝိဟာရီ**' တေဒဂ် ထားတော်မူ၏။

သာမာဝတီသည် အရှင်အာနန္ဒာအား နန်းတွင်းသို့ပင့်ကာ တရားနာခွင့်ရသည်အထိ မေတ္တာအကျိုးပေး၏။

မာဂဏ္ဍီမှာ နန်းတွင်းသို့ကြွလာသော အရှင်ကောင်း အရှင်မြတ်များကို မြင်လေလေ ကြိတ်မနိုင်ခဲမရ ခံစားရလေလေဖြစ်သည်။ သို့ကြောင့် ဉတေနမင်းစော တောကစားထွက်တော်မူခိုက်ဝယ် မင်းမိန့်ဟုဆိုကာ သာမာဝတီ၏ပြသာဒ်ကို မီးတိုက်ပစ်ရာ မောင်းမငါးရာနှင့်တကွ သာမာဝတီပါ ကံကုန်လေ၏။

သာမာဝတီ သေသွားသဖြင့် မာဂဏ္ဍီမိဖုရားမှာ ကြီးပွားချမ်းသာခြင်း မဖြစ်လာပါ။ သူ့ကိုသာမက သူ၏ဆွေမျိုးများပါ ဉတေနမင်းစော၏ ကွပ်မျက်ခြင်း ခံရလေ၏။



## ၅။ အဂ္ဂရျာယိနီ တေဒဂ်ရ ဥပါသိကာ

မေတ္တာစျာန် ဝင်စားသောအရာ၌ အထူးမြတ်ဆုံးသူအဖြစ် မြတ်စွာဘုရား ထံတော်မှ ဧတဒဂ်ချီးမြှင့်ခြင်းခံရသော ဥပါသိကာမှာ 'ဥတ္တရာ' (ခေါ်) 'နန္ဒမာတာဥတ္တရာ'ဖြစ်၏။ သူသည် ဤဧတဒဂ်ဆုထူးကိုရရှိရန် လွန်ခဲ့သော ကမ္ဘာတစ်သိန်းထက်၌ ပွင့်တော်မူသော ပဒုမုတ္တရ မြတ်စွာဘုရားထံတော်၌ ဆုပန်ခဲ့ပေသည်။

သူသည် ဘဝပေါင်းများစွာ စုန်ဆန်တက်သက် ကျင်လည်ခဲ့ပြီး နောက် ဂေါတမမြတ်စွာဘုရား၏ ရွှေလက်ထက်တော်ဝယ် သူရင်းငှားပုဏ္ဏာ နှင့် ဘာရိတတို့၏သမီး ဖြစ်လာ၏။ သူတို့၏အရှင်မှာ မိစ္ဆာဒိဋ္ဌိသူဌေး သုမန ဖြစ်၏။ အရှင်က မိစ္ဆာဒိဋ္ဌိဖြစ်ငြား၊ သူတို့လင်မယားကား ရတနာ သုံးပါး၌ အလွန်ကြည်ညိုၾ၏။

ထိုနေ့ကား နက္ခတ်သဘင်ပွဲ ကြုံသောနေ့ဖြစ်သည်။

တစ်မြို့လုံးသည် နက္ခတ်သဘင်ပွဲ၌ ပါဝင်ဆင်နွှဲနေကြချိန်ဝယ် ပုဏ္ဏာသည် အများနည်းတူ မပျော်ရွှင်အား။ နွားကိုဆွဲပြီး လယ်ထဲသို့ ထွက်လာသည်။ လယ်ထွန်သည်။

ထိုအချိန်ဝယ် လက်ျာတော်ရံ ဓမ္မသေနာပတိ အရှင်သာရိပုတ္တရာသည် နံ့သာတော၌ ခုနစ်ရက်လုံးလုံး နိရောဓသမာပတ် ဝင်စားနေတော်မူရာက ထတော်မူချိန်ဖြစ်၏။ အရှင်မြတ်သည် နိရောဓသမာပတ်မှ ထတော်မူလျှင် "ငါသည် ယနေ့ မည်သူ့အား ချီးမြှောက်ရအံ့နည်း"ဟု လောကကို ကြည့်ရှုတော်မူ၏။

အရှင်မြတ်သည် လယ်ထွန်ယောကျ်ား ပုဏ္ဏာကို မြင်တော်မူ၏။ ထိုအခါ အကြောင်းပြည့်စုံခြင်း ရှိမရှိကို ဆင်ခြင်တော်မူပြန်ရာ 'သမ္ပတ္တိလေးပါး'ကို လျှင်လျှားစွာရအံ့သည်ကို မြင်တော်မူ၏။

(သမ္ပတ္တိလေးပါးမှာ ၁။ အလှူရှင်သည် သဒ္ဓါတရားဖြင့် ပြည့်စုံခြင်း ၂။ စေတနာသုံးတန် ထက်သန်ခြင်း ၃။ လှူဒါန်းမည့် ပစ္စည်းသည်လည်း တရားသဖြင့်ရသော ပစ္စည်းဖြစ်ခြင်း ၄။ အလှူခံပုဂ္ဂိုလ်သည် မြတ်စွာဘုရားနှင့် ရဟန္တာ၊ အရှင်ပစ္စေကဗုဒ္ဓါ တစ်မျိုးမျိုးဖြစ်၍ အချိန်ကာလအားဖြင့် နိရောဓသမာပတ်မှ ထဆဲအခါဖြစ်ခြင်းတို့ ဖြစ်ပေသည်။)

အရှင်သာရိပုတ္တရာ ကိုယ်တော်မြတ်ကြီးသည် အကြောင်းပြည့်စုံခြင်း ရှိသည်ကို မြင်တော်မူသဖြင့် ပရိက္ခရာကိုလွယ်လျက် ကြွတော်မူလာ၏။ ပုဏ္ဏာ လယ်ထွန်နေသည့် လယ်ကွက်အနီးရှိ ချုံကြီးတစ်ခုဘေးတွင် ရေတွင်းတစ်တွင်းရှိ၏။ အရှင်မြတ်သည် ထိုရေတွင်းအနီး၌ ရပ်တော်မူ၏။

လယ်ထွန်ယောကျ်ား ပုဏ္ဏာသည် ထွန်ကိုရပ်ထားခဲ့ပြီး ပြေးလာသည်။ အရှင်မြတ်ကို လက်အုပ်ချီပြီး အကဲခတ်သည်။ ထို့နောက် ရေတွင်းမှ ရေကိုခပ်ယူပြီး ဆက်ကပ်သည်။ တစ်ဆက်တည်းပင် မျက်နှာသစ်တော်ရေနှင့် တွဲဖက်သုံးဆောင်တော်မူရန် ဒန်ပူကို ဆက်ကပ်လှူဒါန်းသည်။

အရှင်ကောင်းအရှင်မြတ်သည် ပုဏ္ဏာဆက်ကပ်လှူဒါန်းသောဒန်ပူနှင့် မျက်နှာသစ်ရေကို သုံးဆောင်တော်မူသည်။ ထို့နောက် အတန်ငယ်ဆိုင်းငံ့ပြီးနောက် ဆွမ်းခံရန်ကြွတော်မူလာသည်။အရှင်မြတ်ကြွတော်မူသောခရီးမှာ ပုဏ္ဏာ၏မယား ဘာရိတ ထမင်းပို့ရန် လာသောလမ်းဖြစ်၏။

ဘာရိတတို့မှာ သူဋ္ဌေး၏ အိမ်နောက်ဖေးတွင် နေရရာ ဆွမ်းခံကြွတော်မူသော အရှင်မြတ်များအား ဖူးခွင့်မကြုံသဖြင့် ဆွမ်းလောင်းချင်လျက်မလောင်းလှူကြရပေ။ ယခု အရှင်သာရိပုတ္တရာ ကိုယ်တော်မြတ်အားတိုက်ဆိုင်စွာ ဖူးမြော်ရသောအခါ ဘာရိတသည် ရွက်လာသော ထမင်းတောင်းကိုချပြီး ရိုသေစွာရှိခိုးသည်။

"တပည့်တော်မရဲ့ အလှူကို ခံတော်မူပါဘုရား"

လင်မယားနှစ်ယောက်စာ ချက်လာသောထမင်းဟင်းကို ဘာရိတသည် ဝမ်းသာအားရ လောင်းလှူသည်။ အရှင်မြတ်သည် ထမင်းတစ်ဝက်ကျချိန်တွင် သပိတ်တော်ကို လက်ဖြင့် အုပ်ထားသည်။

"အရှင်ဘုရား၊ သည်ဆွမ်းဟာ တစ်ယောက်စာ ဝလင်ရုံလောက်ပဲ ရှိပါတော့တယ် ဘုရား။ ချန်ထားဖို့ မကောင်းပါဘူး ဘုရား။ တပည့်တော်မကို မျက်မှောက်လောကနဲ့ မချီးမြှောက်ဘဲ တမလွန်နဲ့ ချီးမြှင့်တော်မူပါဘုရား"

ဘာရိတ တောင်းပန်သဖြင့် အရှင်မြတ်သည် သပိတ်ပေါ်မှ လက်တော်ကို ဖယ်၏။

ဘာရိတလည်း ပါလာသမျှကို အားရပါးရ သွန်းလောင်းလှူဒါန်းပြီး "သည်ကောင်းမှုရဲ့အကျိုးဆက်ကို အခုချက်ချင်းခံစားရပါလို၏ ဘုရား" ဟု ဆုပန်ထွာသည်။

"ဒါယိကာမ တောင်းတတိုင်းပြည့်စေ"

အရှင်သာရိပုတ္တရာ အရှင်မြတ်သည် ရပ်လျက်ပင် တရားအနုမော

ဒနာ ပြုတော်မူပြီးလျှင် ကြွတော်မူ၏။

ဘာရိတသည် အိမ်သို့ သုတ်သုတ်ပျာပျာ ပြန်ပြေးသည်။ အရှင်မြတ်အား ဆွမ်းလှူလိုက်ရသော ပီတိအဟုန်ကြောင့် မောပမ်းရန် မသိ။ အပြေးအလွှား ထပ်မံချက်ပြုတ်ပြီး လယ်ထဲသို့ အသော့အလျင်လာခဲ့သည်။

ပုဏ္ဏမှာလည်း နေမြင့်ပြီးဖြစ်သောကြောင့် ထွန်ချွတ်ပြီး မယားကို မျှော်သည်။ မျှော်သော်လည်း မဆာလောင်ချေ။ အရှင်မြတ်ကြီးအား မျက်နှာ သစ်တော်ရေနှင့် ဒန်ပူကပ်လိုက်ရသော ကောင်းမှုကို အာရုံပြုလျက် ဝမ်းသာ နေသောကြောင့် ဖြစ်ပေသည်။

ဘာရိတသည် ထမင်းပို့နောက်ကျသောကြောင့် ဆူလေမည်လား၊ ရိုက်လေမည်လား တကြောင့်ကြကြဖြင့် အပြေးလာသည်။ အရှင်မြတ်ကြီး အား ကြုံတောင့်ကြုံခဲ ဆွမ်းကပ်လိုက်သောကြောင့် အိမ်ပြန်ချက်နေရ၍ နောက်ကျရကြောင်း ရှင်းပြသည်။ ထိုကောင်းမှုကို အမျှပေးဝေသည်။ ပုဏ္ဏလည်း ဝမ်းမြောက်စွာ သာဓုခေါ်ပြီး သူ့အလှူကိုလည်း အမျှပေးဝေပြန် သည်။

လင်မယားနှစ်ယောက် ပျော်တပြုံးပြုံးဖြင့် တစ်ယောက်မျက်နှာ တစ်ယောက်ကြည့်လျက် ထမင်းစားကြသည်။ ပုဏ္ဏမှာ တစ်နံနက်လုံး ပင်ပန်းထားရကား ခေါင်းချရုံဖြင့် အိပ်ပျော်သွား၏။ နေစောင်းချိန်တွင် ဘာရိတက အထိတ်တလန့်နှိုး၏။

"ထပါဦး၊ ထပါဦး"

ပုဏ္ဏ ထထိုင်သည်။

"ဟိုမှာ ထွန်ချေးစာခဲတွေကို ကြည့်ပါဦး"

နေရောင်ကြောင့် ထွန်ချေးစာခဲတွေ ပြောင်လက်နေခြင်း မဟုတ်။ မြေကြီးခဲစင်စစ်က ရွှေတုံးတွေဖြစ်ပြီး တစ်ကွင်းလုံး ရွှေရောင်လက်နေ၏။ ပုဏ္ဏသည် မျက်နှာထသစ်ပြီးမှ ကြည့်ပြန်၏။ ရွှေတုံးတွေပင်။ လယ်ထဲ

ဆင်းပြီး လက်ဖြင့်ကိုင်ကြည့်၏။ ရွှေတုံးတွေပင် ဖြစ်နေ၏။

ပြည့်ရှင်မင်းများအား ရေမြေ့သေင်္ဂနင်းဟုခေါ်ကြသည်မှာ ရေရော မြေကိုပါ စိုးပိုင်သောကြောင့် ဖြစ်၏။ သို့အတွက် သည်အရာတွေကို ပုဏ္ဏာလည်း မပိုင်။ သူဌေး သုမနလည်း မပိုင်။ ပြည့်ရှင်မင်းသာ ပိုင်ဆိုင်၏။ သို့ဖြစ်သောကြောင့် ပုဏ္ဏာသည် ဘုရင်မင်းမြတ်ထံသို့ သွားရောက်လျှောက်ကြားရတော့သည်။

ဘုရင်မင်းမြတ်သည် ပုဏ္ဏာထွန်နေသောလယ်ထဲသို့ မင်းချင်းများကို လှည်းများစွာဖြင့် စေလွှတ်လိုက်၏။

"ဗိမ္ဗိသာရမင်းမြတ်ရဲ့ဘုန်းတန်ခိုးကြောင့် ထွန်ချေးစာ စင်စစ်က ဖြစ်လာရတဲ့ ရွှေတွေပါကလား"

ထိုသို့ပြောကာ ရွှေတုံးတစ်တုံးကို ကောက်ယူသည်။ ကောက်ယူသည့်တစ်ခဏမှာပင် မြေကြီးခဲ ဖြစ်သွားလေ၏။ ကိုင်သော တစ်ခဲသာ မဟုတ်၊ ကျန်သော ထွန်ချေးစာများပါ မြေကြီးခဲချည်း ဖြစ်ကုန်လေ၏။

မင်းချင်းများသည် ကြောက်ရွံ့ထိတ်လန့်စွာဖြင့် ဘုရင့်ရှေ့တော်မှောက်သို့ပြန်ပြေးလာကြသည်။ ဖြစ်ပုံသနစ်ကုန်ကို လျှောက်တင်ကြသည်။ ဗိမ္ဗိသာရမင်းကား သူတော်ကောင်း ပညာရှိဖြစ်သည်။ လေးနက်စွာ စဉ်းစားဆင်ခြင်ပြီးမှ မိန့်တော်မူသည်။

"မောင်မင်းတို့ လယ်ထဲကို ပြန်သွားကြ။ သူဌေးပုဏ္ဏာရဲ့ ရွှေတွေကို ဘုရင်မင်းမြတ် အသယ်ခိုင်းလို့ လာသယ်တာလို့ ပြောကြ"

မင်းချင်းများ ပြန်လာကြသည်။ လယ်ကွင်းတစ်ပြင်လုံး ရွှေရောင်ထိန်နေသည်။မင်းချင်းများ လယ်ကွက်ထဲသို့ဆင်းလာကြပြီး ဘုရင်မှာသည့်အတိုင်း ပြောပြီးကောက်ယူကြသည်။ ရွှေခဲတွေသည် မြေကြီးခဲ ဖြစ်မသွားပေ။

ဤသို့ဖြင့် 'ရှစ်မင်းပယ်'စာမျှရှိသော ရွှေတုံးများကို လှည်းများဖြင့်

တင်လာပြီး၊ နန်းတော်ရှေ့၌စုပုံထားရာ အတောင်ရှစ်ဆယ်မြင့်ချေ၏။သူဌေး သုမနလည်း မပိုင်၊ ဘုရင့်ဥစ္စာလည်း မဟုတ်။ ပုဏ္ဏအတွက် ဖြစ်ပေါ်လာသော ရွှေတုံးများကို ပုဏ္ဏလက်သို့အပ်အပြီး၌ ဘုရင်မင်းမြတ်သည် ပုဏ္ဏအား သူဌေးဘွဲ့ ပေးလိုက်လေ၏။

သူဆင်းရဲဘဝမှ တစ်နေ့အတွင်း သူဌေးကြီးဖြစ်လာသော ပုဏ္ဏလင်မယားနှင့် သမီးငယ် ဥတ္တရာတို့သည် မြတ်စွာဘုရား အမှူးပြုသော သံဃာတော် အရှင်မြတ်များအား ပင့်ဖိတ်ကာ ဆွမ်းအစရှိသော ဒါတဗ္ဗဝတ္ထုများ ပေးလှူသည်မှာ ခုနစ်ရက်ကြာမြင့်၏။ မြတ်စွာဘုရားသည် တရားအနုမောဒနာ ပြုတော်မူ၏။ ဒေသနာတော်၏ အဆုံး၀ယ် သားအမိ သားအဖ သုံးယောက်လုံး သောတာပတ္တိဖိုလ်၌ တည်ကြလေ၏။

သမီးကလေး ဥတ္တရာ အရွယ်ရောက်လာပြီ။

တစ်နေ့သောအခါတွင် သူဌေးပုဏ္ဏ၏အရင်သခင်ဟောင်း သူဌေးသုမနထံမှ ကမ်းလှမ်းစကား ရောက်လာ၏။ သူ့သားနန္ဒနှင့် ဥတ္တရာအားလက်ဆက်လိုသည့်အကြောင်း ဖြစ်ပေ၏။

ပုဏ္ဏ သဘောမတူပါ။ သူဌေးသုမနသည် ဘုရားမှန်းမသိ၊ တရားမှန်း မသိ၊ သံဃာမှန်းမသိသော မိစ္ဆာဒိဋ္ဌိ ဖြစ်၏။ သို့ကြောင့် တစ်ဦးတည်းသောသမီးနှင့် မပေးစားလို။ သို့ရာတွင် အခြားမိတ်ဆွေများက မိတ်မပျက်စကောင်းဟု ဖျောင်းဖျကြသဖြင့် သူဌေးပုဏ္ဏမှာ သူ့သမီးအား မိစ္ဆာဒိဋ္ဌိ နန္ဒနှင့် ပေးစားလိုက်ရလေ၏။

သျှောင်နောက်သို့ ဆံထုံးပါခဲ့ရသော သောတာပန်ဥတ္တရာမှာ မြတ်စွာဘုရား၏တရားတော်ကို နာကြားခွင့်မရှိပေ။ သံဃာတော် အရှင်မြတ်များအားလည်း မဖူးမြော်ရပေ။

နှစ်လကျော် ကြာသွားသောအခါ ရတနာသုံးပါးနှင့် ကင်းရသော ဆင်းရဲကို ဥတ္တရာ မခံမရပ်နိုင်တော့ပါ။ သို့အတွက် 'ဤမိစ္ဆာဒိဋ္ဌိ ငရဲအိမ်၌

မထားကြပါနှင့် ပြန်ခေါ်ပါ'ဟု အဓိပ္ပာယ်ရသော စာတစ်စောင်ရေးကာ မိဘများထံ ပို့လိုက်သည်။

မကြာမီ ဥတ္တရာ၏မိဘများထံမှ အသပြာတစ်သောင်းခွဲနှင့်အတူ သညာပေးစာတစ်စောင် ရောက်လာသည်။

ဤအချိန်အခါက သိရိမာ အမည်ရှိသော ပြည့်တန်ဆာသည် ရာဇဂြိုဟ်မြို့၌ ထင်ရှားကျော်ကြား၏။ သို့ရာတွင် သိရိမာသည် မိန်းမရှင် မိန်းမပျက် မဟုတ်။ ပြည့်ရှင်မင်းက ရွေးကောက်ခန့်ထားသူဖြစ်၏။

ဥတ္တရာသည် သိရိမာအား ခေါ်ပြီး အသပြာတစ်သောင်းခွဲပေးကာ တောင်းပန်စကား ဆိုပေ၏။

"လခွဲလောက် ငါ ဥပုသ်သီတင်း စောင့်သုံးချင်တယ်။ အဲသည် ကာလအတွင်းမှာ ငါ့လင်ကို ပြုစုလုပ်ကျွေး ပေးစေချင်ပါတယ်"

သိရိမာသည်သဘောတူသဖြင့် အသပြာတစ်သောင်းခွဲကို လက်ခံ၏။ ဥတ္တရာ၏ လင်ကလည်း သိရိမာအား သဘောကျ၏။ ဤသို့ဖြင့် ဥတ္တရာအတွက် သာသနာတော်သည် ပွင့်လင်းသွားသည်။

ဥတ္တရာသည် ရသမျှသော ရက်တိုကလေးအတွင်း၌ မြတ်စွာဘုရားနှင့် သံဃာတော် အရှင်မြတ်များအား နေ့စဉ်မပြတ် ဆွမ်းကပ်လှူသည်။ ထို့နောက် ရှစ်ပါးသီလ ခံယူဆောက်တည်ပြီး သီးခြားပြာသာဒ်၌ တရားအားထုတ်သည်။

ထိုသို့ ချမ်းမြေ့ပျော်ရွှင်သော ဥတ္တရာ၏ မြင့်မြတ်သောရက်များသည် တဖြည်းဖြည်းကုန်ဆုံးလာခဲ့၏။ ဤသို့ဖြင့် ဝါကျွတ်လပြည့်၏ အဖိတ်နေ့သို့ ရောက်လာခဲ့၏။ ဥတ္တရာလည်း များစွာသော အစေအပါးများကြားတွင် ဝင်ထွက်သွားလာလျက် ချက်ပြုတ်လုပ်ကိုင်မှုများကို ညွှန်ကြားနေ၏။ သို့စဉ်တွင် ဥတ္တရာ၏လင် နန္ဒသည် လေထွက်တံခါးဝ၌ရပ်လာ၏။

'သည် ကျွန်ယုတ်မဟာ တယ်မိုက်မဲပါကလား'

ဥတ္တရာအား မြင်သောကြောင့် နန္ဒ၏ရင်၌ ဖြစ်ပေါ်လာသော အတွေးဖြစ်၏။ ဒီလောက်ကြီးကျယ်မြင့်မြတ်တဲ့ စည်းစိမ်ချမ်းသာကို ခံစား မနေချင်ဘဲ စားဖိုအိမ်ထဲဝင်ပြီး ပြာအလူးလူး ချွေးအစီးစီးနဲ့ ပင်ပန်းလိုက် တာ။ ဦးပြည်းရဟန်းတွေကို လုပ်ကျွေးဖို့ပါကလား”

ထိုအတွေးကြောင့် နန္ဒ ပြုံး၏။

ဥတ္တရာကလည်း လေထွက်တံခါး၌ ရပ်လျက်ပြုံးသော လင်ကို မြင်သဖြင့် ‘သည်ငမိုက်သားဟာ သူ့စည်းစိမ်ချမ်းသာကို အခါခပ်သိမ်း မြဲတယ်ထင်ပြီး မေ့မေ့လျော့လျော့ ပေါ့ပေါ့တန်တန် နေလိုက်ပုံနှယ်’ဟု တွေးကာ ပြုံး၏။

ပြတင်းဝသို့ သိရိမာ ရောက်လာသည်။ ဥတ္တရာ၏အပြုံးကို မြင် သည်။ သနားပြုံး၊ တရားပြုံးဟု သိရိမာ မသိ။ ၁၅ ရက်တာ ငှားရမ်းထား သော ဇဂ်မ အငှားမယားပါတကား ဟူသည်ကိုလည်း သိရိမာ မေ့၏။

“ကြည့်စမ်း။ ငါ့ရှေ့မှာတောင် ငါ့လင်ကိုပြုံးပြပြီး မြူဆွယ်နေတာ ကိုး”

အငှားမယားက မယားကြီးကို ဒေါသများပင် ထွက်လိုက်သေး သည်။ ‘သိကြရောပေါ့’ဟု ကြုံးဝါးကာ ထဘီစွန်တောင်ဆွဲလျက် ပြာသာဒ် ပေါ်မှ ဆင်းလာသည်။ ဥတ္တရာတို့ ချက်ပြုတ်လုပ်ကိုင်နေရာသို့ တွန်းတိုးဝင် ရောက်လာသည်။ မီးဖိုပေါ်တွင် ထောပတ်အိုးတည်ထားရာ ပွက်ပွက်ဆူနေ သည်။

“ကဲ၊ ငါမှန်း သိပြီလား”

သိရိမာသည် ထောပတ်တွေကို ယောက်ချိုဖြင့်ခပ်ကာ ဥတ္တရာ၏ ခေါင်းပေါ်သို့ လောင်းချ၏။ ‘သည်ခင်ပွန်းမ ကူညီပေလို့သာ ကောင်းမှု ကုသိုလ်တွေ ပြုရတယ်’ ဟူသော ကျေးဇူးတင်စိတ်ဖြင့် မေတ္တာပွားနေသော ဥတ္တရာ၏ခေါင်းပေါ်သို့ ကျရောက်လာသော ထောပတ်ပူများသည် ရေချမ်း

အိုးထဲကရေသဖွယ် အေးနေ၏။

သိရိမာ မကျေနပ်။ ဖြည်းဆေးစွာ လာသောကြောင့် ထောပတ်ပူတွေ အေးကုန်သည်ထင်ပြီး အပြေးသွားကာ အပြေးခပ်လာပြီး လောင်းပြန်သည်။ သီတာရေစင်နှယ် အေးမြနေသည်။အခိုင်းအစေများသည် မှင်တက်မိနေရာက အသက်ဝင်လာကြ၏။

"ငါတို့ သခင်မကို ရာရာသသ"

ဆံပင်ဆွဲကြ၊ ပါးရိုက်ကြ၊ ခြေဖြင့်ကန်ကြသည်တွင် ဥတ္တရာ တားမြစ်၏။

"ဟဲ့၊ မလုပ်ကြနဲ့။ ဒါ ငါ့ အဆွေခင်ပွန်းမ။ သူ့ကျေးဇူး ဘယ်လောက်ကြီးတယ်ဆိုတာ နင်တို့သိရဲ့လား"

သိရိမာမှာ ဥတ္တရာ၏စကားကို ကြားသည့်ခဏ၌ မိမိအမှားကို ချက်ချင်းသိသည်။ ဥတ္တရာ၏ရှေ့တွင် ဒူးထောက်လျက် ခြေကိုဖက်၏။

"သခင်မ ခွင့်လွှတ်တော်မူပါ။ ရက်စရာကောင်းတဲ့ ကျွန်တော်မဘဝကို မေ့ပြီး ပြစ်မှားမိတာ ခွင့်လွှတ်ပါ"

ထိုအခါ ဥတ္တရာက ကြင်နာစွာပြော၏။

"အဆွေ သိရိမာ။ ငါ မေတ္တာမပျက်။ ဒါပေမယ့် ငါ့အဖ မြတ်စွာဘုရားက သည်းခံဆိုရင် ငါသည်းခံမယ်။ နက်ဖြန်နံနက် မြတ်စွာဘုရားနဲ့ သံဃာတော်များ ကြွလာတော်မူတဲ့အခါ အဆွေသိရိမာ သဒ္ဓါသမျှနဲ့ ဆက်ကပ်ပူဇော်ပြီး တရားတော်ကို နာကြားပါ။ ပြီးတဲ့အခါ အပြစ်ကိုပြပြီး တောင်းပန်ပေါ့"

ဤအကြံပေးစကားကို သိရိမာ သဘောတူသည်။ သို့ကြောင့် နောက်တစ်နေ့နံနက်တွင် မြတ်စွာဘုရားနှင့်သံဃာတော်အရှင်မြတ်များအား ဆွမ်းကပ်သောအခါ သိရိမာပါဝင်ပြီး ဝေယျာဝစ္စများ ဆောင်ရွက်သည်။ ဆွမ်းအနုမောဒနာ တရားနာကြားအပြီးတွင် အပြစ်အပျက်ကို မြတ်စွာ

ဘုရားအား လျှောက်ထားသည်။

ရှင်တော်မြတ်ဘုရားသည် သူတော်ကောင်းတို့၌ ပြစ်မှားခြင်းသည် ကြီးမားသောအပြစ်ရှိသည်များကို သိရိမာအား ဟောကြားတော်မူ၏။ ထို့နောက် အလှူရှင် ဥတ္တရာကို ခေါ်တော်မူပြီး မေးတော်မူ၏။

"ချစ်သမီး ဥတ္တရာ၊ သိရိမာသည် ကျိုက်ကျိုက်ဆူနေသော ထောပတ်ဖြင့် သင့်ကို လောင်းလတ်သောကာလ၌ သင်၏စိတ်နှလုံး အသို့ ရှိသနည်း"

ထိုအခါ ဥတ္တရာက ဤသို့ တင်လျှောက်၏။

"ဘုန်းတော်ခြောက်စုံ ဂုဏ်တော်အနန္တနဲ့ ပြည့်စုံတော်မူတဲ့ အရှင်မြတ်ဘုရား။ တပည့်တော်မဟာ သိရိမာကြောင့် အရှင်ဘုရားကို ဖူးမြော်ခွင့်ရ၊ တရားတော်ကိုလည်း နာကြားခွင့်ရတဲ့အတွက် သိရိမာဟာ တပည့်တော်မရဲ့ ကျေးဇူးရှင်ဖြစ်ပါပေတယ်။ စကြဝဠာကောင်းကင် မြေပြင်မကကြီးကျယ်လှတဲ့ ဂုဏသခင် ဖြစ်ပါပေတယ်ဆိုပြီး သိရိမာကို အလွန်ချစ်ကြည်တဲ့ မေတ္တာစိတ်နဲ့ မေတ္တာဈာန်ဝင်စားပြီး ထောပတ်ပူ အလောင်းခံပါတယ်ဘုရား"

သုံးလောကထွတ်ထား သဗ္ဗညု မြတ်စွာဘုရားသည် သာခု သုံးကြိမ် ခေါ်ကာ ကောင်းချီးပေးတော်မူပြီးနောက် 'အကောဓေနဇိနေ ကောဓံ' အစရှိသည့်ဂါထာကို ဟောတော်မူသည်။ ထိုမှတစ်ဖန် ရှင်တော်မြတ်ဘုရားသည် သိရိမာ၌ထားရှိသော ဥတ္တရာ၏မေတ္တာစိတ်ကိုလည်း အမြတ်ဆုံးအရာ၌ ထားတော်မူသည်။

"ရဟန်းတို့။ မေတ္တာဈာန်၌ မွေ့လျော်ကုန်သော ငါ၏သာဝိကာ ဥပါသိကာတို့တွင် နန္ဒမာတာ ဥတ္တရာသည် အမြတ်ဆုံးဖြစ်၏"ဟု ဥတ္တရာအား 'အဂ္ဂဈာယိ' တေဒဂ် ပေးတော်မူ၏။

ဥတ္တရာအား 'နန္ဒမာတာ ဥတ္တရာ'ဟူသည့် အမည်တစ်ခု ထပ်မံ

ခေါ်တွင်ရခြင်းမှာ ဤသို့ဖြစ်၏။

ဥတ္တရာ၏ခင်ပွန်းနန္ဒသည် ရတနာသုံးပါး၌ မကြည်ညွတ်ပေ။ အိပ်၊ စား၊ ကာမ ကိုသာ အလေးထားသူ ဖြစ်ခဲ့၏။ သို့ရာတွင် သိရိမာ၏ ဝန်ခံလျှောက်ထားပွဲတွင် မြတ်စွာဘုရား၏ တရားတော်ကို နာယူရသဖြင့် နန္ဒမှာ သတိသံဝေဂ များစွာရသည်။ ထိုသို့ သတိသံဝေဂ ရခြင်းမှာ ဥတ္တရာ အား ရေးကထက်ပိုပြီး ချစ်ခင်စုံမက်နှစ်သက်ရုံသာမက ရိုသေခြင်းတရားပါ ဖြစ်ပေါ်လာသည်။ သို့ကြောင့် ဥတ္တရာအား အမိအရာထားပြီး "သင်ဆုံးမတဲ့ အတိုင်း လိုက်နာ နာခံပါတော့မယ်"ဟု ဝန်ချတောင်းပန်ရာမှ စတင်ပြီး 'နန္ဒမာတာ ဥတ္တရာ' အမည်တွင်လာခြင်း ဖြစ်ပေ၏။

သိရိမာသည်လည်း ရတနာသုံးပါးနှင့် ဒုန်းဝေးသူ ဖြစ်ခဲ့သည်။

သို့ရာတွင် ဥတ္တရာအားအကြောင်းပြုပြီး မြတ်စွာဘုရား၏ တရား တော်ကို နာကြားရသောအခါ သောတာပတ္တိဖိုလ်၌ တည်သည်။ ထိုအခါမှ အစပြုပြီး သိရိမာသည် ရတနာသုံးပါးကို လုပ်ကျွေးသောသူ ဖြစ်လာခဲ့ သည်။ သူကွယ်လွန်သောအခါ မြတ်စွာဘုရား ကြွလာတော်မူပြီး သူ၏ရုပ် ကလာပ်ကို ပရိသတ်အလယ်၌ထားကာ တရားရေအေး အမြိုက်ဆေး တိုက် ကျွေးတော်မူ၏။



## ၆။ အဂ္ဂပဏ္ဏိတဒါယိကာ ဧတဒဂ်ရ ဥပါသိကာ

"ရဟန်းတို့။ မွန်မြတ်သောဝတ္ထုကို ပေးလှူကုန်သော ငါ၏ သာဝိကာ ဥပါသိကာတို့တွင် အမြတ်ဆုံးဖြစ်၏"ဟူ၍ ရှင်တော်မြတ်ဘုရားထံမှ 'အဂ္ဂပဏ္ဏိတဒါယိကာ' ဧတဒဂ်ရသူကား ရှင်သီဝလိ၏မယ်တော် ကောလိယ မင်းသမီး 'သုပ္ပဝါသာ' ပေတည်း။

သုပ္ပဝါသာ မင်းသမီးသည် ထို အဂ္ဂပဏ္ဏိတ ဧတဒဂ်ကို ပဒုမုတ္တရ မြတ်စွာဘုရား၏ ရွှေလက်ထက်တော်ကတည်းက ဆုပန်ခြွေသဖြင့် ဗျာဒိတ် စကား နာကြားခဲ့ရပြီးဖြစ်သည်။

သူသည် သံသရာဝဲသြဃ၌ စုန်ဆန်မျောပါရာက တစ်ခုသော ဘဝတွင် ရန်စစ်ပြုလာသောမင်း၏ အသိမ်းပိုက်ခံရ၏။ သူ၏သားတော် မှာမူ ရန်သူမင်း၏လက်မှ လွတ်မြောက်သွားခဲ့ကာ အင်အားခိုင်ဖြိုးအောင် ပြုပြီး မယ်တော်ရှိသောမြို့ကို တိုက်ခိုက်ရန် ချီတက်လာ၏။

ထိုအခါ သုပ္ပဝါသာလောင်းလျာ မိဖုရားက စစ်မက်ဖက်ပြိုင် တိုက်ခိုက်ခြင်းထက်ကောင်းသော နည်းလမ်းကို သားတော်ထံသို့ လျှို့ဝှက် ပေးပို့သည်။ လျှို့ဝှက်ပေးပို့သောနည်းလမ်းမှာ မြို့ကိုကြပ်တည်းစွာ ဝန်းရံ ပိတ်ဆို့လျက် အစာရေစာဖြတ်တောက်သော နည်းဗျူဟာဖြစ်သည်။

သားတော်သည် မယ်တော်ညွှန်ကြားသော နည်းဗျူဟာကို ကျင့် သုံးရာ၊ အပြစ်မဲ့သောပြည်သူများ အစာငတ်ရေငတ်ဖြစ်ကြရသည်။ ထိုအထဲ တွင် သီလဝန္တ ပုဂ္ဂိုလ်များ ပါဝင်ပြန်သောအခါ ပို၍အပြစ်ကြီးသည်။ သားတော်သည် ရန်သူမင်းရှိသောမြို့ကို ၇ နှစ်နှင့် ၇ ရက် ဝန်းရံပိတ်ဆို့ ထားနိုင်သဖြင့် ရန်သူမင်းကို အောင်နိုင်ခဲ့၏။

ရန်သူမင်းကို ဖြိုခွင်းနိုင်ခဲ့သောထိုသားအမိသည် ငရဲဘေးကိုကား မအောင်နိုင်ပါ။ ဝဋ်လိုက်သည်ကိုလည်း မရှောင်ကွင်းနိုင်ပါ။ နောက်ဆုံး ဘဝဖြစ်သော ဤသာသနာတော်အတွင်းဝယ် မယ်တော်သည် ကောလိယ မင်းမျိုး၌ ဖြစ်လာသည်။ သုပ္ပဝါသာဟု အမည်တွင်သည်။

အရွယ်သို့ ရောက်သောအခါ လိစ္ဆဝီမင်းသား မဟာလိနှင့် သင့်မြတ်သည်။ သားတော် သီဝလိကို နှုတ်ငုံရှိရာတွင် ဖွားရိုးဖွားစဉ် ဆယ်လဖြင့် မဖွားပေ။ ၇ နှစ် နှင့် ၇ လ လွယ်ထားခြင်းဖြင့် ဘဝဟောင်းက ဝဋ်ကြွေးကို ပေးဆပ်ရရှာသည်။

သို့သော် သုပ္ပဝါသာမင်းသမီးသည် မြတ်စွာဘုရားအား ပထမ ဆုံး အကြိမ်အဖြစ် ဖူးမြင်ရစဉ်ကပင် မြတ်စွာဘုရား၏တရားတော်ကို နာကြားရသဖြင့် သောတာပန် တည်ခဲ့သူဖြစ်၏။ သို့ဖြစ်သည့်အတွက် မီးမဖွားနိုင်သည့် ဒုက္ခကို ခံစားနေရပါလျက် ရတနာသုံးပါးကို မမေ့ပေ။

သားတော် သီဝလိ သတို့သားကို ဖွားမြင်ပြီးနောက်တွင် သုပ္ပ ဝါသာသည် မြတ်စွာဘုရား အမှူးပြုသော သံဃာတော် အရှင်မြတ်များအား ဆွမ်းအလှူ ခုနစ်ရက်ပြုသည်။ ထိုခုနစ်ရက်အတွင်း ဆက်ကပ်သော ဆွမ်း

ဘောဇဉ်များမှာ အကောင်းဆုံး အမွန်မြတ်ဆုံးတွေချည်းဖြစ်၏။ အကောင်းဆုံး အမွန်မြတ်ဆုံးဟု ဆိုရခြင်းမှာ သာမန် မင်းထိုက်စိုးတန် မဟုတ်။ အထူးတလည် ရှာကြံပြီး စီမံထားသော အကောင်းအညွန့်တွေ ဖြစ်သည်။

ဤသည်ကိုရည်၍ မြတ်စွာဘုရားသည် နောင်အခါတွင် ဥပါသိကာတို့အား ထိုက်သင့်ရာ တေဒဂ် ချီးမြှင့်တော်မူသောအခါ "မွန်မြတ်သော လှူဖွယ်ဝတ္ထုကို ပေးလှူကုန်သော ငါ၏သာဝိကာ ဥပါသိကာတို့တွင် ကောလိယမင်းသမီး သုပ္ပဝါသာသည် အမြတ်ဆုံးဖြစ်၏"ဟူ၍ 'အဂ္ဂပဏီတဒါယိကာ' တေဒဂ် ပေးတော်မူခြင်း ဖြစ်ပေသည်။

အထက်ပါ ဆွမ်းအလှူတွင် သုံးလူ့မှန်ကင်း တရားမင်းသည် ဆွမ်းအနုမောဒနာတရား ဟောကြားတော်မူပုံမှာ ဤသို့ ဖြစ်ပေ၏။

"ဒါယိကာမ သုပ္ပဝါသာ ဆွမ်းဘောဇဉ်ကို ပေးလှူသူသည် အလှူခံပုဂ္ဂိုလ်များအား အသက်ကို ပေးလှူသည် မည်၏။ ရုပ်အဆင်းကိုလည်း ပေးလှူသည် မည်၏။ ချမ်းသာမှုကိုလည်းကောင်း၊ ခွန်အားဗလတို့ကို လည်းကောင်း၊ ဉာဏ်ပညာတို့ကိုလည်းကောင်း ပေးလှူသည် မည်၏။

"သို့ဖြစ်သောကြောင့် ဆွမ်းအလှူရှင်သည် နတ်ဖြစ်လျှင်သော်လည်းကောင်း၊ လူဖြစ်လျှင်သော်လည်းကောင်း၊ အသက်ရှည်၍ အဆင်းလှရန် ဖြစ်၏။ ချမ်းသာပြီး အားခွန်ဗလကြီးမားရန်၊ ဉာဏ်ပညာကြီးမားရန်တို့၏ အကြောင်းလည်း ဖြစ်ပေ၏။

"စရဏတရားတို့ဖြင့် ပြည့်စုံကုန်လျက် မြတ်သောအဖြစ်သို့ ရောက်ရှိကုန်သော၊ ဖြောင့်မတ်ခြင်းသို့ ရောက်ရှိကုန်သော ရဟန္တာပုဂ္ဂိုလ်တို့အား စင်ကြယ်မွန်မြတ်၍အရသာဖြင့်ပြည့်စုံသော ကောင်းစွာစီရင်ထားသည့် ဘောဇဉ်ကို ပေးလှူသောပုဂ္ဂိုလ်တို့၏ အလှူဒါနကို ကောင်းမှုအချင်းချင်း ဆက်စပ်လျက် ကြီးမြတ်သောအကျိုး ရှိပေသည်ဟု မြတ်စွာဘုရားတို့ ချီးမွမ်းတော်မူကြကုန်၏။

"ထိုသို့သဘောရှိသော ကောင်းမှုကုသိုလ်ကို အဖန်တလဲလဲ အောက်မေ့ကြကုန်လျက် နှစ်သက်ခြင်းရှိပြီးလျှင် ဝန်တိုခြင်း အညစ်အကြေးကို အရင်းအမြစ်နှင့်တကွ ပယ်ဖျောက်၍ လှည့်လည်ကုန်သော သူတို့သည် ကောင်းမွန်မြင့်မြတ်သော နတ်ပြည်နတ်ရွာသို့ ရောက်ကြရကုန်၏"



## ၇။ အင်္ဂုလိလာန ပဋ္ဌက တေဒင်ရဥပါသိကာ

မမာမကျန်းသော ရဟန်းတို့အား လုပ်ကျွေးပြုစုကြကုန်သော ငါ၏ သာဝိကာ ဥပါသိကာတို့တွင် အမြတ်ဆုံးဖြစ်သည်ဟူ၍ မြတ်စွာဘုရားထံတော်မှ 'အင်္ဂုလိလာန ပဋ္ဌက' တေဒင်ရ ဥပါသိကာမှာ 'သုပ္ပိယာ' ဒါယိကာမ ဖြစ်ပေသည်။

သူသည် ဤဆုကို ပဒုမုတ္တရ မြတ်စွာဘုရား၏ လက်ထက်တော်ကတည်းက တောင့်တ ပန်ထွာခဲ့သည်။ သူသည် ဤသာသနာတော်တွင်း၌ လူဖြစ်လာသောအခါ သာဝတ္ထိပြည်သို့ မြတ်စွာဘုရား ကြွလာတော်မူစဉ် လက်ဦးဖူးတွေ့ရသူများ၌ ပါဝင်သည်။ သူသည် ထိုအချိန်ကတည်းက သောတာပန် တည်ခဲ့သည်။

သုပ္ပိယာ ဒါယိကာမသည် ကျောင်းဒါယိကာမကြီး ဝိသာခါနှင့် ရင်းနှီးသူလည်း ဖြစ်သည်။ သို့ကြောင့် သူတို့နှစ်ယောက်သည် ကျောင်း

တိုက်အတွင်း၌ သီတင်းသုံးနေတော်မူကြသော သံဃာတော် အရှင်မြတ်များထံ တစ်ကျောင်းဝင် တစ်ကျောင်းထွက် လှည့်လည်လေ့ရှိသည်။ ကျောင်းဒါယိကာမကြီးက သင်္ကန်းလှူရန်၊ ဆေးနှင့် ဆွမ်းလှူရန် စုံစမ်း၍ သူကသူနာများအား ပြုစုရန် စုံစမ်းသည်။

ထိုမှတစ်ပါး ခရီးသွားရဟန်းတော်များ၊ အာဂန္တုရဟန်းများလည်းရှိနေတတ်သည်။ ဝိနည်းတော်ကို အသက်တမျှတန်ဖိုးထားသော အရှင်မြတ်များဖြစ်ကြရကား ချို့ငဲ့မှုများကို သည်းခံနေတော်မူတတ်ကြ၏။ သို့ကြောင့်လည်း တစ်ကျောင်းဝင် တစ်ကျောင်းထွက် စုံစမ်းကြခြင်းဖြစ်သည်။

အခါတစ်ပါး၌ ဒါယိကာမ သုပ္ပိယာ ဝင်သွားသောကျောင်း၌ ဂိလာနရဟန်းတစ်ပါး ရှိနေတော်မူ၏။ "အရှင်ဘုရားတို့၊ ဘယ်ကျောင်းမှာ ဂိလာနရဟန်း ရှိပါသတုန်း"ဟူ၍ တကူးတက စုံစမ်းလာခဲ့သော သုပ္ပိယသည် ချက်ချင်းလက်အုပ်ချီလျက် အပါးသို့ ချဉ်းကပ်သွားသည်။

ထိုအရှင်မြတ်မှာ ဝမ်းနုတ်ဆေးသောက်ထားသဖြင့် နွမ်းနယ်နေပေသည်။ ထိုအချိန်အခါက ကုထုံးမှာ ဝမ်းနုတ်ထားသူသည် 'သားပြွမ်းဟင်းရည်'ကို သောက်သုံးရခြင်း ဖြစ်ပေသည်။

"အရှင်ဘုရား၊ တပည့်တော်မ လုပ်ကျွေးပါရစေဘုရား။ အရှင်ဘုရားအတွက် လိုအပ်တဲ့ဆေးကို လှူပါရစေဘုရား"

ထိုအခါ ဝမ်းလျှောဆေး သောက်သုံးထားသော အရှင်သည် ရှေးအခါများက ဝမ်းနုတ်အပြီးတွင် သောက်သုံးမှီဝဲလေ့ရှိသောနည်းနာကို မိန့်ကြားတော်မူ၏။ ဒါယိကာမ သုပ္ပိယာကလည်း "တပည့်တော်မ အမြန်ဆုံးလာပြီး ကပ်ပါမယ်ဘုရား" ပြောပြီး အိမ်သို့အမြန်ပြန်လာသည်။

သုပ္ပိယာသည် အိမ်သို့ပြန်ရောက်လျှင်ရောက်ချင်း အဖော်အလှော်တစ်ယောက်အား အသားဝယ်ရန် ဈေးသို့စေလွှတ်လိုက်သည်။ သုပ္ပိယာ၏အဖော်အလှော်သည် အချိန်များစွာကြာမှ အိမ်သို့ ပြန်ရောက်လာသည်။

"သခင်မ၊ ကနေ့ဟာ သားကြီးငါးကြီး မပေါ်ရတဲ့နေ့ ဖြစ်တဲ့အတွက် ဗာရာဏသီ တစ်မြို့လုံးမှာ အသားရှာလို့ မရပါ"

သုပ္ပိယာမှာ ဂီလာနရဟန်းတော်အတွက် စိုးရိမ်ပူပန်လှသည်။

"အရှင်ကောင်း အရှင်မြတ်ဟာ သားပြွမ်းဟင်းရည်ကို မသုံးဆောင်ရလို့ အနာရောဂါတိုးပွားရင် အခက်ပဲ။ သည်ဟာကိုမှ မသုံးဆောင်ရလို့ အသက်ကိုအန္တရာယ်ဖြစ်ရင် ဒုက္ခပဲ။ ငါကလည်း 'တပည့်တော်မ ကပ်ပါရစေ' ခွင့်တောင်းခဲ့တော့၊ တခြားမှာလည်း ရှာဖွေမှာမဟုတ်ဘူး။ ဟာ.... ဘယ့်နှယ် လုပ်ရပါ့"

ဒါယိကာမ သုပ္ပိယာသည် သောတာပန်ဖြစ်ရကား အိမ်တွင်မွေးမြူထားသည့် ကြက်၊ ငှက်၊ ဆိတ်၊ သိုး စသည်များကိုလည်း သတ်ဖြတ်ရန် စိတ်ဖြင့်သော်မျှ မကြံစည်။ သူတစ်ပါးအားလည်း မစေခိုင်းပေ။

သို့သော်....

'သားပြွမ်းဟင်းရည် မရရင်၊ သားပြွမ်းဟင်းရည် မရရင်'ဟူသည့် အပူလုံးကြီးကလည်း ရင်တွင်းဆို့လျက်ရှိသည်။ သို့အတွက် သုပ္ပိယာသည် ဓားထက်ထက်တစ်ချောင်းကိုယူပြီး အခန်းထဲသို့ ဝင်သွားသည်။ မကြာမီ သွေးစက်စက်နှင့် အသားတစ်တုံးကို ယူလျက် စားဖိုဆောင်သို့ ရောက်သွားသည်။

"စားဖိုမှူး။ သားပြွမ်းဟင်းရည် အကောင်းဆုံးချက်ပြီး ကျောင်းကို သွားပို့လိုက်ပေတော့"

စားဖိုမှူးထံသို့ သုပ္ပိယာပစ်ပေးသော အသားကား စင်စစ်အားဖြင့် သုပ္ပိယာ၏အသားပေတည်း။ သို့ကြောင့် သုပ္ပိယာသည် အနာကိုဆေးထည့် အဝတ်ဖြင့် ပတ်စည်းနှောင်တည်းပြီး အိပ်ရာထဲ၌ လှဲနေလေ၏။

မကြာမီ သူ၏ခင်ပွန်းလင် သုပ္ပိယသည် အပြင်မှ ပြန်ရောက်လာသည်။ခရီးဦးကြို ပြုနေကျဖြစ်သော မယားကို မတွေ့သဖြင့် အိမ်ခန်းတွင်း

သို့ ဝင်လာသည်။

"ရှင်မ ဘာဖြစ်သတုန်း။ နေမကောင်းဖူးလား"

"ကောင်းပါတယ်"

"ကောင်းတယ်သာ ဆိုတယ်၊ ရှင်မရဲ့မျက်နှာက ဖြူဖပ်ဖြူရော်နဲ့'

ထိုသို့ စေ့စပ်စွာ မေးမြန်းသောအခါ သုပ္ပိယာမှာ ထိန်ချန်ထား၍ မဖြစ်တော့ပါ။ မိမိပြုသော ကောင်းမှုကုသိုလ်ကို ထုတ်ဖော်ပြောရတော့သည်။ သုပ္ပိယမှာ တအံ့တသြဖြင့် အနာကိုလှန်ကြည့်သည်။

"အံ့သြစရာပါကလား ရှင်မရယ်။ မယုံနိုင်စရာကြီးပါကလား"

ထိုသို့ပြောအပြီး၌ သုပ္ပိယသည် အံ့သြရွှင်လန်းစွာ မြည်တမ်း၏။

"သုပ္ပိယာဟာ ရတနာသုံးပါးရဲ့ ဂုဏ်ကျေးဇူးကို အလွန်ယုံကြည်တယ်။ ရတနာသုံးပါးကို အလွန်တရာလည်း ကြည်ညိုတယ်။ ကိုယ့်အသားကိုတောင် စွန့်လွှတ်လှူဒါန်းနိုင်တဲ့ သည်သုပ္ပိယာမှာ မစွန့်လွှတ် မလှူဒါန်းနိုင်တဲ့ တခြားပစ္စည်းဆိုတာ ဘယ်မှာ ရှိတော့မှာတုန်း"

မယား၏ သဒ္ဓါတရားလှိုင်းသည် လင်သုပ္ပိယကို ရိုက်ခတ်သည်။ သို့ကြောင့် သုပ္ပိယမှာ အလှူပေးလိုစိတ် ပေါ်လာကာ မြတ်စွာဘုရား၏ ကျောင်းတော်သို့ ရွှင်လန်းတက်ကြွစွာလာခဲ့သည်။

"အရှင်ကောင်း အရှင်မြတ်ဘုရား။ နက်ဖြန်နံနက်မှာ မြတ်စွာဘုရားနဲ့တကွ သံဃာတော်များ တပည့်တော်ရဲ့အိမ်ကို ကြွပြီး ဆွမ်းဘုဉ်းပေးတော်မူကြပါဘုရား"

ဆွမ်းညွှန်သော ရဟန်းတော်ထံတွင် ပင့်ဖိတ်လျှောက်ထားရာ အခွင့်ရသဖြင့် သုပ္ပိယသည် အိမ်သို့ အလျင်အမြန် ပြန်လာပြီး၊ ချက်ပြုတ်ပြင်ဆင်တော့သည်။

နောက်တစ်နေ့နံနက်တွင် မြတ်စွာဘုရားအမှူးရှိသောသံဃာတော်

အရှင်မြတ်များသည် သုပ္ပိယ၊ သုပ္ပိယာတို့၏အိမ်သို့ ကြွရောက်တော်မူလာကြသည်။ သုံးလူ့မှန်ကင်း တရားမင်းသည် ကောင်းစွာခင်းကျင်းထားသော နေရာတော်၌ ထိုင်တော်မူပြီးနောက် ဒါယကာသုပ္ပိယအား မေးမြန်းတော်မူ၏။

"ဒါယိကာမကြီး မမြင်ပါတကား၊ ဒါယကာ"

"နေမကောင်းလို့ အိပ်ရာထဲကပဲ တရားနာမယ် ပြောပါတယ်ဘုရား"

"အခန်းထဲကထွက်ပြီး သံဃာတော်များကို ဖူးမြော်စေလော့ ဒါယိကာ"

အသားကို ဓားဖြင့်လှီးထားသော သုပ္ပိယာသည် ဆေးဦးစေကာမူ ကိုက်ခဲနာကျင်လျက်ရှိသည်။ ဤသည်ကိုသိသော သုပ္ပိယက "လမ်းတောင် မလျှောက်နိုင်ပါဘုရား"ဟု လျှောက်ထားသည်။

"ဒါယိကာမကြီး သုပ္ပိယာကို ပွေ့ချီပြီး ခေါ်ခဲ့ကြလော့"

ရတနာသုံးပါး၌ညွတ်ကျိုးသူများသည် မြတ်စွာဘုရားနှင့် ရဟန်းသံဃာတော်များအား လွန်စွာရိုသေကြသည်။ ထို့ကြောင့် သုပ္ပိယသည် မြတ်စွာဘုရား၏ အမိန့်တော်ကို ချက်ချင်း လိုက်နာသည်။ သုပ္ပိယာကို တွဲခေါ်ခဲ့ကြရန် အဖော်အလှော် မိန်းမများအား ခိုင်းစေသည်။

ထိုတစ်ခဏတွင် သုပ္ပိယာသည် လူတွဲလျက် ထွက်လာ၏။ ကောင်းစွာ ပြုပြင်ချိန် မရသောကြောင့် ကပိုကယို နိုင်လှသည်။ နာကျင်ကိုက်ခဲနေပါလျက်က ရိုသေစွာထိုင်သည်။ တုမနိုင်းသာသော အသရေတော်ရှင် မြတ်စွာဘုရားအား ဖူးမြော်ရသောအခါ စိတ်ကြည်လင်လာသည်။ သန့်ရှင်းစင်ကြယ် မြင့်မြတ်တော်မူသော ထေရ်အရှင်မြတ်များအား ဖူးမြော်ရပြန်သည်တွင် နာကျင်ကိုက်ခဲမှုကို မေ့လျော့၏။

သို့ရာတွင် နာကျင်ကိုက်ခဲမှုကို သုပ္ပိယာ မေ့လျော့ခြင်းမှာ အနာ

ပျောက်သွား၍ ဖြစ်သည်။ သို့အတွက် သုပ္ပိယာသည် မည်သည့်အရာနှင့်မျှ မထိမိ၊ မခိုက်မိအောင် ဂရုတစိုက်ထားသောနေရာကို လက်ဖြင့် တို့ကြည့်သည်။ မနာတော့ပါ။ ထို့ကြောင့် ပွတ်ကြည့်သည်။ မနာကျင်တော့ပါ။ ဓားဖြင့်လှီးထားသောကြောင့် ခွက်နေသောနေရာသည် မည်သို့မျှမဖြစ်သည့်အလား ချောမွေ့နေသည်။

"ကိုသုပ္ပိယရေ၊ မယုံနိုင်စရာကြီးပဲ"

ထိုသို့ အစချီလျက် သုပ္ပိယာသည် ခင်ပွန်းလင်အား အနာပျောက်နေကြောင်း တီးတိုးပြောပြသည်။ အသားကို ဓားဖြင့်လှီးပြီး လှူစဉ်ကပင် တအံ့တသြဖြစ်ခဲ့သော သုပ္ပိယမှာ ယခုမူ ပို၍အံ့သြတကြီးဖြင့် အော်ကြီးဟစ်ကျယ် ဖြစ်ရပြန်လေ၏။

"မြတ်စွာဘုရားရဲ့ တန်ခိုးအာနုဘော် ကြီးမားတဲ့အဖြစ်ကဖြင့် အံ့သြစရာကြီး ဖြစ်နေပါပေါ့လား"

သုပ္ပိယသည် တရားတော်နာယူရန် ရောက်ရှိလာသော အိမ်နီးချင်းများဘက်သို့ လှည့်ပြောပြန်သည်။

"မကြားဖူးတာတွေ၊ မဖြစ်ဖူးတာတွေ ဖြစ်နေပြီဗျို့။ ကျုပ်ဇနီး သုပ္ပိယာရဲ့အနာကြီးဟာ မြတ်စွာဘုရားကိုဖူးမြင်လိုက်ရတာနဲ့ တစ်ပြိုင်နက်တည်း ယူပစ်လိုက်သလို ပျောက်သွားပြီ။ အမာရွတ်တောင် မထင်တော့ဘူးဗျ"

အံ့သြလည်း အံ့သြ၊ ဝမ်းသာအားရလည်း ဖြစ်သည်။ ယင်းကို မမျိုသိပ်နိုင်သဖြင့် ထအော်သောအခါ တရားတော်ကို နာယူရန် ရောက်နေသူများက မေးမြန်းကြ၊ စုံစမ်းကြတော့သည်။

သုံးလူ့ထွတ်တင် မြတ်သျှင်ပင်သည် သုပ္ပိယာ၏ အကြောင်းခြင်းရာကို မေးမြန်းတော်မူခြင်း မရှိသော်ငြား၊ ကျောင်းတော်သို့ ပြန်လည်ရောက်လျှင်ရောက်ချင်း သံဃာတော်များ စုဝေးကြရန် အလုပ်အကျွေး ရဟန်းအား

မိန့်တော်မူသည်။

သံဃာတော်များ စုံညီစွာ စဝေးမိချိန်တွင် ရှင်တော်မြတ်ဘုရားက မေးတော်မူချေသည်။

"ရဟန်းတို့။ ဒါယိကာမကြီး သုပ္ပိယာထံမှ သားပြွမ်းဟင်းရည်ကို မည်သူ အလှူခံသနည်း"

"အရှင်ဘုရား၊ တပည့်တော် အလှူခံပါတယ်ဘုရား"

အလှူခံသော ရဟန်းတော်မြတ်က ဝန်ခံလျှောက်ထားသည်။

"ရဟန်း၊ သားပြွမ်းဟင်းရည် ရ၏လော"

"ရပါတယ်ဘုရား"

"ရဟန်း။ ဒါယိကာမကြီး သုပ္ပိယာလှူဒါန်းသော ထိုသားပြွမ်းဟင်းရည်ကို သုံးဆောင်သလော"

"သုံးဆောင်မိကြောင်းပါဘုရား"

"ရဟန်း။ သင်သည် ထိုသားပြွမ်းဟင်းရည်ကို စုံစမ်းစစ်ဆေးမှု ပြုသေးသလော"

"အရှင်ဘုရား။ မစူးစမ်းမိပါဘုရား"

"ရဟန်း။ သင်သည် မစူးစမ်းမမေးမြန်းဘဲ အဘယ်ကြောင့် အသားကို စားသနည်း။ သင်သည် လူသားကို စားမိပြီ။ သင်၏ ဤအမှုသည် မကြည်ညိုသေးသောသူတို့၏ ကြည်ညိုစေခြင်းငှာ မဖြစ်။ ကြည်ညိုပြီးသော သူတို့အားလည်း တိုးပြီးကြည်ညိုစေခြင်းငှာ မဖြစ်"

ရှင်တော်မြတ်ဘုရားသည် သားပြွမ်းဟင်းရည်ကို မစူးမစမ်း သုံးဆောင်တော်မူသော ရဟန်းအား အပြစ်တင်တော်မူပြီးနောက် ဤသို့ ပညတ်တော်မူ၏။

"ရဟန်းတို့။ သဒ္ဓါတရားရှိ၍ ကြည်ညိုကုန်သော လူတို့သည် မိမိတို့၏ အသားကိုပင်လျှင် စွန့်လွှတ်ပြီး လှူဒါန်းကြကုန်၏။ ရဟန်းတို့၊

လူသားကို မစားအပ်။ စားသောရဟန်းအား 'ထုလ္လစ္စည်းအာပတ်'သင့်၏။

"ရဟန်းတို့။ မစူးစမ်းမမေးမြန်းဘဲ အသားကိုမစားအပ်။စားသော ရဟန်းအား 'ဒုက္ကဋ်အာပတ်' သင့်၏"

သားပြွမ်းဟင်းရည်ကိုမှ မသုံးဆောင်ရလျှင် ဂိလာနရဟန်းတော်မှာ ရောဂါမပျောက်ဘဲ ရှိမည်လော၊ အသက်အန္တရာယ်ပင် ဖြစ်မည်လော ဟူသော စိုးရိမ်စိတ်ဖြင့် နောက်တစ်နေ့ သားငါးပေါ်ချိန်အထိ မစောင့်နိုင်ဘဲ သုပ္ပိယာသည် မိမိအသားကိုလှီးကာ သားပြွမ်းဟင်းရည်ချက်ပြီး လှူဒါန်းခဲ့၏။ သူသည် သည့်အလျင်ကလည်း တစ်ကျောင်းဝင်၊ တစ်ကျောင်းထွက် ဂိလာနရဟန်းများကို ရှာဖွေစုံစမ်းကာ ပြုစုခဲ့၏။ လိုအပ်သည်များကို ဖြည့်ဆည်းပေးခဲ့၏။

ထိုအကြောင်းများကြောင့် သုပ္ပိယာဒါယိကာမသည် 'အဂ္ဂဂိလာနုပဋ္ဌာက' ဧတဒဂ်ရခြင်း ဖြစ်ပေသတည်း။



## ၈။ အဂ္ဂအဝေစ္စပ္ပသန္န တေဒဂ်ရ ဥပါသိကာ

မြတ်စွာဘုရား၏ သာသနာတော်၌ သက်ဝင်ယုံကြည်၍ မတုန်မလှုပ် ကြည်ညိုကုန်သော သာဝိကာဥပါသိကာတို့တွင် အမြတ်ဆုံးအဖြစ် မြတ်စွာဘုရားထံတော်မှ 'အဝေစ္စပ္ပသန္န' တေဒဂ်ရသူကား 'ကာတိယာနီ' ပေတည်း။

ကာတိယာနီသည် ထိုဆုကိုရရှိရန်အတွက် ပဒုမုတ္တရမြတ်စွာဘုရား၏ ခြေတော်ရင်းတွင် ဆုပန်ခြွေခဲ့သည်။ ဂေါတမမြတ်စွာဘုရား ပွင့်တော်မူချိန်ဝယ် သူသည် 'ကုရရဃရ' မြို့သူဖြစ်လာသည်။ ကာဠီ သတို့သမီးနှင့် အလွန်ရင်းနှီးချစ်ခင်သော အဆွေခင်ပွန်း ဖြစ်သည်။

ကာဠီ၏သားမှာ ကုဋိကဏ္ဏသောဏမထေရ် ဖြစ်သည်။ ထိုအရှင်မြတ်သည် မယ်တော်ထံသို့ ကြွလာတော်မူသောအခါ မယ်တော်က တရားဟောရန် တောင်းပန်သည်။ မယ်တော်ကာဠီသည် သားရဟန်း၏ တရားတော်ကို နာယူရသောအခါ များစွာကျေနပ်ဝမ်းမြောက်သည်။ သို့အတွက်

ဤတရားကို ချစ်ခင်သောမိတ်ရင်းဆွေရင်းများ နာကြားစေလိုသောစေတနာ ပေါက်လာသည်။ သို့အတွက် သားရဟန်းတော်အား လျှောက်ထား တောင်းပန်ပြီး၊ တရားမဏ္ဍပ် ဆောက်လုပ်သည်။ မိတ်ရင်း ဆွေရင်းတွေကို ဖိတ်ကြားသည်။

အရှင်ကုဋိကဏ္ဏသောဏာ၏ တရားတော်ကိုနာကြားရန် ရောက် လာသူများတွင် ဒါယိကာမကြီး ကာတိယာနီသည် ရှေ့ဆုံးကဖြစ်သည်။ ကာတိယာနီသည် ရှေ့ဆုံးကဖြစ်သော်ငြား ဝင်ရထွက်ရလွယ်ကူသော အစွန် ဘက်သို့လုပြီး နေရာယူထားပေသည်။

တရားပွဲကျင်းပပြီ။

အရှင်မြတ်သည် မြတ်စွာဘုရား၏တရားတော်များကို ကောင်းစွာ ဟောကြားတော်မူသည်။ ကာတိယာနီသည် တရားနာရင်း တရားဟော ပုဂ္ဂိုလ်အား ဖူးမြော်ရာ အားမရချေ။ သို့ကြောင့် နောက်တွင်ပါသော အဖော် ကို တီးတိုးပြော၏။

"ခမ္မကထိက အရှင်မြတ်ကို ဆီမီးပူဇော်ရအောင်ကွယ်။ အိမ်ပြန် ပြီး ဆီမီးယူချေစမ်းပါ"

ကာတိယာနီ၏အဖော်သည် ညင်သာစွာ ထွက်ခွာသွားသည်။ ထို့နောက် အတန်ကြာလျှင် မောကြီးပန်းကြီး ပြန်လာသည်။

"အရှင်မ၊ အရှင်မ"

ကာတိယာနီသည် တရားတော်၌သာ အာရုံရောက်နေ၏။ သို့ ကြောင့် ဆီမီးယူရန်သွားပါလျက် လက်ချည်းပြန်လာသော အဖော်က လက်ဖြင့် ကုတ်သည်။

"သခင်မ၊ အိမ်ကို သူခိုးတွေ ဥမင်တူးပြီး ဝင်ခိုးနေကြပြီ"

သတင်းပေးသူက ထိတ်လန့်တုန်လှုပ်နေငြား ကာယကံရှင် ကာတိယာနီမူ မတုန်လှုပ်ချေ။

"တော်တော့၊ မပြောနဲ့"

"မဟုတ်ဘူး သခင်မ"

"တိတ်တိတ်နေကွယ့်။ သူခိုးတွေဟာ တွေ့တာမြင်တာလောက်ပဲ ခိုးနိုင်ကြမှာပါကွယ်။ ငါအခု တရားနာနေတယ်လေ။ ကြားနာရခဲတဲ့ တရားတော်ကို နာယူနေတုန်းမှာ အနှောက်အယှက် မပေးစမ်းနဲ့ကွယ်"

ကာတိယာနီသည် ချမ်းသာကြွယ်ဝသူ ဖြစ်ရကား၊ သူခိုးများ အလွယ်တကူ မဝင်ရောက်နိုင်သော အုတ်တံတိုင်း စည်း စောင့်ရန် ထားရှိသည်။ သူခိုးများသည် တရားပွဲကျင်းပနေခိုက်တွင် ခိုးယူရန် လှည့်လည်သောအခါ မြို့စွန်ကျ၍ မီးရောင်နည်းသော ကာတိယာနီ၏ဝင်းကို တွေ့ကြရသည်။ အုတ်တံတိုင်းကို ကျော်လွှား၍ဖြစ်စေ ဖျက်စီး၍ဖြစ်စေ ဝင်ပါက မလုံခြုံပေ။

သို့အတွက် မှောင်ရိပ်ကျသောချုံတွင်း၌ တွင်းတူးသည်။ အိမ်ဝင်း ထဲသို့ လိုဏ်ခေါင်းဖောက်ပြီး အရောက်ဝင်ကြသည်။ သူတို့ ထိုသို့လုပ် နေစဉ်တွင် ကာတိယာနီက ဆီမီးယူရန် လွှတ်လိုက်သူ ရောက်လာခဲ့ခြင်း ဖြစ်ပေ၏။

ကာတိယာနီ စေလွှတ်လိုက်သူမှာ ရပ်ရွာကို အော်ဟစ်အကူအညီ တောင်းရန် သတိမရ။ သူကြီး ခေါင်း အဝှန်း စသူတို့ထံ ပြေးလွှားတိုင်ကြား ရန်လည်း မသိ။ သူသိသည်မှာ ကြောက်ရွံ့ရန်သာ ဖြစ်သည်။ ကြောက်ရွံ့ သောကြောင့် သခင်မထံ ပြေးလာခြင်းဖြစ်သည်။

တရားပွဲ ပြီးသွားပေပြီ။

သာဓုခေါ်သံများ ပွဲတင်ဟီးနေ၏။

ကာတိယာနီသည် တရားပီတိကို ခံစားနေရသဖြင့် ရတ်တရက် မထဖြစ်။ သူထရပ်ချိန်ဝယ် သူ့ရှေ့တွင် လူတစ်ယောက်လာပြီး ဒူးတုတ် သည်။ တုတ်ခိုင်သန်မာသူ ဖြစ်၏။ တရားပွဲနှင့် မအပ်စပ်သော ဓားကြီး

ကလည်း ပါသေး၏။

"သူတော်ကောင်းမကြီး။ ကျွန်တော့်ကို ခွင့်လွှတ်တော်မူပါ"

"အလို၊မောင်က ဘယ်သူတုန်း။ငါက ဘာကို ခွင့်လွှတ်ရမှာတုန်း"

ကာတိယာနီက တအံ့တဩ ငုံ့ကြည့်ပြီးမေး၏။

"ကျွန်တော်ဟာ သူခိုးပါ"

"သူခိုး၊ ဟုတ်စ"

"ဟုတ်ပါတယ်။သူတော်ကောင်းမကြီးရဲ့ အိမ်ထဲကို ဥမင်တူးပြီး ဝင်တဲ့ လူတွေဟာ ကျွန်တော့်တပည့်တွေပါ။ သူတို့ ဥမင်တူးနေတုန်းမှာ ကျွန်တော်က အိမ်ရှင်ဘယ်သူလဲ၊ ဘယ်သွားလဲ စုံစမ်းပါတယ်။ အိမ်ရှင်ဟာ ဟောသည်သူတော်ကောင်းမကြီးဖြစ်တယ်၊ တရားပွဲရောက်နေတယ် ဆိုလို့ ကျွန်တော်လိုက်လာပြီး မနီးမဝေးမှောင်ရိပ်က စောင့်နေတာပေါ့"

"ဟင်၊ ဘာကိစ္စ"

"ကျွန်တော့်တပည့်တွေ ခိုးလို့မပြီးခင် သူတော်ကောင်းမကြီးက တရားပွဲပြင်ဘက်ကို ထွက်လာရင် သတ်မလို့ပါ"

"အလိုလေး။ ဘုရား.... ဘုရား"

နှစ်ကြိမ်အံ့ဩရပြီးနောက် ကာတိယာနီမှာ ရင်ကိုဖိထားရချေပြီ။ သို့စဉ်တွင် သူခိုးကြီးက ဆက်ပြော၏။

"ဒါပေမယ့်၊ ကျွန်တော့်တပည့်တွေကို ချက်ချင်းပြန်ခေါ်ပြီး မှောင်ရိပ်မှာ အထိုင်ခိုင်းထားပါတယ်"

"ဘာဖြစ်လို့ပါလိမ့်"

"သူတော်ကောင်းမကြီး ဆီမီးအယူခိုင်းလိုက်တဲ့လူ ပြန်ပြေးလာပြီး သူခိုးဝင်နေတဲ့အကြောင်း သတင်းပေးတော့ သူတော်ကောင်းမကြီး ဘယ်လိုများ ပြန်ပြောလိုက်သတုန်း"

ကာတိယာနီ အတန်ကြာ ပြန်လည်စဉ်းစားရသေး၏။

" 'ငါအခု တရားနာနေတယ်။ ကြားနာရခဲ့တဲ့ တရားတော်ကို နာယူနေတုန်းမှာ တရားနာတာကို အနှောက်အယှက်မပေးနဲ့'လို့ ပြောတယ် အမောင်။ ဟုတ်တယ်လေ၊ သည်တရားတော်ကို နောက်တစ်ကြိမ် နာခွင့် ရချင်မှ ရမှာ၊ ဥစ္စာပစ္စည်းက ဘယ်အချိန်ရှာရှာ ရတယ်ကွယ့်"

"သူတော်ကောင်းမကြီး ပြောတဲ့စကားကို ကြားရတဲ့အခါမှာ ကျွန်တော် စဉ်းစားတယ်။ 'သည်လို မြင့်မြတ်တဲ့စိတ်ရှိတဲ့ သူတော်ကောင်းရဲ့ အိမ်ကိုဝင်ခိုးရင် ငါတို့အားလုံး မြေမျိုခံရနိုင်တယ်'လို့ စဉ်းစားမိရာက ကြောက်လာပြီး တပည့်တွေဆီ အပြေးအလွှားသွားပြီး ပြန်ခေါ်လာခဲ့တာပါ ခင်ဗျာ"

"သာဓုပါ မောင်ရင်၊ သာဓု.... သာဓု"

ကာတိယာနီ ကြည်နူးစွာဖြင့် သာဓုခေါ်ငြား သူခိုးက စကား မဖြတ်သေးပေ။

"အရှင်မ။ သာဓုခေါ်ရုံ၊ ခွင့်လွှတ်ရုံနဲ့ မပြီးသေးပါ။ ကျွန်တော်တို့ အားလုံးကို အရှင်မြတ်ထံမှာ ရဟန်းပြုပေးတော်မူကြပါ"

ဤသို့ဖြင့် သူခိုးများသည် ကုဋိကဏ္ဏသောဏ အရှင်မြတ်ထံ တွင် အဆုံးအမခံယူကာ ရဟန်းပြုကြလေ၏။

ကာတိယာနီကား မိမိအိမ်ရှိ ပစ္စည်းဥစ္စာများ သူခိုးအခိုးခံရမည့် အရေးထက် တရားနာပျက်မည့်အရေးကို ပိုမိုစိုးရိမ်သူ၊ သာသနာတော်၌ သက်ဝင်ကြည်ညိုရာ၌ မတုန်လှုပ်သူ ဖြစ်၏။

သုံးလူ့ဦးသျှောင် မြတ်ဘုန်းခေါင် ရှင်တော်မြတ်ဘုရားသည် နောင်အခါတွင် ဥပါသိကာတို့အား ဧတဒဂ်ချီးမြှင့်တော်မူရာ၌ ကာတိယာနီ အား ဤသည်ကိုရည်ညွှန်း၍ 'အဂ္ဂအဝေစ္စပ္ပသန္န'ဧတဒဂ် ထားတော်မူခြင်း ဖြစ်၏။



၉။ အဂ္ဂဝိဿာသိက တေဒဂ်ရ ဥပါသိကာ

"ရဟန်းတို့။ ငါဘုရားနှင့် အကျွမ်းဝင်သောစကားကို ဆိုတတ်ကုန်သော ငါ၏ သာဝိကာ ဥပါသိကာတို့တွင် အမြတ်ဆုံးဖြစ်၏"ဟု ရှင်တော်မြတ်ဘုရားထံမှ အဂ္ဂဝိဿာသိက တေဒဂ်ရသော ဥပါသိကာကား သံသုမာဂိရိမြို့သူ သူကြွယ်မကြီး 'နကုလမာတာ' ဖြစ်၏။

နကုလာမာတာသည် လွန်ခဲ့သော ကမ္ဘာတစ်သိန်းထက်၌ ပွင့်တော်မူသည့် ပဒုမုတ္တရ မြတ်စွာဘုရား၏ ထံတော်ပါး၌ ဤတေဒဂ်ဆုကို ပန်ထွာခဲ့သည်။ သူသည် ဘဝများစွာ ကျင်လည်ပြီးနောက် ဤမြတ်စွာဘုရား၏ သာသနာတော်ဝယ် သံသုမာဂိရိမြို့၌ သူကြွယ်မျိုးတွင် ဖြစ်လာခဲ့သည်။

အရွယ်ရောက်၍ အမျိုးအနွယ်တူမျှသော သူကြွယ်တစ်ဦးနှင့် စုံဖက်ကာ သားသမီးများစွာထွန်းကားခဲ့ပြီး၊သူတို့လင်မယား၏အမည်ရင်း

သည် မထင်ရှားချေ။ 'နကုလ' အမည်ရှိသော သားကိုမွေးဖွားတော့မှသာ နကုလပိတာ၊ နကုလမာတာ၊ (နကုလသတို့သား၏ အဖေ၊ အမေ) ဟူ၍ လူသိများလာခဲ့သည်။

တစ်ရံရောအခါဝယ် သုံးလောကထွတ်ထား သဗ္ဗညု မြတ်စွာဘုရားသည် သံဃာတော်အပေါင်းခြံရံလျက် ဒေသစာရီ ကြွချီတော်မူလာရာ ဘဂ္ဂတိုင်း သံသုမာဂိရိမြို့သို့ ရောက်ရှိတော်မူလာသည်။ မြတ်စွာဘုရားနှင့် သံဃာတော် အရှင်မြတ်များသည် သံသုမာဂိရိမြို့၏ တောင်ဘက်တွင်ရှိသော ဘေသကလ တောအုပ်အတွင်း၌ သီတင်းသုံးတော်မူကြ၏။

မြို့သူမြို့သားများသည် ပန်းနံ့သာများ လက်စွဲလျက်၊ လှူဒါန်းဆက်ကပ်ဖွယ်များယူဆောင်လျက် တောအုပ်သို့ ရှေးရှုကာသွားကြ၏။ ထိုလူအုပ်ထဲတွင် ပြီးခဲ့သောဆွေခုနစ်ဆက်မျိုးခုနစ်ဆက်ကစပြီး ချမ်းသာလာခဲ့သည့် နကုလပိတာ၊ နကုလမာတာ သူကြွယ်လင်မယားနှင့် သားသမီးများလည်း ပါဝင်ကြသည်။

နကုလပိတာနှင့် နကုလမာတာတို့သည် မြတ်စွာဘုရားနှင့် သံဃာတော်များအား ပန်းနံ့သာများဖြင့် ပူဇော်ပြီးနောက် ရိုသေစွာရှိခိုးလျက် မြတ်စွာဘုရား၏ ရွှေမျက်နှာတော်ကို ဖူးမြော်ကြသည်။

အရှင်မြတ်ဘုရားသည် ဖူးမြော်မဝသောအသရေဖြင့် ပြည့်စုံ၏။ နကုလမာတာသည် မြတ်စွာဘုရား၏ ရွှေမျက်နှာတော်ကို ဖူးမြင်ရင်းကရင်ထဲ၌ လှိုက်၍လှိုက်၍ ဝမ်းနည်းလာသည်။ နှစ်ပေါင်းများစွာ ခွဲခွာသွားပြီးမှ ပြန်တွေ့ရသော သားရင်းအစစ် ရင်သွေးနှစ်ဟု မြင်လာသည်။

ထိုအခါခဏတွင် နကုလမာတာသည် ရှေ့သို့တိုးလာပြီး မြတ်စွာဘုရား၏ ခြေတော်အစုံကို ဖက်သည်။

"သားမြတ်ဘုန်းခေါင် သားတော်မောင်ဟာ အမေအဖေတို့ကို ဒါလောက်အကြာကြီး စွန့်ခွာပြီး ဘယ်သွားနေတာတုန်း။ အဖေတို့ အမေတို့

သေခြင်းနီးတဲ့ ယခုအချိန်ကျမှပဲ သားဘုရားကို မြင်ရတော့တယ်။ သားလု ဘုန်းမော် မြတ်ဇိနော်ဟာ မိဘနှစ်ပါးကို သနားညှာတာမရှိ ပြုရက်သလို ဖြစ်နေပါပေါ့လား"

နကုလမာတာသည် မြတ်စွာဘုရား အလောင်းတော်၏ မိခင် အဖြစ် ဘဝငါးရာဆက်လျက် ဖြစ်ခဲ့ဖူးသည်။ မိကြီး အဖြစ်လည်း ထိုသို့ပင် ဘဝမခြားဘဲ အကြိမ်ငါးရာ၊ မိထွေး၊ အရီး စသည်ဖြင့်လည်း ထိုနည်း လည်းကောင်းပင်။ ဘဝငါးရာ တစ်ဆက်တည်း ဖြစ်ပျက်တော်စပ်ခဲ့ဖူးသော အထုန်ကြောင့် ယခုဘဝလည်း သားဖြစ်သည်ဟု ခံစားရကာ သားအဖြစ် ခေါ်ဝေါ် ငိုကြွေးခြင်းဖြစ်၏။

နကုလမာတာသာ မဟုတ် နကုလပိတာသည်လည်း ထိုကဲ့သို့ တော်စပ်ခဲ့သဖြင့် နကုလမာတာနည်းတူခံစားရကာ ငိုကြွေးမြည်တမ်းသည်။

သူတို့သည် မြတ်စွာဘုရား၏ ခြေတော်ကိုဖက်ပြီး အားရအောင် ငိုကြွေးအပြီးတွင် သားသမီးများဘက်သို့ လှည့်ပြီး ပြောသေးသည်။

"သမီးတို့၊ အဲဒါဟာ ညည်းတို့ရဲ့ မောင်ကြီးဟဲ့"

"မှတ်ထားဟဲ့။ သူဟာ သားတို့ရဲ့ ညီပေါ့"

"သားငယ်တို့၊ သားထွေးတို့၊ သူဟာ မင်းတို့ရဲ့ အစ်ကိုကြီးလေ"

ရှင်တော်မြတ်ဘုရား၌ မည်သည့်ညီအစ်ကို၊ အစ်မနှမ၊ အရင်း အချာမျှ မရှိချေ။ ခုနစ်ရက်သားကတည်းက မယ်တော်သည် နတ်ရွာလား တော်မူခဲ့သဖြင့် မည်သည့်နှမ၊ မည်သည့်ညီ ရှိပါမည်နည်း။ သို့ပါသော် လည်း သူကြွယ်လင်မယား၏ အတိတ်ဘဝများနှင့် လက်ငင်း ရင်တွင်း ခံစားမှုကို သိသည့်အတွက် ရှင်တော်မြတ်ဘုရား သည်းခံတော်မူ၏။

ရှင်တော်မြတ်ဘုရား သည်းခံတော်မူသော်ငြား နက်ဖြန်နံနက် အတွက် ဆွမ်းဖိတ်မန်ပြီး၊ သူကြွယ်လင်မယား ပြန်သွားချိန်တွင် တပည့် သား သံဃာတော်များကြား၌ စကားပြောစရာ ဖြစ်လာတော့၏။

သံဃာတော် အရှင်မြတ်များကြား၌ နကုလပိတာ၊ နကုလမာတာ လင်မယားအတွက် ပြောလာသောစကားမှာ ဤသို့ ဖြစ်၏။

"ငါတို့ဆရာ မြတ်စွာဘုရားဟာ အသမ္ဘိန္နခတ္တိယနွယ်ဖွား သုဒ္ဓေါဒနမင်းတရားနဲ့ သိရိမဟာမာယာ မိဖုရားတို့ရဲ့ သားတော်စစ်ဖြစ်တဲ့ အကြောင်းကို လောကဓာတ် တိုက်တစ်သောင်းမှာရှိတဲ့ လူနတ်ဗြဟ္မာတွေ သိကြပါလျက်နဲ့ သည်သူကြွယ်လင်မယားက 'သား' ဆိုတဲ့ အသုံးအနှုန်းနဲ့ ခေါ်တာကို ဆိတ်ဆိတ်နေပြီး သည်းခံတော်မူတာဟာ ဘာပြုလို့ပါလိမ့်"

"ငါတို့အဖ မြတ်စွာဘုရားက သကျသာကီဝင်။ သည်လင်မယားက သူကြွယ်မျိုး။ ဘယ်လိုလုပ်ပြီး သားအဖ တော်စပ်မှာတုန်း"

ထိုစကားများကို မြတ်စွာဘုရား ကြားတော်မူသောကြောင့် နောက်တစ်နေ့ ဆွမ်းကိစ္စအပြီး၌ ဤသို့ မြွက်ကြားတော်မူ၏။

"ချစ်သားရဟန်းတို့။ ဤနကုလအမည်ရှိသော သူကြွယ်မသည် ဘဝမခြား ငါးရာမျှပင် ငါ၏မိခင် ဖြစ်ခဲ့ဖူးပေသည်။ မိထွေး၊ မိကြီး၊ အရီးလည်း ဘဝငါးရာ အခါမခြားဘဲ ဖြစ်ခဲ့ဖူးပြီ။ နကုလပိတာ၊ နကုလမာတာတို့၏လက်တွင် ငါဘုရား ကြီးပွားရသော ဘဝပေါင်းကား လေးထောင်တိုင်တိုင် ဖြစ်ခဲ့ပေသည်။ သို့ဖြစ်သောကြောင့် ငါဘုရားအား ချစ်ခြင်းအလျဉ်သည် မပြတ်လေရကား၊ သားဟူသော အမှတ်ဖြင့် ယခုဘဝတွင်လည်း လေးမြတ်ချစ်ခင်နေကြသည်"

သုံးလူ့ဘုန်းဟော့ မြတ်မုနေ့သည် ထိုမှတစ်ဖန် ဆက်လက်စွာ 'ပုဗ္ဗေဝ သန္နိဝါသေန' အစချီသော ဂါထာတော်ဖြင့် များစွာသော ဒေသနာတော်တို့ကို ဆက်လက်ဟောကြားတော်မူ၏။ ထိုအခါ နကုလပိတာ၊ နကုလမာတာ သူကြွယ်လင်မယားတို့မှာ သောတာပတ္တိဖိုလ်၌ တည်ကြလေ၏။

သုံးလူ့ထွတ်ထား မြတ်စွာဘုရားသည် ဤသည်ကို ရည်လျက်၊

"ရဟန်းတို့။ ငါဘုရားနှင့် ချစ်ကျွမ်းဝင်သည့် စကားကို ဆိုတတ်ကုန်သော ငါ၏သာဝိကာ ဥပါသိကာတို့တွင် နကုလမာတာ သူကြွယ်မသည် အမြတ်ဆုံးတည်း"

ဟူ၍မိန့်တော်မူကာ နကုလမာတာအား **'အဂ္ဂဝိဿာသိက'** ဧတဒဂ် ထားတော်မူခြင်း ဖြစ်၏။

အခါတစ်ပါးသော် နကုလပိတာ သူကြွယ်ကြီးသည် မကျန်းမမာဖြစ်ကာ အိပ်ရာ၌လဲလေ၏။ အထူးထူးသော သမားဟူးရားတို့နှင့် ကြိုးစားကုသသော်ငြား ထိုအနာမှာ အထမြောက်လမ်း မမြင်တော့ချေ။

သမားဟူးရားတို့ လက်လျှော့ချိန်တွင် နကုလမာတာသည် သူကြွယ်၏ ဘေးသို့ ချဉ်းကပ်လျက် ညင်သာစွာ ပြောသည်။

"သားချစ် နကုလရဲ့အဖေ သူကြွယ်ကြီး။ ကျွန်မတို့ကို ငဲ့ကွက်မနေပါနဲ့။ ငဲ့ကွက်စိတ်နဲ့ သေရတာဟာ ဆင်းရဲလှပါတယ်။ နောက်ဆုံးတတင်းတင်းနဲ့ သေရတာကို မြတ်စွာဘုရား နှစ်သက်တော် မမူဘူး"

သံယောဇဉ်ဖြစ်နေမည့်အစား၊ ရတနာသုံးပါးကို နှလုံးသွင်းလျက်ချမ်းသာစွာ ချုပ်ငြိမ်းစေလိုသော စေတနာဖြင့် ပြောခြင်းဖြစ်သည်။

"သူကြွယ်ကြီး။ ကျွန်တော်မ ပြောတာကို နားလည်တယ်နော် 'နကုလရဲ့အမေဟာ ငါသေပြီးတဲ့နောက်မှာ သားသမီးတွေကို အဆင်ပြေအောင်မှ ထိန်းသိမ်းတတ်ပါ့မလား' သံသယ ဖြစ်မနေနဲ့နော်။ ကျွန်တော်မ သားငယ် သမီးငယ်တွေကို ကျွေးမွေးဖို့၊ ဥစ္စာပစ္စည်းတွေ မလေလွင့်အောင် ထိန်းသိမ်းဖို့ တတ်စွမ်းပါတယ်ရှင့်"

နကုလပိတာ နားလည်ကြောင်း သိသဖြင့် နကုလမာတာက ဆက်ပြီး ပြော၏။

"သူကြွယ်။ ကျွန်တော်မအတွက် မစိုးရိမ်နဲ့။ သည်သူကြွယ်မဟာ ငါသေပြီးတဲ့နောက်မှာ နောက်အိမ်ထောင်များ ပြုလေဦးမလားလို့ ထင်

မနေနဲ့။ သူကြွယ်အသိပဲ မဟုတ်လား။ လူတွေကျင့်သုံးတဲ့ အကျင့်မြတ် ‘ဂဟဋ္ဌ ဗြဟ္မစရိယသီလ’ကို ၁၆နှစ်လုံးလုံး ဆောက်တည်ခဲ့တာ သူကြွယ် အသိဆုံး မဟုတ်လား”

နကုလပီတာသည် မျက်လုံးဖွင့်ကြည့်၏။

“သည်သူကြွယ်မဟာ ငါမရှိတဲ့နောက်မှာ ဒါန၊ သီလတို့ကို ဖြည့်ကျင့်ဆည်းပူး ဆောက်တည်တော့မှာ မဟုတ်တော့ဘူးလို့ အထင်မှား တော် မမူနဲ့နော်။ ကျွန်တော်မဟာ မြတ်စွာဘုရားရဲ့ တပည့်တော်မတွေ ဖြစ်တဲ့ သီလဖြည့်ကျင့် ဆည်းပူးကြတဲ့ ဥပါသိကာတွေထဲမှာ တစ်ယောက် အပါအဝင် ဖြစ်ပါတယ်”

သူကြွယ်သည် ကောင်းစွာသတိရလာဟန်ပြသည်။ သို့ဖြစ်သဖြင့် နကုလမာတာသည် စိတ်အေးချမ်းစရာစကားများကို ဆက်လက်ပြောဆို၏။

“သားချစ် နကုလရဲ့ အဖေ။ သည်သူကြွယ်မဟာ အတွင်းစိတ်မှာ ငြိမ်းအေးမှု မရသူ၊ သမာဓိ မရသူလို့ ထင်ကောင်းထင်မယ်။ အဲသည်လို ထင်ရင် မှားမယ်နော်။ ကျွန်တော်မဟာ စိတ်ရဲ့ငြိမ်းအေးမှု သမာဓိတရား ရရှိကြတဲ့ လူ ဥပါသိကာတို့မှာ တစ်ယောက် အပါအဝင်ဖြစ်ပါတယ်”

နကုလမာတာ ပြောသမျှစကားများသည် တရားစကားများ ချည်းဖြစ်၏။ နကုလပီတာ၏ စိတ်သည် ရတနာသုံးပါး၌သာ ရှိ၏။

“အို သူကြွယ်။ ကျွန်တော်မကို ဝိစိကိစ္ဆာမကင်းသူ၊ တွေးတော ကြံစည်မှု မရှင်းလင်းသူ၊ မြတ်စွာဘုရားကို အားမထားသူလို့ မထင်နဲ့နော်။ သာသနာတော်မှာ သက်ဝင်ယုံကြည်တဲ့၊ ဝိစိကိစ္ဆာကင်းတဲ့ ရဲရင့်သော မြတ်စွာဘုရားကလွဲလို့ အားထားစရာမရှိတဲ့ ဥပါသိကာတွေထဲမှာ ကျွန်တော်မလည်း တစ်ယောက်အပါအဝင် ဖြစ်ပါတယ်ရှင့်”

နကုလမာတာ၏ စကားများကြောင့် လူနာ နကုလပီတာ၏စိတ် သန့်ရှင်းသည်။ ကြည်လင်သည်။ ရတနာသုံးပါးမှတစ်ပါး အခြားအာရုံ

မဝင်စား။ ထိုသို့ ရတနာသုံးပါးတွင်သာ အာရုံရှိခြင်းသည် အထက်မြတ်ဆုံး ဖြစ်သဖြင့် ဟူးရားသမားတို့ လက်လွှတ်သောအဖြစ်မှ နကုလပိတာ လွတ်ကင်း ချမ်းသာသွားတော့သည်။



## ၁၀။ အနုပ္ပဝပ္ပသန္န တေဒဂ်ရ ဥပါသိကာ

မြတ်စွာဘုရား၏ ကျေးဇူးတော် ဂုဏ်တော်တို့ကို တစ်ဆင့်ကြားရသော စကားဖြင့် ကြည်ညိုယုံကြည်သော သာဝိကာ ဥပါသိကာတို့တွင် အမြတ်ဆုံးဖြစ်၏ဟူ၍ မြတ်စွာဘုရားထံတော်မှ 'အဂ္ဂအနုပ္ပဝပ္ပသန္န' တေဒဂ်ရသော ဥပါသိကာကား ကုဠိကဏ္ဏသောဏမထေရ်၏ မယ်တော် 'ကာဠီကုရ ရဃရိကာ'ပေတည်း။

ကာဠီ(ကာဠီကုရ ရဃရိကာ)သည် ထိုတေဒဂ်ဆုကို ပဒုမုတ္တရ မြတ်စွာဘုရား၏ ရွှေလက်ထက်တော်ကတည်းက ပန်ဆင်ခဲ့ခြင်းဖြစ်သည်။ သူသည် သံသရာတွင် ကျင်လည်ခဲ့ပြီးနောက် ဂေါတမမြတ်စွာဘုရား၏ ရွှေလက်ထက်တော်တွင် ရာဇဂြိုဟ်မြို့သူ ဖြစ်လာခဲ့ပေသည်။

ကာဠီ သတို့သမီးသည် ကုရ ရဃရမြို့သားနှင့် အိမ်ထောင်ကျသောအခါ သျှောင်နောက်သို့ ဆံထုံးပါသွားရသည်။ ကာလအတန်ကြာ

သေအခါ ကာဠီ၌ သားသန္ဓေရသည်။ မီးဖွားချိန် နီးကပ်လာသောအခါ သူသည် အမေ့အိမ်တွင် မီးဖွားရန်အတွက် ရာဇဂြိုဟ်မြို့သို့ ပြန်လာသည်။

ထိုနေ့မှာ အာသဠှီနက္ခတ်နှင့်ယှဉ်သော ဝါဆိုလပြည့်နေ့ ဖြစ်သည်။

ရာဇဂြိုဟ်တစ်မြို့လုံးသည် ငွေလရောင်အောက်၌ ရွှန်းတင့်လှပလျက် ရှိသည်။ ကာဠီသည် ကိုယ်၏ ပင်ပန်းနွမ်းနယ်မှုကို ဖြေဖျောက်ရင်း ည၏အလှကိုခံစားရန် အိမ်၏အမြင့်ဆုံးနေရာရှိ အခန်းသို့ တက်လာသည်။ ညောင်စောင်းပေါ်တွင် သက်တောင့်သက်သာလှဲလျက် ငွေရည်လွှမ်းသည့် ရာဇဂြိုဟ် ညအလှကို ကြည့်ရှုနေသည်။

"အချင်း ဟေမဝတ၊ ကနေ့ဟာ ၁၅ ရက်မြောက် ဥပုသ်နေ့လေ။ ဂေါတမနွယ်ဖွား ငါတို့ဆရာ မြတ်စွာဘုရားကို ဖူးမြော်ချကြရအောင်"

အိမ်အမိုးပေါ်မှ ထွက်ပေါ်လာသော အသံဖြစ်သည်။

"ဒါဟာ နတ်တွေ ပြောနေတာ ဖြစ်ရမယ်"

ကာဠီ နားစိုက်ထောင်သည်။

အမှန်ပင် ဟေမဝတနတ်နှင့် သာတာဂိရနတ်တို့ အချီအချ ပြောနေကြခြင်း ဖြစ်သည်။ ဟေမဝတနတ်နှင့် သာတာဂိရနတ်တို့သည် အဆွေခင်ပွန်းများ ဖြစ်ကြ၏။ သုံးလောက ဦးသျှောင် ငါးမာရ်အောင်သည့် သျှင်တော်မြတ်ဘုရားသည် မိဂဒါဝုန်တော၌ ဟရားဦး ဓမ္မစကြာကို ဟောကြားတော်မူသည်။ ကုဋေတစ်သိန်းမက များပြားသော နတ်ဗြဟ္မာများသည် စကြဝဠာအနန္တမှ စုရုံးရောက်ရှိလာကြသည်။

ထိုအထဲတွင် သာတာဂိရနတ်လည်း ပါဝင်၏။ အခြားသော နတ်ဗြဟ္မာများ တရားရကြသော်ငြား၊ သူ့မှာ သမာဓိမရသဖြင့် တရားတော်၏ အရသာကို မခံစားနိုင်။ သမာဓိ မရခြင်းမှာ လည်တရှည်ရှည်ဖြင့် မိတ်ဆွေ ဟေမဝတနတ်ကို ရှာနေသောကြောင့်ဖြစ်သည်။

ဟေမဝတနှင့် သာတာဂိရ တို့သည် အထက်နတ် မဟုတ်။ အထက်နတ်တို့၏ အလုပ်အကျွေး နတ်ဘီလူးများသာ ဖြစ်သည်။

သူတို့သည် အထက်နတ်ရွာ၌ ဖြစ်ထိုက်သော ကောင်းမှုရှိသည်။ တံစိုးလက်ဆောင်ကို မျက်နှာလိုက်ပြီး မမှန်မကန်လုပ်မိသဖြင့် တစ်ဦးက ဟိမဝန္တာတောင်၌၊ တစ်ယောက်က မဇ္ဈိမဒေသ၌ နတ်ဘီလူး စစ်သူကြီးများ ဖြစ်လာကြရ၏။

မိမိတို့အရပ်တွင် အထူးအဆန်းများပေါ်ပေါက်ပါက အသိပေး စတမ်း ကတိထားခဲ့ကြသဖြင့် သာတာဂိရက ဟေမဝတအား ရှာဖွေခြင်း ဖြစ်သည်။ ဂေါတမမြတ်စွာဘုရား အလောင်းတော် ပဋိသန္ဓေနေတော်မူ သည်မှ ဖွားမြင်တော်မူသည်အထိ ၃၂ ပါးသော နိမိတ်များ ထင်ခဲ့၏။ လောကဓာတ်တစ်သောင်း တုန်လှုပ်ခဲ့၏။ နတ်ဘီလူးနှစ်ယောက်မှာ ကာမ ဂုဏ်၌ နစ်မွန်းနေသဖြင့် မသိလိုက်။

မြတ်စွာဘုရားသည် သဗ္ဗညုတဉာဏ်တော်ကို ရတော်မူချိန်ဝယ် နိမိတ်ဩဘာများ ရှည်မြင့်စွာ ဖြစ်ပေါ်သည်။ သို့ပါလျက်နှင့် ဟေမဝတနတ် ဘီလူး မသိ။ သာတာဂိရကား သိသည့်အတွက် မိဂဒါဝုန်တောသို့ ရောက် လာပြီး တရားဦး ဓမ္မစကြာကို နာခွင့်ရသည်။

"ငါ့အဆွေကို ခေါ်လာပြီးမှ အတူတကွ တရားနာမယ်"

သာတာဂိရသည် ထိုစိတ်ကူးဖြင့် ဗိမာန်သို့ပြန်လာသည်။ ဗိမာန် သို့ ရောက်လျှင် ဆင်ယာဉ်၊ မြင်းယာဉ်၊ ဂဠုန်ယာဉ်များ ဖန်ဆင်းပြီး ဟိမ ဝန္တာဘက်သို့ အရံငါးရာနှင့် ထွက်လာခဲ့သည်။

ဟေမဝတ နတ်ဘီလူးသည် မည်မျှပင် မြူးထူးရွှင်ပျ နေစေကာမူ အခါမဟုတ်ဘဲ ပွင့်သောပန်းများကို သတိထားမိသည်။ ဝါဆိုလပြည့်ည၏ သာယာလှပမှုကိုလည်း ခံစားမိသည်။ သို့ကြောင့် ထိုသာယာမှုကို မိတ်ဆွေ သာတာဂိရနှင့်အတူ ခံစားရန် သွားရောက်ခေါ်ငင်မည်ဟု အခြံအရံငါးရာနှင့်

ထွက်လာရာ ရာဇဂြိုဟ်မြို့၏ ကောင်းကင်ယံတွင် ဆုံမိကြခြင်း ဖြစ်သည်။

သာတာဂိရသည် မဖြစ်ဖူးမြဲ ထူးကဲသော နိမိတ်ဩဘာများ ပေါ်ပေါက်နေပုံများကို အစချီပြီးနောက် ဤသို့ပြော၏။

"အဆွေ ဟေမဝတ။ မြတ်သော ဂုဏ်တော်တွေနဲ့ ပြည့်စုံတော်မူတဲ့ ဂေါတမနွယ်ဖွား ငါတို့ဆရာ ဂေါတမမြတ်စွာဘုရားကို ဖူးမြော်ချေကြရအောင်"

"အချင်း သာတာဂိရ။ သင်ရဲ့ဆရာ အဲသည် မြတ်စွာဘုရားဟာ သတ္တဝါအားလုံးတို့မှာ အာဒိဂုဏ်နဲ့ပြည့်စုံပြီး စိတ်ကိုမတုန်မလှုပ်ကောင်းစွာ ထားနိုင်ရဲ့လား။ အလိုရှိအပ်တဲ့ ဣဋ္ဌာရုံ၊ အလိုမရှိအပ်တဲ့ အနိဋ္ဌာရုံ၊ ကြံစည်မှု ဝိတက်တို့ဟာ မြတ်စွာဘုရားရဲ့ အလိုတော်ကိုလိုက်ပြီး ဖြစ်သလား"

ဟေမဝတ နတ်ဘီလူးမှာ မက္ခလိဂေါသာလ ပုရာဏကဿပ စသော အတုအယောင်များနှင့် ကြိမ်ဖန်များစွာ ကြုံဖူးသောကြောင့် စုံစမ်းနေရခြင်းဖြစ်၏။

"အဆွေ ဟေမဝတ။ ငါတို့ဆရာ အဲသည်မြတ်စွာဘုရားဟာ သတ္တဝါအားလုံးမှာ တာဒိဂုဏ်နဲ့ ပြည့်စုံတယ်။ စိတ်ကို မတုန်လှုပ်စေဘဲ ကောင်းကောင်းထားနိုင်တယ်။ အလိုရှိအပ်တဲ့ ဣဋ္ဌာရုံ၊ အလိုမရှိအပ်တဲ့ အနိဋ္ဌာရုံ၊ ကြံစည်မှုဝိတက်တို့ဟာ ကိုယ်တော်ရဲ့ အလိုကိုလိုက်ပြီး ဖြစ်ကြရတယ်"

ကာဠီအမျိုးသမီးမှာ ကိုယ်ဝန်၏ပင်ပန်းမှုများ ပြေပျောက်သွားကာ ထထိုင်၏။ လေသွန်ပြတင်း၏အထက် ကောင်းကင်ယံသို့ နားစိုက်ထား၏။

"အချင်းသာတာဂိရ။ သင်တို့ဆရာ အဲသည်မြတ်စွာဘုရားဟာ မပေးတဲ့ဥစ္စာကို မခိုးယူဘဲနေရဲ့လား။ သတ္တဝါတွေကို ညှဥ်းဆဲသတ်ဖြတ်မှု ကင်းရဲ့လား။ မေ့လျော့ကြောင်းဖြစ်တဲ့ ကာမဂုဏ်ငါးပါးတို့မှာ သက်ဝင်မှု

ကကော ကင်းရဲ့လား။ ဈာန်ကို မဆိတ်သုဉ်းအောင်ကော နေရဲ့လား"

ထိုအမေးမှာ မက္ခလိဂေါသာလ ပုရာဏကဿပ အစရှိသော အတုအလိမ်များကို ကြည့်ပြီး မေးခြင်းဖြစ်၏။

"အဆွေ ဟေမဝတ။ ငါတို့ဆရာ မြတ်စွာဘုရားဟာ မပေးတာကို မယူ။ သတ္တဝါတွေကို ညှဉ်းဆဲသတ်ဖြတ်မှု မပြု။ ကာမဂုဏ်ငါးပါးမှာ သက်ဝင်မှုက ကင်းဝေးပြီး ဈာန်ကို မဆိတ်သုဉ်းအောင် နေတော်မူတယ်"

"အဆွေ သာတာဂိရ။ခင်ဗျားတို့ဆရာ အဲသည်မြတ်စွာဘုရားဟာ သိလျက်နဲ့ တိမ်းချော်တဲ့စကားကို မပြောဘဲနေရဲ့လား။ ကြမ်းကြုတ်တဲ့ စကားကိုကော မပြောမဆိုဘဲ ရှိရဲ့လား။ ပျက်စီးကြောင်းစကား၊ သိမ်ဖျင်းတဲ့ စကားတွေကိုကော ရှောင်ကြဉ်သူ ဟုတ်ရဲ့လား"

အသဒိသဂုဏ်ဖြင့် ပြည့်စုံတော်မူသော မြတ်စွာဘုရားအား အသေးအဖွဲများဖြင့် စစ်မေးနေသောကြောင့် သာတာဂိရမှာ စိတ်ပျက်စွာ ခေါင်းခါ၏။

"အဆွေ ဟေမဝတ။ ငါတို့ဆရာ မြတ်စွာဘုရားဟာ ချွတ်ချော်တဲ့ စကား၊ ကြမ်းတမ်းတဲ့ စကားတွေကို ပြောတော် မမူဘူး။ ပျက်စီးရာ ပျက်စီး ကြောင်း စကားကိုလည်း ဆိုတော် မမူဘူး။ ပညာနဲ့ နှိုင်းချိန် ပိုင်းခြားပြီး အကျိုးရှိတဲ့ စကားကိုသာ ပြောဆိုတော်မူလေ့ရှိတယ်"

"အချင်း သာတာဂိရ။ ခင်ဗျားတို့ရဲ့ အဲသည်မြတ်စွာဘုရားဟာ ကာမဂုဏ်တရားတွေမှာ မတပ်စွန်းသူ ဖြစ်ရဲ့လား။ စိတ်ကကော မနှောက် ကျူဘဲ နေရဲ့လား။ မောဟအားလုံးကို လွန်မြောက်ပြီးတော့ တရားအရာမှာ ပညာမျက်စိ ရှိပါရဲ့လား"

ကဿပမြတ်စွာဘုရား၏ ရွှေလက်တော်ဝယ် မုရနှစ်ပါးကို ဖြည့် ကျင့်သောရဟန်း ဖြစ်ခဲ့သော ပါရမီအဟုန်ကြောင့် ဟေမဝတ နတ်ဘီလူး မှာ ဤမျှ စောကြောနိုင်ခြင်းဖြစ်၏။

"အဆွေ ဟေမဝတ။ ငါတို့ဆရာ မြတ်စွာဘုရားဟာ ကာမဂုဏ် တရားတွေမှာ တပ်စွန်းသူ မဟုတ်ဘူး။ စိတ်လည်း မနောက်ကျုဘူး။ မောဟအားလုံးကို လွန်မြောက်ပြီးတော့ တရားအရာမှာ ပညာမျက်စိ ရှိတော်မူတယ် အဆွေ"

"အချင်း သာတာဂိရ။ ခင်ဗျားတို့ရဲ့ဆရာ မြတ်စွာဘုရားဟာ ဝိဇ္ဇာသုံးပါးနဲ့ပြည့်စုံရဲ့လား။ စင်ကြယ်တဲ့ အကျင့်ရှိသူ ဖြစ်ရဲ့လား။ အာသဝေါ ကုန်ခန်းပြီးလား။ ပဋိသန္ဓေ နောက်ထပ်တစ်ဖန် မနေတော့သူကော ဟုတ်သလား"

ကာဠီသည် နတ်ဘီလူးတို့၏စကားတွင် စိတ်ဝင်စားလွန်းသဖြင့် ညောင်စောင်းမှဆင်းပြီး လေသွန်ပြတင်းသို့ ရောက်လာပြီ။

"အဆွေ ဟေမဝတ။ ငါတို့ဆရာ မြတ်စွာဘုရားဟာ ဝိဇ္ဇာသုံးပါး နဲ့ ပြည့်စုံတော်မူတယ်။ စင်ကြယ်တဲ့အကျင့်ရှိတယ်။ အာသဝေါတရားတွေ ကုန်ခန်းခဲ့ပြီ။ အဲသည် ငါတို့ဆရာ မြတ်စွာဘုရားဟာ အသစ်တစ်ဖန် ပဋိသန္ဓေနေမှုလည်း မရှိတော့ဘူး"

ဟေမဝတ နတ်ဘီလူးစစ်သူကြီး လွန်စွာကျေနပ်နေစဉ် သာတာ ဂိရ က တိုက်တွန်း၏။

"အဆွေ ဟေမဝတ။ လာ သွားကြစို့။ ဧဏီဆိုတဲ့ သားကောင်ရဲ့ မြင်းခေါင်းမျိုးရှိတော်မူတဲ့၊ အင်္ဂါကြီးငယ်ပြည့်စုံပြီးတော့ ပါးလျတဲ့ ကိုယ် အင်္ဂါရှိတော်မူတဲ့၊ အတွင်းအပဘေးရန်ကို ဖျက်ဆီးတော်မူတဲ့၊ တစ်ထပ် တည်းသာ စားတဲ့အတွက် နည်းသောအာဟာရ ရှိတော်မူတဲ့၊ အာဟာရအရာ မှာ လျှပ်ပေါ်မှုကင်းစင်းတော်မူတဲ့ အနာဂါရမုနိ ဖြစ်တော်မူပြီး ဈာန်ဝင်စား တော်မူလေ့ရှိတော်မူတဲ့ မြတ်စွာဘုရားကို ဖူးမြော်ဖို့ သွားကြစို့"

"ကောင်းတယ်။ ခြင်္သေ့မင်းနဲ့ တူတော်မူတဲ့ ကိလေသာအဖော်မမှီး တစ်ကိုယ်တည်း နေတော်မူလေ့ရှိတဲ့ ဘဝသစ်ကို တစ်ဖန် မသွားတော့တဲ့၊

ကာမဂုဏ်မှာ ငဲ့ကွက်မှု ရှိတော်မမူတဲ့ အဲသည်မြတ်စွာဘုရားရဲ့ ထံတော်ရင်းမှာ ဝပ်စင်းပြီး သေမင်းရဲ့ကျော့ကွင်းက လွတ်မြောက်ရာဖြစ်တဲ့ နိဗ္ဗာန်ကို မေးလျှောက်ကြစို့"

ဟေမဝတနတ်ဘီလူး၏ ဝမ်းမြောက်ဝမ်းသာတုံ့ပြန်သံအဆုံးတွင် အချီအချ မေးမြန်းပြောဆိုသံများ ပျောက်ကွယ်သည်။ ရာဇဂြိုဟ်မြို့၏ လပြည့်ညသည် တိတ်ဆိတ်စွာ သာယာရွှန်းဝင်းလျက် ကျန်ခဲ့သည်။

ကာဠီကုရ ရဃရိယာမှာလည်း ငြိမ်သက်စွာ ကျန်ရစ်သည်။

"မြတ်စွာဘုရားဟူသည် ဤကဲ့သို့သော ဂုဏ်တော် အထူးထူးတို့ဖြင့် ပြည့်စုံပါတကား"

ကာဠီမှာ သမ္မာသမ္ဗုဒ္ဓ ဓမ္မရာဇ် မြတ်ရှင်ချစ်လျှင် အာရုံရှိသော နှစ်သက်ခြင်းပီတိဖြစ်လျက် ထိုပီတိဖြင့် အပိတ်အဖုံး နိဝရဏတို့ကို ခွာချ၍ ထိုနေရာမှာပင် သောတာပတ္တိဖိုလ်၌ တည်လေ၏။

သုံးလူ့မြတ်စွာ ဇေတဝန်သည် နောင်အခါတွင် မြတ်စွာဘုရားအား မဖူးမြင်ရပါဘဲလျက် တစ်ဆင့်စကားကြားရုံဖြင့် သောတာပန်တည်သော ကာဠီကုရ ရဃရိယာ၏ ဤအကြောင်းကို အကြောင်းပြုလျက်၊

"ရဟန်းတို့၊ တစ်ဆင့်စကားဖြင့် ကြည်ညိုခြင်းရှိကုန်သော ငါ၏ သာဝိကာ ဥပါသိကာတို့တွင် ကုရ ရဃရမြို့သူ "ကာဠီကုရ ရဃ ရိယာ" သည် အမြတ်ဆုံး ဖြစ်၏"

ဟူ၍ 'အဂ္ဂအနုဿဝပ္ပသန္န' တေဒဂ် ထားတော်မူ၏။

ကာဠီကုရ ရဃရိယကား ဥပါသိကာမတို့တွင် ရှေးဦးစွာ သောတာပန်တည်သူဖြစ်ပြီး သောတာပန်များတွင်လည်း အကြီးဆုံးပေတည်း။



# နိဂုံးဝန္ဒနာ

ထေရဝါဒ ဗုဒ္ဓဘာသာဝင် အမျိုးသမီးများသည် မည်ကာမတ္တမိန်းမသားများ မဟုတ်။ကြီးကျယ်မြင့်မြတ်သော မိန်းမများဖြစ်ကြောင်းကို ‘ဗုဒ္ဓ၏ ဧတဒဂ်ရ အမျိုးသမီးများ’ စာစုဖြင့် သက်သေထူခဲ့ ပြီးပါပြီ။

ဤစာစုကို ပြုစုရာ၌၊

၁။ ထေရာ ထေရီ ဂါထာများ။

၂။ မြို့မိဆရာတော် ဦးဇေယျသေန၏ ‘ထေရီအပဒါန်ဝတ္ထု’။

၃။ လယ်တီပဏ္ဍိတ ဦးမောင်ကြီး၏ ‘ထေရီဘာသာပြန်’။

၄။ ဦးသော်ဇင်၏ ‘ဧတဒဂ်ဝတ္ထု’။

၅။ ဓိနတ္ထပကာသနီကျမ်း။

၆။ ဓမ္မပဒ ငါးတွဲ

တို့ကို မှီခိုပါသည်။

ဤစာစုကို ဖတ်ရှုကြရသော အမျိုးသမီး ကြီး ငယ် ရွယ် လတ်တို့မှာ မြင့်မြတ်သော စိတ်ဓာတ်များ ကိန်းအောင်းလာလိမ့်မည်ဟု ယုံကြည်ပါသည်။

ဧတဒဂ်ရ ထေရီအရှင်မ တစ်ပါး၊ ဧတဒဂ်ရ အမျိုးသမီး ဥပါသိကာတစ်ယောက် ဖြစ်လာရန်မှာ လွယ်လွယ်နှင့် မရ၊ ပေါ့ပေါ့နှင့် မရကြောင်းကိုလည်း သဘောပေါက်ကြ တန်ရာပါသည်။ သို့ဖြစ်သဖြင့် ဒါန၊ သီလ၊ ဘာဝနာမှုတို့၌ ကြိုးစားအားထုတ် ဆည်းပူးကြရပါလိမ့်မည်။

ဤစာစုကို ပြုစုရာ၌ ပုခက်လွှဲသောလက် ပိုင်ရှင်များ၊ အသိ

တိုးပွား စိတ်ထားမြင့်မြတ်ရေးကို ရည်ရွယ်ပါသည်။

ဤကဲ့သို့ စေတနာမွန်ဖြင့် ပြုစုရသောအကျိုးအားကြောင့်....

အနန္တငါးပါးဂုဏ်ကျေးဇူးကို အထူးသိသော ယောကျာ်းကောင်း ယောကျာ်းမြတ် ဖြစ်ရပါလို၏။

အမျိုးကို လည်းကောင်း၊ ဘာသာကို လည်းကောင်း၊ သာသနာကို လည်းကောင်း ညစ်နွမ်းအောင် ပြုသူ မဖြစ်ရပါလို၏။

သူ၏ကျေးဇူး အထူးသိသူ ဖြစ်ရပါလို၏။

ဟိရိဩတ္တပ္ပတရားကိုလည်းကောင်း၊ ဂါရဝ တရားကိုလည်းကောင်း ကောင်းစွာနားလည် စောင့်ထိန်းနိုင်သူ ဖြစ်ရပါလို၏။

ဟိရိဩတ္တပ္ပတရား ကင်းမဲ့သူများ၊ ဂါရဝ တရား ကင်းမဲ့သူများ၊ သူ၏ကျေးဇူးကို မသိတတ်သူများနှင့် ဝေးရပါလို၏။

အဆုံးစွန်သော ဘဝ၌ သံသရာဝဋ်ဆင်းရဲမှ လွတ်မြောက်ရပါလို၏။ ။

ဦးအောင်သိမ်းမြတ်
(ဆင်ဖြူကျွန်းအောင်သိန်း)

၁၃၆၃ ခုနှစ် ပြာသိုလဆန်း ၇ ရက်
၂၀၊ ၂၊ ၀၂
တနင်္ဂနွေနေ့

ပုဂံစာအုပ် အမှတ် ၂၆၁

# ကျိန်စာသင့်သောမျက်နှာများ၏ မိတ္တူ

## (ကဗျာများ)

## **မျိုးကိုမျိုး**

(စာမူခွင့်ပြုချက် - ၃၇/၂၀၀၃)(၇)

သွားမယ်၊
ချပ်ဝတ် တန်ဆာတွေ ဝတ်ဆင်လိုက်၊
ရင်ဆိုင်ရမယ့် ရန်သူဟာ
လဂွန်းအိမ်တွေချည်းပဲဆိုရင်
ရှုံးနိမ့်တဲ့ စစ်ပွဲတစ်ရာမှာ
အခါတစ်ရာ ငါသေဖို့အတွက်
အားလုံးကို အပြုံးနဲ့ ကြိုနှုတ်ဆက်
သွေးစက်များက ပြောသောသမိုင်း
တို့ ရာဇဝင်တွေ မရိုင်းဘူးကွဲ့။




အခန်း ၁၃၊ တိုက် ၂၅၇၊ ရန်ကင်းမြို့နယ်၊
ရန်ကုန်မြို့။ ဖုန်း ၀၁-၇၂၁၁၂၄

ပုဂံစာအုပ် အမှတ် ၂၆၂

‘ အဲဒီတုန်းက ရုပ်ရှင်လောက နောက်ခံ’
‘ ရိုးသားတဲ့ အနုပညာသမားတို့ရဲ့ ဘဝ’
‘လူကြမ်းမင်းသား ဆိုတာ....’

# တိမ်တိမ်တွေဖုံးပါလို့ အုန်းခြိမ့်ခြိမ့်ညံ

## ချစ်ဦးညို

(စာမူခွင့်ပြုချက် - ၉၆၄/ ၂၀၀၃)(၇)




အခန်း ၁၃၊ တိုက် ၂၅၇၊ ရန်ကင်းမြို့နယ်၊
ရန်ကုန်မြို့။ ဖုန်း ၀၁-၇၂၁၁၂၄

■ အမျိုးသမီးများသည် အမျိုးသားများနည်းတူ မဂ်ဖိုလ်နိဗ္ဗာန်သို့ သွားနိုင်ရုံ သာမက ဈာန်အဘိညာဉ်ရ ရဟန္တာမကြီးတွေလည်း အထင်ကရ ဖြစ်ခဲ့ ကြ၏။

■ သာသနာတော်၌ အမျိုးသမီးများသည် သာမန် ဘိက္ခုနီများသာ မဟုတ်၊ ဆိုင်ရာဂုဏ်ပုဒ်ရှိသူတို့တွင် အထူးမြတ်ဆုံးပုဂ္ဂိုလ်၊ ထိပ်ဆုံးပုဂ္ဂိုလ်အဖြစ် ဧတဒဂ်ရရှိသူများလည်း ရှိခဲ့ပါသည်။

■ အရာဌာန ၁၃ရပ်၌ ဧတဒဂ်ရသော ရဟန္တာအရှင်မကြီးများ ပေါ်ပေါက် ခဲ့ကြောင်း သိကြစေလိုသော စေတနာဖြင့် ဤစာကို ပြုစုခဲ့သည်။

ဦးအောင်သိမ်းမြတ်
(ဆင်ပြုကျွန်းအောင်သိန်း)

ဗုဒ္ဓ၏ ဧတဒဂ်ရ
ရဟန္တာ ထေရီအရှင်မ ၁၃ပါးနှင့်
ဥပါသိကာ ၁၀ပါးတို့၏ ဖြစ်စဉ်အကြောင်းများ။